ပြိုင်ပွဲဝင် ပထမဆုရစာအုပ်



ပန်းချီ ကျော်မြင့်

# ထေရဝါဒ ဗုဒ္ဓဘာသာ

ဓရုစကြို အရှင်ဓဒိက

ဒုတိယအကြိမ်



# ရေစကြို အရှင်ဧသိက

ဆရာတော် အရှင်ဧသိကလောင်းလျာကို မကွေးတိုင်း၊ ရေစကြိုမြို့နယ်၊ ကြခတ်ရွာ၌ မြန်မာသက္ကရာဇ် ၁၃၀၃–ခုနှစ်၊ နတ်တော်လဆန်း ၁၃–ရက်၊ တနင်္ဂနွေနေ့တွင် ဖွားမြင်ခဲ့သည်။ အဖ ဦးကြား၊ အမိ ဒေါ်မြမေတို့၏ ဆဋ္ဌမမြောက်သား ဖြစ်သည်။

ငယ်စဉ်ကပင် ဘုန်းတော်ကြီးကျောင်းတွင် ဆယ်စောင်တွဲ၊ ဇာတ်ကြီး ဆယ်ဘွဲ့၊ ဗုဒ္ဓဝင် စသည့် စာပေကျမ်းဂန်များကို သင်ကြား ဖတ်မှတ်လေ့လာခဲ့သည်။ အသက် ၁၁–နှစ်အရွယ်တွင် သာမဏေပြုခဲ့ပြီး ၄–ဝါအရတွင် ရေစကြိုမြို့သို့ ပြောင်းရွှေ့ခဲ့သည်။ ထို့နောက် သက္ကတ၊ ဟိန္ဒီ၊ အင်္ဂလိပ်၊ ပျူ စသော ရှေးစာပေကျမ်းများ၊ ပါဠိ ပိဋကတ် သုံးပုံကျမ်းနှင့် ရှေးဟောင်း မြန်မာစာကဗျာတို့ကို သင်ယူကျက်မှတ် လေ့လာခဲ့သည်။

ဆရာတော် ဦးဧသိကသည် သာသနာ့ဝန်ထမ်းဖြစ်သည့်အလျောက် သာသနာရေးဆိုင်ရာ ပရိယတ္တိလုပ်ငန်းကို စွမ်းအားရှိသလောက် ဆောင်ရွက်လျက် ရှိပါသည်။ စာပေသင်တန်း၊ စာပေပြိုင်ပွဲ၊ ဗုဒ္ဓဘာသာယဉ်ကျေးမှုသင်တန်းများကိုလည်း ဟောပြောပို့ချလျက်ရှိပါသည်။

ဆရာတော်သည် အမျိုး–ဘာသာ–သာသနာဆိုင်ရာ ဇာတိမာန် ဖြစ်ပေါ်စေရေး ရည်သန်ချက်ဖြင့် ကျောက်ခေတ်၊ ပျူခေတ်၊ ပုဂံခေတ်၊ အင်းဝခေတ်တို့ကို အခြေခံ၍ ၁၉၇၉–ခုနှစ်မှစပြီး သုတ ရသဝတ္ထုရှည်များကို ငွေတာရီ၊ မြဝတီ၊ ပေဖူးလွှာ၊ သဘင် စသော မဂ္ဂဇင်းများတွင် 'ဘုန်းနွယ်' ကလောင်အမည်ဖြင့် ရေးသားခဲ့သည်။

ယနေ့အထိ ပုံနှိပ်ကဗျာပုဒ်ရေ ၂၀–ခန့်၊ ဝတ္ထုတို ၁၀–ပုဒ်၊ မဂ္ဂဇင်း ဝတ္ထုရှည် ၂၀–ပုဒ်၊ ဆောင်းပါးပုဒ်ရေ (၁၂၀)ကျော်၊ ရွှေမုဋ္ဌော လေးမျက်နှာ ဘုရားသမိုင်း၊ ကမ္မဋ္ဌာန်းဆရာတော် ဘုရားကြီး၏ ဂုဏပူဇာကဗျာများ၊ အရှင်အရိယဝံသ၏ ထေရုပ္ပတ္တိကဗျာများ စသည်တို့ကိုလည်း ရေးသားခဲ့သည်။ ထို့ပြင် 'မြန်မာနှင့် ဝေါဟာရစစ်တမ်း' ကျမ်းစာမူကြီးနှင့် ရဟန်း စာဆိုတော်များ အတ္ထုပ္ပတ္တိစာမူကိုလည်း ရေးသားခဲ့ပါသည်။

ဆရာတော် ဦးဧသိကသည် ဘာသာသာသနာနှင့် စာပေတာဝန်များကို ထမ်းဆောင်ရင်း ရေစကြိုမြို့၊ အောင်မြေသာယာ သူဌေးတိုက်အတွင်းရှိ စ.ပေရောင်ခြည်ကျောင်းတိုက်၌ သီတင်းသုံးနေထိုင်တော်မူလျက် ရှိပါသည်။

('အရှင် ဧသိက (ဘုန်းနွယ်)၏ ရွှေရတုပုံရိပ်'မှ ထုတ်နှုတ် ဖော်ပြချက်)




ပညာပြည့်ဝ၊ နှလုံးလှသော်
ကိစ္စကြီးငယ်၊ ဆောက်သဖွယ်လျှင်
ကျဉ်းကျယ်ထွင်းဖောက်၊ ဖြတ်တောက်လိုရာ
ပြီးနိုင်စွာ၏။ (မဃာဒေဝ)

**ပုံနှိပ်မှတ်တမ်း**

၁၉၉၇၊ ဖေဖော်ဝါရီလ၊ ပထမအကြိမ်၊ အုပ်ရေ (၁၀၀၀)၊ ၁၅၀ကျပ်။
၁၉၉၈၊ ဩဂုတ်လ၊ ဒုတိယအကြိမ်၊ အုပ်ရေ (၅၀၀)၊ ၂၀၀ကျပ်။
စာမူခွင့်ပြုချက် – ၅၀/၉၈(၈)
မျက်နှာဖုံးခွင့်ပြုချက် – ၃၀/၉၈(၈)

**မျက်နှာဖုံးပန်းချီ**

ကျော်ဖြူစံ

**မျက်နှာဖုံးရိုက်**

မေတ္တာမိုးပုံနှိပ်တိုက်၊ အမှတ်–၂၂၊ ဓမ္မဝိဟာရလမ်း၊ ကျောက်မြောင်း၊
ရန်ကုန်မြို့။

**ကာလာခွဲ ဖလင်**

ဦးထွန်းဆိုင်

**အတွင်းပုံနှိပ်နှင့်ထုတ်ဝေသူ**

ဦးရွှေထွန်းအောင်– လုပ်အားပုံနှိပ်တိုက်(၀၂၀၇)၊ နလုံးလှစာပေ (၀၁၅၂၂)
အမှတ် ၅၊ လမ်း ၁၀၀၊ မင်္ဂလာတောင်ညွန့်၊ ရန်ကုန်မြို့။

**ကွန်ပျူတာစာစီ**

**ACA**

(၈)/၁၄၀၊ ဥက္ကာ(၅)လမ်း၊ မြောက်ဥက္ကလာပ။
ဖုန်း– ၆၉၉၅၁၈၊ ၆၉၉၆၆၉ ၊ ၆၉၉၅၁၁၊ ၆၉၉၈၁၂။

**စာအုပ်ချုပ်**

ကေရီ

# ထေရဝါဒ ဗုဒ္ဓဘာသာ

## ရေစကြို အရှင်ဇောတိက




**နှလုံးလှစာပေ ဖြန့်ချိရေး**

အမှတ် ၅၊ လမ်း ၁၀၀၊ လွတ်လပ်ရေးရပ်ကွက်၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊
(၁၁၂၂၁) ရန်ကုန်မြို့။

စာတိုက်သေတ္တာ (၈၇)၊ ဗဟိုစာတိုက်ကြီး၊ ကမ်းနားလမ်း၊ ရန်ကုန်မြို့။
ဖုန်း-(၀၁) ၂၉၀၉၈၁

# မာတိကာ

# မာတိကာ

# မာတိကာ

# မာတိကာ

# ဤစာအုပ် ဖြစ်ပေါ်လာခြင်း

၁၉၉၆၊ ဖေဖော်ဝါရီလထုတ်နှင့် မတ်လထုတ် ဓမ္မရံသီမဂ္ဂဇင်း ဓမ္မရတနာ မဂ္ဂဇင်းနှစ်စောင်တွင် (ထေရဝါဒ ဗုဒ္ဓဘာသာ)ခေါင်းစီးဖြင့် စာမူများပေးပို့ကြပါရန် မေတ္တာရပ်ခံ ဖိတ်ခေါ်ခဲ့သည်။ စိစစ်ရွေးချယ်ခြင်းခံရသည့်စာမူအတွက် ဉာဏ်ပူဇော် ခအဖြစ် ကျပ်ငွေ သုံးသောင်း ချီးမြှင့်မည်ဖြစ်ကြောင်းနှင့် စာအုပ်အဖြစ် စီစဉ် ထုတ်ဝေပြီး သီးခြား ဉာဏ်ပူဇော်ခ ထပ်မံချီးမြှင့်မည်ဖြစ်ကြောင်း ဖော်ပြခဲ့သည်။ စာမူရေးသားရာ၌ ပဓာန ပြုရမည့်အချက်များကိုလည်း ဖော်ပြခဲ့လေသည်။

ထိုဖော်ပြဖိတ်ခေါ် ချက်အရ စာပေပညာရှင် ၁၆-ဦးတို့က စာမူများ ရေးသား ပေးပို့ ကြလေသည်။ ဗုဒ္ဓဝါဒဆိုင်ရာ၌ ကျွမ်းကျင်သော ဝါရင့်စာပေပညာရှင်ကြီး သုံးဦးက လျှို့ဝှက်အမှတ်ပေးစနစ်ဖြင့် ဖတ်ရှုစိစစ်ပြီး ရွေးထုတ်ပေးကြသည်။

လျှို့ဝှက်အမှတ်ပေးစနစ်ဆိုသည်မှာ ရောက်ရှိလာသော စာမူများတွင် အမည်နှင့် နေရပ်လိပ်စာ မပါရှိစေဘဲ သင်္ကေတတစ်မျိုးစီဖြင့် မှတ်သားထားပြီး စာမေးပွဲအဖြေလွှာ၌ ခုံနံပါတ်ကိုသာ ရေးထည့်ရသကဲ့သို့ဖြစ်၏။

ဖတ်ရှုစိစစ် ရွေးချယ်ပေးသည့် ဝါရင့်စာပေပညာရှင်ကြီးများမှာ ဓမ္မာစရိယ ဦးသောင်းလွင်၊ ဓမ္မာစရိယ ဦးမောင်မောင်လေး၊ ဓမ္မာစရိယ ဦးဌေးလှိုင်တို့ ဖြစ်သည်။

'ထေရဝါဒ ဗုဒ္ဓဘာသာ' စာမူများ ရေးသားပြုစုပေးပို့ကြသည့် စာပေ ပညာရှင် များကို ကျွန်ုပ်တို့ အကျိုးဆောင်အဖွဲ့က လှိုက်လှိုက်လှဲလှဲ ကျေးဇူးတင်ရှိ ပါကြောင်း ဤနေရာမှ အလေးအနက်ဖော်ပြလိုက်ရပေသည်။ ထိုစာပေပညာရှင်တို့သည် ဆုငွေ သုံးသောင်းကို ပဓာနမပြုကြဘဲ မြတ်ဗုဒ္ဓသာသနာတော်အကျိုး ဆောင်ရွက်သယ်ပိုးရန် အခွင့်အလမ်းပေါ်လာခိုက် မွန်မြတ်သောစေတနာဖြင့် ရေးသားပြုစုကြခြင်းဖြစ်ကြောင်း သိသာနိုင်ပေ၏။ စာမူများကို ဖတ်ရှုစိစစ် ရွေးချယ် ပေးကြသည့် ဝါရင့်စာပေ ပညာရှင်ကြီးတို့သည်လည်း ဗုဒ္ဓဝါဒ သန့်ရှင်းစင်ကြယ်ရေး ရှေးရှု၍ စေတနာထက်သန်စွာ ဖြင့် ကူညီဆောင်ရွက်ပေးကြခြင်းဖြစ်ရာ ကျွန်ုပ်တို့ လေးလေးမြတ်မြတ် ကျေးဇူးတင်ရှိ ပါကြောင်း ဖော်ပြလိုက်ရပေသည်။

× × ×

စိစစ်ရွေးချယ်ခြင်းကိစ္စတွင် ကျွန်ုပ်တို့အကျိုးဆောင်အဖွဲ့က တစ်စုံတစ်ရာ ပါဝင်မှုမျိုး အလျှင်းမရှိပါပေ။ ဆရာကြီးများ၏ ပေးမှတ်အသီးသီးအရ အမှတ် အများဆုံး ရရှိသည့် စာမူကို စာအုပ်အဖြစ် စီစဉ်ဆောင်ရွက်ကြရသည်။

ပေးထားသည့် အမှတ်များကို စိစစ်ကြည့်ရာ၌ ယခုဤစာအုပ်နှင့် အမှတ် ချင်း အနည်းငယ်မျှသာ ခြားနားချက်ရှိသော စာမူအချို့လည်း ပါဝင်ပေသည်။ ထိုစာမူများကို ကျွန်ုပ်တို့ ဖတ်ရှုကြည့်ရာ၌ ရေးသားပြုစုသူ စာပေပညာရှင်တို့အား များစွာပင် လေးစားမိတော့၏။ ဗုဒ္ဓသာသနာတော် စင်စင်ကြယ်ကြယ် တည်တံ့ ထွန်းလင်းရေးအတွက် လှုံ့လကြီးစွာဖြင့် စုဆောင်းလေ့လာထားသည်များကို ဆင်ခြင် မိသောကြောင့် ကျေးဇူးတင်မိ- လေးစားမိခြင်း ဖြစ်ပါ၏။

စာမူဆု ချီးမြှင့်မည့်သူ စေတနာရှင်က တစ်ဆုအတွက်သာ သတ်မှတ် ထားချက် ရှိခဲ့သည်။ 'အလားတူစေတနာရှင်များပေါ်ပေါက်လာလျှင် ကောင်းလေစွ'ဟု တောင့်တ မိပါ၏။ တဆက်တည်းပင် ဗုဒ္ဓသာသနာတော် သန့်ရှင်းစင်ကြယ်စွာ ထွန်းတောက်ရေး အတွက် များစွာအထောက်အပံ့ပြုနိုင်မည့် ဤစာမူကောင်းများကို အများပြည်သူတို့ ဖတ်ရှုနိုင်ရန် စာအုပ်အဖြစ် ထုတ်ဝေဖြန့်ချိပေးသူ စေတနာရှင် များ ပေါ်ပေါက်လာလျှင် ကောင်းလေစွဟု လိုလားတောင့်တမိပါ၏။

## စေတနာရှင်တစ်ဦး

ထေရဝါဒ ဗုဒ္ဓဘာသာစာမူအတွက် ဉာဏ်ပူဇော်ဆု ချီးမြှင့်လိုသူက သူ မည်သူဖြစ်ကြောင်း မထုတ်ဖော်ဘဲ စေတနာရှင်တစ်ဦးအဖြစ်နှင့်သာ ဖော်ပြရန် ဆန္ဒရှိနေ၏။ ကျွန်ုပ်တို့ကလည်း သူ့ဆန္ဒအတိုင်းသာ ဆောင်ရွက်လာခဲ့ပါ၏။ သို့သော် နောက်ပိုင်း၌ ထိုစေတနာရှင်တစ်ဦး၏အကြောင်းကို လေ့လာသိရှိလာရသောအခါ ထိုသူ၏ အမည်ရင်း နှင့်တကွ သူ၏သာသနာတော်အကျိုး သယ်ပိုး ဆောင်ရွက်မှုများကိုပါ ဖော်ပြသင့်ကြောင်း အကျိုးဆောင်အဖွဲ့က ဆင်ခြင်သုံးသပ် မိကြသည်။ ထို့ကြောင့် စေတနာရှင်ထံမှ သဘော တူညီမှုကို ရအောင်ယူပြီး အကျဉ်းချုပ်ဖော်ပြလိုက်ရပေသည်။

× × ×

ဓမ္မစာပေ ဖတ်ရှုလေ့ရှိသူတို့သည် မလေးငြိမ်ဟူသောအမည်ကို မှတ်မိနေမည်ဟု ထင်ပါ၏။ အထူးသဖြင့် ဓမ္မရံသီမဂ္ဂဇင်းနှင့် ဓမ္မရတနာမဂ္ဂဇင်းကို ဖတ်ရှု လေ့ရှိသော ဓမ္မမိတ်ဆွေတို့သည် မလေးငြိမ်အမည်နှင့် ရင်းနှီးပြီးဖြစ်ပါလိမ့်မည်။ စေတနာရှင် တစ်ဦးဆိုသည်မှာ ထိုမလေးငြိမ်ပင်ဖြစ်၏။ ဆက်လက်တင်ပြရသော် -

ထားဝယ်မြို့ ဦးစံဆင်၊ ဒေါ်လွန်းတို့၏ သားသမီး ၄-ယောက်အနက် အငယ်ဆုံး သမီး၊ အမည်ရင်း မဆွေဆွေသက်။

၁၉၇၀ပြည့်နှစ်တွင် ရန်ကုန်တက္ကသိုလ်မှ B.Sc (Maths) ဘွဲ့ရရှိခဲ့သည်။ ဝါသနာပါရာ စာပေနယ်သို့ဝင်ရောက်ကာ ဝတ္ထု - ကဗျာများ ရေးသားခဲ့သည်။ ထို့နောက် ကျူရှင် ကျောင်းဆရာ အဖြစ် ဆယ်နှစ်ခန့် ဦးစီးဆောင်ရွက်ခဲ့သည်။ ထိုစဉ်က တပည့် သင်တန်း သား သင်တန်းသူများကို ဗုဒ္ဓဘာသာအခြေခံ ယဉ်ကျေးမှု သင်တန်းများ စေတနာ့ဝန်ထမ်း

ဖွင့်လှစ်ပို့ချပေးခဲ့ရာ အထူးအောင်မြင်ခဲ့သည်။

ဖခင်ဖြစ်သူမှာ တရုတ်လူမျိုး၊ နိုင်ငံခြားသားဖြစ်၏။ မိခင်မှာ တရုတ်-မြန်မာ ကပြား ဖြစ်၏။ ထေရဝါဒ ဗုဒ္ဓဘာသာဝင်များမဟုတ်ကြ။ မဟာယာနဗုဒ္ဓဘာသာ ယုံကြည်ကိုးကွယ်သူများ ဖြစ်၏။ မဆွေဆွေသက်မှာ မဟာယာန မိသားစုအရိပ်အောက်တွင် ကျင်လည်ခဲ့ရသူဖြစ်သော်လည်း စာပေဖတ်ရှုမှု များပြား အားသန် ရင့်ကျက်လာပြီး ဘာသာရေးစာပေများကို ဖတ်ရှုလေ့လာမိသောအခါ ဗုဒ္ဓဝါဒ ဗုဒ္ဓဘာသာအပေါ် အထူး စိတ်ဝင်စားလာ၏။ ထို့နောက် ဗုဒ္ဓဘာသာကို နှစ်နှစ်ကာကာ အလေးအနက် ယုံကြည်သူ ဖြစ်လာပြီး ယခုအခါ၌မူ လောက စည်းစိမ် လောကီဂုဏ်အားလုံးကို ကျောခိုင်းကာ ဗုဒ္ဓ သမီးတော် သီလရှင်ဘဝသို့ အပြီးအပိုင် ကူးပြောင်းလာခဲ့ပြီဖြစ်သည်။

ဤမျှဆိုလျှင် စေတနာရှင်တစ်ဦးကို ကျွန်ုပ်တို့ ဘာ့ကြောင့် ဖော်ထုတ်ရခြင်း ဖြစ်ကြောင်း ဆင်ခြင်သုံးသပ်မိကြမည်ဟု မျှော်လင့် ရပေသည်။

ဆရာလေး မလေးငြိမ်သည် အမျိုးသမီးများ ဗုဒ္ဓသာသနာပြုအဖွဲ့၊ ကလျာဏမိတ္တ အဖွဲ့ကို ဦးဆောင်ဦးရွက်ပြု၍ သာသနာ့အကျိုးပြု လုပ်ငန်းများကို ကြိုးကြိုးပမ်းပမ်း ဆောင်ရွက်လျက်ရှိနေ၏။ ၁၉၉၆-ခုနှစ်ကုန်ပိုင်းအထိ ၅-နှစ် အတွင်း ကလျာဏမိတ္တအဖွဲ့၏ သာသန ပစ္စယာနုဂ္ဂဟ အလှူများမှာ အမျိုးအမည် စုံလင်လှသည်။ ပရိက္ခရာရှစ်ပါးအလှူ၊ ရဟန်းခံ-ရှင်ပြုအလှူ၊ သိမ်၊ ကျောင်း၊ တန်ဆောင်း၊ မွှာရုံ၊ ပရိဘောဂ၊ ပိဋကသုံးပုံ ပါဠိတော်နှင့် မြန်မာပြန်စာအုပ်အစုံ၊ သီလရှင်များဆေးရုံကို ဦးဆောင်၍ ဆောက်လုပ် လှူဒါန်းခြင်း၊ လမ်း၊ တံတား၊ ရေ မီးအလှူ- စသည်တို့ဖြစ်သည်။ ထို ၅-နှစ်ကာလ အလှူများ အတွက် ကုန်ကျငွေမှာ ရှစ်သိန်းခွဲကျော်ဖြစ်သည်။

ထို့ပြင် ကလျာဏမိတ္တအဖွဲ့က ၁၉၉၇၊ ဖေဖော်ဝါရီလတွင် ဖားအောက် တောရ ရိပ်သာကျောင်း ဆွမ်းအလှူအတွက် ကျပ်ငွေတစ်သောင်း၊ မှော်ဘီ သာသနာ့ဝန်ဆောင် ကျောင်းတိုက် ဆွမ်းပဒေသာပင်အတွက် ကျပ်ငွေတစ်သောင်း၊ အိန္ဒိယနိုင်ငံ၊ မိဂဒါဝုန်၌ ဒေါက်တာ အရှင်ဂန္တိရပုဒ္ဓိ တည်ထောင်သော သာသနာပြုကျောင်းတိုက် အတွက် မြေအလှူ ကျပ်ငွေ တစ်သောင်းတို့ကို လှူဒါန်းမည်ဖြစ်သည်။

ထို့အပြင် ကလျာဏမိတ္တအဖွဲ့၏ ခေါင်းဆောင်ဖြစ်သူ ဆရာလေး မလေးငြိမ် က သူ၏မွေးနေ့ ရွှေရတုနှစ်ကျရောက်သော ၁၉၉၇၊ ဖေဖော်ဝါရီလတွင် သီးခြား ဒါနမှုပြုရာ၌ ထားဝယ်မြို့ သီလရှင်များဆေးရုံအတွက် ကျပ်ငွေတစ်သောင်း၊ ကလျာဏမိတ္တအဖွဲ့သို့ ကျပ်ငွေငါးထောင်၊ စတုဒိသာ သံဃိကကျောင်းဆောင် မွမ်းမံ ပြုပြင်ရန်အတွက် ကျပ်ငွေလေးသောင်း၊ မှော်ဘီ သာသနာ့ဝန်ဆောင်ကျောင်းတိုက် ၌ မွေးနေ့ဆွမ်းအလှူ ကျပ်ငွေတစ်သောင်း၊ 'ထေရဝါဒ ဗုဒ္ဓဘာသာ'စာအုပ် ဖြစ်ပေါ် လာရေးအတွက် စာမူပြိုင်ပွဲ ဖိတ်ခေါ်၍ ဉာဏ်ပူဇော်ခြင်းနှင့် အထွေထွေအလှူ ကျပ်ငွေလေးသောင်းငါးထောင်- တို့ကို

သီးခြားဒါနပြုလေသည်။

ဆရာလေး မလေးငြိမ်သည် မွေစာပေများ ရေးသားရာ၌ ဥဏ်ပူဇော်ခငွေ ကို ကိုယ်ကျိုးအတွက် သုံးစွဲခြင်း အလျှင်းမရှိ။ ၁၉၉၆-ခုနှစ်အတွင်း မွေရံသီမဂ္ဂဇင်း နှင့် မွေရတနာမဂ္ဂဇင်းတို့မှ စာမူခငွေနှင့် 'ဘဝ၏ကနှစ်သာရ မွေစာစု' စာအုပ် အတွက် စာမူခငွေ စုစုပေါင်း ငါးသောင်းကျော်ကို အလုံးစုံပေးလှူသည်သာဖြစ်၏။ ယင်းသို့ အလှူဒါနပြုရာ၌ ဗုဒ္ဓသာသနာတော်အတွက် အထောက်အပံ့ပြုနိုင်ရေးကို သာလျှင် ပဓာနပြု ရွေးချယ် လှူဒါန်းလေသည်။

ယင်းသို့လျှင် ဆရာလေးမလေးငြိမ်သည် ဒါနမှုအစုစုကိုပြုလုပ်ရာ၌ မိဘ အမွေအနှစ်လည်းမဟုတ်၊ မိမိ လူ့ဝတ်ကြောင်ဘဝက ရှာဖွေစုဆောင်းခဲ့သည့် ငွေများလည်းမဟုတ်၊ ဒါယကာ ဒါယိကာမများ လှူဒါန်းသည့်ငွေနှင့် မိမိ ဆွမ်းဆန် ရပ်ရာမှ ရရှိလာသော ငွေများသာလျှင်ဖြစ်သည်။ သာသနာစိတ်ဓာတ်အခြေပြုသော ဘာသာသွေးစင်ကြယ်မှုကြောင့် 'စားဖို့မရှိ လှူဖို့ရှိ' သဘောမျိုးဖြင့် ကောင်းမှု၌ မွေ့လျော် ခြင်း သာလျှင်ဖြစ်၏။ စင်စစ်အားဖြင့် ဆရာလေးမလေးငြိမ်သည် စားဝတ် နေရေးတို့၌ ငြိုးငြိမ်ရောင့်ရဲစွာ နေထိုင်ကျင့်သုံးလျက်ရှိသူဖြစ်လေသည်။

မဟာယာန ဗုဒ္ဓဘာသာဝင်မိသားစုတွင် ကျင်လည်ကြီးပြင်းလာခဲ့ရသူတစ်ဦး က ထေရဝါဒ ဗုဒ္ဓဘာသာဝင်အဖြစ်သို့ ပီပီပြင်ပြင် ကြည်ကြည်လင်လင် ကူးပြောင်းရောက်ရှိ လာခြင်းနှင့် သာသနာစိတ်ဓာတ်နှင့် ဘာသာသွေးတို့ ထက်မြက်စင်ကြယ် ခြင်းတို့မှာ ဝမ်းပန်းတသာ ကြိုဆိုထိုက်သည့်အပြင် စံပြုဂုဏ်ယူထိုက်သည်ဟု သဘောရသဖြင့် အကျဉ်းချုပ် တင်ပြလိုက်ရပေသည်။ (မွေရံသီမဂ္ဂဇင်းတွင် အယ်ဒီတာတစ်ဦး ·တင်ပြ ထားသော 'မလေးငြိမ် ဘယ်သူလဲ'စာစုမှ ကောက်နုတ် ဖော်ပြချက်)

'ထေရဝါဒ ဗုဒ္ဓဘာသာ'စာအုပ်ဖြစ်ပေါ်လာရေးအတွက် အကျိုးဆောင်အဖွဲ့ က စေတနာ့ဝန်ထမ်း ဆောင်ရွက်ကြရာ၌ အကျိုးဆောင် ဒေါ်ဥမ္မာမြိုင်၏ စိတ်အား ထက်သန်စွာ အပင်ပန်းခံပြီး ပါဝင်ဆောင်ရွက်ပေးမှုကို မှတ်တမ်းတင်ဖော်ပြပါသည်။

လေးမြိုင်

အကျိုးဆောင်အဖွဲ့ကိုယ်စား

## ဓမ္မစာပေ အလင်းပွင့်

ထေရဝါဒ ဗုဒ္ဓဘာသာ စာပေဆု ညဏ်ပူဇော်ခြင်းအခမ်းအနားကို (၂၃-၂-၉၇) တနင်္ဂနွေနေ့၊ နေ့လည် တစ်နာရီ အချိန်တွင် ဗဟန်းမြို့နယ်၊ အာဇာနည်လမ်းရှိ ရှင်သာမဏေ ဓမ္မဗိမာန်၌ ကျင်းပခဲ့ပါသည်။

အခမ်းအနားကို 'နမောတဿ' ဘုရားရှိခိုးဖြင့် စတင်ဖွင့်လှစ်ခဲ့ပါသည်။ ပထမဦးစွာ အကျိုးဆောင်အဖွဲ့ဥက္ကဋ္ဌဖြစ်သူ ဓမ္မရံသီမဂ္ဂဇင်းနှင့် ဓမ္မရတနာမဂ္ဂဇင်း အယ်ဒီတာချုပ် ဆရာကြီး ဦးလေးမြိုင်က စာပေဆုဖြစ်ပေါ်လာပုံနှင့် ဤအခမ်းအနား ဖြစ်ပေါ်လာပုံအကြောင်းကို ရှင်းလင်းတင်ပြပါသည်။

ထို့နောက် စာပေဆုရရှိသော ကျမ်းပြုဆရာတော် ရေစကြို အရှင်သေိကအား စေတနာရှင် ဓမ္မစာပေကလောင်ရှင် မလေးငြိမ် (ဒေါ်ဥပသမာထေရီ)က ဓမ္မစာပေ ဂုဏ်ထူးဆောင်ဆုတံဆိပ် လက်မှတ်ကို ဆက်ကပ်ပူဇော်ပါသည်။

စာပေဆုအတွက် ငွေကျပ်သုံးသောင်းကို စေတနာရှင် မလေးငြိမ်ကိုယ်စား အကျိုးဆောင်အဖွဲ့အတွင်းရေးမှူးဖြစ်သူ ဒေါ်ဥမ္မာမြိုင်က စာမူဆုရှင်ကိုယ်စား ကပ္ပိယကာရက ဂီတပညာရှင် အဆိုတော် ဒေါ်မာမာအေးအား ပေးအပ်ပါသည်။

စာမူအတွက် ညဏ်ပူဇော်ခငွေ ကျပ်သုံးသောင်းကို အကျိုးဆောင်အဖွဲ့ဝင် ဒေါ်အေးသန့်က ကျမ်းပြုဆရာတော်ကိုယ်စား ကပ္ပိယကာရက ဓမ္မစာပေကလောင်ရှင် မောင်ဝိဘဒ္ဒအား ပေးအပ်ခဲ့ပါသည်။



စာပေဆုရှင် ရေစကြို အရှင်သေိကကို စေတနာရှင်
မလေးငြိမ်က စာပေဆုဂုဏ်ပြုလက်မှတ် ဆက်ကပ်နေစဉ်



စာပေဆု ငွေကျပ်သုံးသောင်းကို စေတနာရှင်ကိုယ်စား ဒေါ်ဥမ္မာမြိုင်ကပေးအပ်၍ စာပေဆုရှင်ကိုယ်စား ဒေါ်မာမာအေးက လက်ခံရယူစဉ်



စာမူခ ငွေကျပ်သုံးသောင်းကို အကျိုးဆောင်ဖွဲ့ကိုယ်စား ဒေါ်အေးသန့်က ပေးအပ်၍ စာပေဆုရှင်ကိုယ်စား ဓမ္မကလောင်ရှင် မောင်ဝိဘာဓ္မက လက်ခံရယူစဉ်

ထို့နောက် စာရေးဆရာ ဒါရိုက်တာ ဆရာကြီး ဦးသုခက ဓမ္မကထာအနုမောဒနာပြုပေးပါသည်။ ဆရာကြီးဦးသုခ၏ အနုမောဒနာ ဥဒါန်းစကားပြီးဆုံးသည်နှင့် ကြွရောက်လာသော ရဟန်းရှင်လူ ဧည့်ပရိသတ်အပေါင်းတို့က သောင်းသောင်းဖြဖြ ဝမ်းသာလိုက်လှဲ သာဓု အနုမောဒနာ ပြုကြပါသည်။

အဆိုပါအခမ်းအနားသို့ ဓမ္မစာပေ ပညာရှင်များ၊ ဓမ္မရံသီမဂ္ဂဇင်းနှင့် ဓမ္မရတနာမဂ္ဂဇင်းတို့တွင် ရေးသားကြသည့် စာပေကလောင်ရှင်များ၊ ဖိတ်ကြားထားသည့် ဧည့်သည်တော်များ၊ ဓမ္မစာပေမွေ့လျော်သူများနှင့် အကျိုးဆောင်အဖွဲ့ဝင်များ စည်ကား သိုက်မြိုက်စွာ တက်ရောက်ခဲ့ကြပါသည်။

ပုသိမ်၊ ဟင်္သာတ၊ ဘိုကလေး၊ မော်ကျွန်း၊ ကျုံမငေး၊ သံဖြူဇရပ်၊ ရေစကြိုစသော ရပ်ဝေးနယ်ခြားမြို့နယ် အသီးသီးမှ ဓမ္မစာပေကလောင်ရှင့်များသည် ခရီးအလှမ်းဝေး သော်ငြားလည်း မြတ်နိုးတနာတက်ကြွရှင်လန်းစွာဖြင့် ဤအခမ်းအနားသို့ တက်ရောက် ခဲ့ကြပါသည်။



စာရေးဆရာ ဒါရိုက်တာ ဆရာကြီးဦးသုခက မွေ့ကထာအနုမောဒနာပြုစဉ်။



အကျိုးဆောင်အဖွဲ့ဥက္ကဋ္ဌ အယ်ဒီတာချုပ် ဦးလေးမြိုင်က စာပေဆုအကြောင်း ရှင်းလင်းတင်ပြစဉ်။

ဤအခမ်းအနားကို အကြောင်းပြု၍ တွေ့ဆုံကြုံကြိုက်ခွင့်ရကြသော မွေ့စာပေ ကလောင်ရှင်တို့သည် အချင်းချင်းဝမ်းမြောက်ဝမ်းသာစွာ မိတ်ဆက်ကြ၊ ရင်းနှီးနွေးထွေးစွာ ပြောဆို ဆွေးနွေးကြနှင့် ကြည်နူး ရင်ခုန်စဖွယ်ကောင်းလှသည့် အမှတ်တရ မြင်ကွင်းတစ်ခုလည်းဖြစ်ခဲ့၏။

အခမ်းအနားသို့ တက်ရောက်လာကြသော မွေ့စာပေ မွေ့လျော်သူများ၊ မွေ့စာပေ ဖန်တီးသူများတွင် အသက်အရွယ်အားဖြင့်လည်းကောင်း၊ ဂုဏ်အားဖြင့် လည်းကောင်း၊ ပညာအားဖြင့် လည်းကောင်း၊ အသက်မွေးဝမ်းကျောင်းအားဖြင့် လည်းကောင်း၊ နေထိုင်ရာ အရပ်ဒေသအားဖြင့်လည်းကောင်း အမျိုးမျိုးအဖုံဖုံ စုံလင်ကွဲပြားခြားနား လျက်ရှိစေကာမူ အားလုံးတွင် တူညီသော အချက်တစ်ချက် ရှိပါ၏။ ယင်း အချက်မှာ . . .

"ထေရဝါဒ ဗုဒ္ဓသာသနာတော်မြတ်ကို သန့်သန့်ရှင်းရှင်း ဝင်းဝင်းလက်လက် စင်စင်ကြယ်ကြယ် ထွန်းလင်း တောက်ပစေလိုသော 'သဒ္ဓါနှလုံးသားများ' ကိုယ်စီ ကိုယ်၌ ရှိနေကြခြင်းပင် ဖြစ်ပါ၏"



ကြည်နူးသဒ္ဓါ ဓမ္မသဝနမင်္ဂလာ





ထက်သန်တက်ကြွ ဆွေးနွေးကြသည်

ထေရဝါဒ ဗုဒ္ဓဘာသာသာစာအုပ် ဖြစ်ပေါ်လာခြင်းနှင့် စာပေဆုညာဏ်ပူဇော်ခြင်း အခမ်းအနားသည် ဓမ္မစာပေ ဖွံ့ဖြိုးရေးအတွက် မွန်မြတ်သော အစဉ်အလာသစ်တစ်ခုကို စတင်ပျိုးထောင်ခဲ့ခြင်း ဖြစ်သည်ဆိုက မှားအံ့မထင်ပါ။

ဓမ္မစာပေ မြတ်နိုးသူ၊ ဓမ္မဒ္ဓမ္မေ့လျော်သူ၊ ဘာသာသာသနာသွေး ပူနွေးသူတိုင်း ဤအစဉ်အလာကောင်းကို ဆက်လက်ရှင်သန်စေလိုသည့် သမ္မာဆန္ဒ ကိုယ်စီကိုယ်ငှ ထွန်းပနေလိမ့်မည်ဟု လှိုက်လှိုက်လှဲလှဲ ယုံကြည်မိပါသတည်း။

(ဓမ္မရံသီ မဂ္ဂဇင်းနှင့် ဓမ္မရတနာ မဂ္ဂဇင်းပါ မောင်မှတ်၊ မောင်သန္တတို့၏ ဆောင်းပါးများမှ ကောက်နုတ်ဖော်ပြပါသည်။)

ဦးမှာမြိုင်
(အကျိုးဆောင်အဖွဲ့ကိုယ်စား)

# ရည်ရွယ်ချက်

(၁) ထေရဝါဒ ဗုဒ္ဓဘာသာ သန့်စင်ရေး

(၂) ထေရဝါဒ ဗုဒ္ဓဘာသာ ပြန့်ပွားရေး

(၃) အတွေးအခေါ် အယူအဆ မှန်ကန်ရေး

(၄) စစ်မှန်သော ဗဟုသုတ ရရှိရေး

(၅) လူမျိုးဂုဏ် ဇာတိဂုဏ် မြင့်မားရေး။

# နိဒါန်း

ခေတ်အဆက်ဆက် ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးတို့သည် မိမိတို့ကိုယ်ကို "ဗုဒ္ဓဘာသာ မြန်မာလူမျိုး"ဟူ၍ အမွှမ်းတင်ပြောဆိုခဲ့ကြသည်။ ဤပြောဆိုချက်မှာ နှစ်ပေါင်း ၉၀၀-အတွင်း ခြွင်းချက်မရှိ မှန်ကန်ခဲ့ပါ၏။

မြန်မာတို့သည် အနော်ရထာမင်းလက်ထက် ကိုးကွယ်မှု သန့်စင်ရေးကို ဆောင်ရွက်ပြီးနောက် ဗုဒ္ဓဘာသာကို အဓိကထား၍ ကိုးကွယ်ဆည်းကပ်ခဲ့ကြပါသည်။ ဗုဒ္ဓဘာသာသည် ပထမနေရာ၌ ရှိနေခဲ့ပါသည်။

ဗုဒ္ဓဘာသာမြန်မာလူမျိုးဟူသော စကားဆိုရိုးမှာ မြန်မာနိုင်ငံ မြန်မာလူမျိုး တို့၏ ဘောင်အတွင်း၌ သုံးနှုန်းနေသောစကားဖြစ်ပါသည်။ ကမ္ဘာ့ဗုဒ္ဓဘာသာ အသိုင်းအဝိုင်း အနေဖြင့်မူ ပြည့်စုံလုံလောက်ခြင်း မရှိသေးပါ။ အဘယ်ကြောင့် ဆိုသော် မြန်မာတို့၏ ဗုဒ္ဓဘာသာနှင့်မတူသော အခြားဗုဒ္ဓဘာသာလည်း ရှိနေသော ကြောင့် ဖြစ်သည်။

ယနေ့ကမ္ဘာပေါ်တွင် ထင်ရှားသော ဗုဒ္ဓဘာသာ ၂-မျိုး ရှိနေပါသည်။ ယင်းတို့ မှာ -

(၁) ထေရဝါဒ ဗုဒ္ဓဘာသာ

(၂) မဟာယာန ဗုဒ္ဓဘာသာ

တို့ဖြစ်ပါသည်။

မြန်မာလူမျိုးတို့ ရည်ညွှန်းပြောဆိုနေသော ဘာသာမှာ 'ထေရဝါဒ ဗုဒ္ဓဘာသာ' ဖြစ်ပါသည်။

ထေရဝါဒဗုဒ္ဓဘာသာဟူသည် အဘယ်နည်း။

ဤကျမ်းသည် အထက်ပါမေးခွန်းကို ဖြေဆိုထားသောကျမ်းဖြစ်၏။

ထို့ပြင် ထေရဝါဒဗုဒ္ဓဘာသာထဲ၌ ရောနှောနေသော ပြင်ပအယူအဆများ ကိုလည်း လေ့လာတင်ပြထားပါသည်။

မြန်မာတို့သည် အချို့အကြောင်းရပ်များကို ထေရဝါဒ ဗုဒ္ဓဘာသာဟု ထင်မှတ်ကာ အစဉ်မပြတ် ဆည်းကပ်ကိုးကွယ်လာခဲ့ကြသည်။ အချို့လည်း မိရိုးဖလာ ယုံကြည်ချက်ဖြင့် အဆက်မပြတ် ကိုးကွယ်မှုများလည်း ရှိပါသည်။

ဤကဲ့သို့ ထေရဝါဒဗုဒ္ဓဘာသာနှင့် မပတ်သက်မယှက်နွယ်သော ရောနှော ကိုးကွယ်နေမှုများကို သမိုင်းဖြစ်စဉ်နှင့် ယှဉ်ကပ်၍ သုံးသပ် ရေးသားထားပါသည်။

ဤစာအုပ်ကို ဖတ်ရှုခြင်းဖြင့် ထေရဝါဒဗုဒ္ဓဘာသာမဟုတ်သော ယုံကြည်မှု အစုစုထဲက တစ်ခုခုကိုဖြစ်စေ ပယ်စွန့်နိုင်မည်ဆိုလျှင် ရေးသားရကျိုးနပ်ပါပြီ။

ရေစကြို အရှင်သေိက

# ထေရဝါဒ ဗုဒ္ဓဘာသာ
# (ပထမပိုင်း)

**နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။**

## အခန်း (၁)
## ထေရဝါဒနှင့် မဟာယာန

### ဗုဒ္ဓဖြစ်တော်စဉ် အကျဉ်း

ဘုရားအလောင်းတော် သိဒ္ဓတ္ထမင်းသားသည် ကပိလဝတ်ပြည် ဘုရင် သုဒ္ဓေါဒန မဟာရာဇာ၏မိဖုရားကြီး သီရိမဟာမာယာဒေဝီမှ မဟာသက္ကရာဇ် ၆၈-ခု၊ ကဆုန်လပြည့် သောကြာနေ့တွင် လုမ္ဗိနီမည်သော အင်ကြင်းတော၌ ဖွားမြင် တော်မူသည်။

အလောင်းတော်သည် အသက် ၁၆-နှစ်အရွယ်တွင် ယသောဓရာဒေဝီနှင့် အတူ နန်းမ ၃-ဆောင်၌ မင်းစည်းစိမ်ကို ၂၉-နှစ်အရွယ်အထိ ခံစားခဲ့သည်။ ထို့နောက် နိမိတ်ကြီး ၄-ပါးကို မြင်တော်မူ၍ သံဝေဂရတော်မူသဖြင့် တောဝနာသို့ ထွက်ကာ တရားမွေကျင့်ကြံခဲ့၏။ ဒုက္ကရစရိယဟုဆိုသော အကျင့်မျိုးကို ပင်ပန်းကြီး စွာ ကျင့်သုံးခဲ့၏။ တရားမှန်ကိုမရသဖြင့် မဇ္ဈိမပဋိပဒါကျင့်ထုံးဖြင့် ပြောင်းလဲကျင့်သုံး ခဲ့ရာ မဟာသက္ကရာဇ် ၁၀၃-ခု၊ ကဆုန်လပြည့် ဗုဒ္ဓဟူးနေ့တွင် ဘုရားအဖြစ်သို့ ရောက်တော်မူလေသည်။

ဘုရားအဖြစ်သို့ ရောက်တော်မူပြီးနောက် ကျွတ်ထိုက်သော ဝေနေယျ သတ္တဝါ လူနတ်ဗြဟ္မာတို့အား တရားရေအေးအမြိုက်ဆေးကို တိုက်ကျွေးတော်မူ၏။ ၄၅-နှစ် ကာလပတ်လုံး ဓမ္မဒေသနာတို့ကို ဟောကြားခဲ့သည်။ သက်တော် ၈၀-ပြည့်သောအခါ မဟာသက္ကရာဇ် ၁၄၈-ခု၊ ကဆုန်လပြည့် အင်္ဂါနေ့၌ ကုသိနာရုံပြည် မလ္လာမင်းတို့၏ အင်ကြင်းဟေမာ ဥယျာဉ်သာဝယ် ပရိနိဗ္ဗာန် ပြုတော်မူလေသည်။

## သက္ကရာဇ်ရှင်းချက်

မဟာသက္ကရာဇ် ဆိုသည်မှာ ဘုရားမပွင့်မီက ဘိုးတော်အဥ္စနမင်း တည်ထားသော သက္ကရာဇ်ကို ခေါ်သည်။

သာသနာသက္ကရာဇ် ဆိုသည်မှာ ဘုရားပရိနိဗ္ဗာန်ပြုပြီး၍ ပထမသင်္ဂါယနာ တင်သည့်နှစ်မှစ၍ ရေတွက်သောနှစ်ဖြစ်သည်။

မြန်မာသက္ကရာဇ်ဆိုသည်မှာ ပုပ္ပားစောရဟန်းမင်းလက်ထက် တည်ထားသော သက္ကရာဇ်ဖြစ်သည်။

ခရစ်နှစ်(ဘီ၊ စီ) ဆိုသည်မှာ ခရစ်မပေါ်မီနှစ်ကို ခေါ်၏။

ခရစ်နှစ်(အေ၊ ဒီ) ဆိုသည်မှာ ခရစ်တော်ပေါ်ပြီးနှစ်မှစ၍ ရေတွက်သည်။

သာသနာသက္ကရာဇ်သည် မြန်မာသက္ကရာဇ်ထက် ၁၁၈၂-နှစ် ကြီးသည်။ ခရစ်သက္ကရာဇ်ထက် ၅၄၄-နှစ် ကြီးသည်။ ခရစ်သက္ကရာဇ် (အေ၊ ဒီ)သည် မြန်မာသက္ကရာဇ်ထက် ၆၃၈-နှစ် ကြီးသည်။

ထို့ကြောင့် ဘုရားရှင် ပရိနိဗ္ဗာန်ပြုသောနှစ်ကို ခရစ်မပေါ်မီ ဘီစီ ၅၄၄-ဟု သာသနာ့သမိုင်းများက အတည်ပြုထား၏။ ကမ္ဘာ့သမိုင်းအဆိုနှင့် အနည်းငယ် ခြားနားမှု ရှိပါသည်။

## သံဃာဂိုဏ်းကွဲခြင်းအကြောင်း

ဘုရားရှင် ပရိနိဗ္ဗာန်ပြုပြီးနောက် တပည့်သား ရဟန်းသံဃာတို့သည် ဘုရားရှင်ဟောကြားသော ဒေသနာတို့ကို တစ်သဝေမတိမ်း လိုက်နာခဲ့ကြသည်။ ကျင့်ကြံခဲ့ကြသည်။ သာသနာတော်နှစ် ၁၀၀-သို့ ရောက်သောအခါ၌မူ ရဟန်းသားလောက၌ အတွေးအမြင်များ ပြောင်းလဲလာကြသည်။ သဘောတရားသစ်များ ပေါ်ပေါက်လာသည်။ ဗုဒ္ဓ၏ ဝိနယဥပဒေကို ပြင်ဆင်မှု ပြုလာကြသည်။

ထိုရဟန်းများမှာ ဝေသာလီပြည်မှ ဝဇ္ဇီပုတ္တကခေါ် ဝဇ္ဇီတိုင်းသား ရဟန်းများ ဖြစ်သည်။

ဝဇ္ဇီတိုင်းသား ရဟန်းတို့သည် ဘုရားရှင်၏ ဝိနည်းဒေသနာနှင့် ဆန့်ကျင်သော အဓမ္မဝတ္ထု ၁၀-မျိုးကို ပြင်ဆင်ကျင့်သုံးနေကြသည်။ ယင်းပုဂ္ဂိုလ်တို့ ပြင်ဆင်ကျင့်သုံးသော အဓမ္မဝတ္ထုများမှာ ဤသို့ဖြစ်၏။

(၁) သင်္ဂီလောဏကပ္ပ။ ။သားချိုဘူးထဲ၌ထည့်၍ဆောင်ထားအပ်သော ဆားကို နေ့စဉ် ဆွမ်းစားတိုင်း ရောနှော၍စားနိုင်သည်ဟု ပြင်ဆင်သည်။

(ရဟန်းတော်တို့သည် မိမိတို့ဘာသာ သိမ်းဆည်း၍ နောက်ရက်ရောက်မှ ဆွမ်းနှင့်ရော၍ သုံးဆောင်လျှင် ပါစိတ်အာပတ်သင့်၏။)

(၂) ဒွင်္ဂုလကပ္ပ။ ။ မွန်းတည့်ပြီးနောက် နေရိပ်လက်နှစ်သစ်လွန်သည်အထိ ရဟန်းများ ဆွမ်းစသော အာဟာရကို သုံးဆောင်နိုင်သည်ဟု ပြင်ဆင်သည်။

(ရဟန်းတော်တို့သည် မွန်းတည့်ပြီးနောက် ဘောဇဉ်အာဟာရကို သုံးဆောင်လျှင် ဝိကာလဘောဇနေသိက္ခာပုဒ်အရ ပါစိတ်အာပတ်သင့်၏။)

(၃) အာဝါသကပ္ပ။ ။ သိမ်တစ်ခုအတွင်း၌ပင် ကိုယ့်အုပ်စုနှင့်ကိုယ် တစ်ဖွဲ့စီခွဲ၍ သံဃာ့ကံများ ပြုလုပ်နိုင်သည်ဟု ပြင်ဆင်သည်။

(ဝိနည်းဒေသနာအရ သိမ်တစ်ခုအတွင်းမှာ သံဃာညီညွတ်မှုကို ပြရန် ရဟန်းတစ်ပါးနှင့်တစ်ပါး တစ်တောင့်ထွာ ဟတ္ထပါသ်စပ်အောင် ထိုင်ကြရသည်။ ကိုယ့်အုပ်စုနှင့်ကိုယ် သံဃာ့ကံပြုလုပ်ပါက ကံပျက်သည်။ သံဃာကွဲပြားနေသောကြောင့် အာပတ်သင့်သည်။)

(၄) အနုမတိကပ္ပ။ ။ သံဃာ့အစည်းအဝေးပြုလုပ်ရာတွင် သံဃာစုံအောင်မစောင့်ဘဲ နောက်မှရောက်လာသောသံဃာ့ထံမှ သဘောတူညီချက်ကို နောက်မှရယူမည်ဟုကြံရွယ်၍ အလျင်ရောက်နှင့်သော သံဃာများက သံဃာ့ကံပြုနိုင်သည်ဟု ပြင်ဆင်သည်။

(သံဃာ့အစည်းအဝေးသို့ မတက်ရောက်နိုင်သော ရဟန်းများသည် ထိုအစည်းအဝေးက ဆုံးဖြတ်သမျှကို သဘောတူကြောင်း ကြိုတင်၍ ဆန္ဒပေးကြရသည်။ အစည်းအဝေးပြီးမှ ပေးသောဆန္ဒ

သည် တရားမဝင်ပေ။ ထို့ကြောင့် သဘောတူညီချက် မရရှိဘဲ ရောက်သမျှသံဃာ တစ်စိတ်တစ်ပိုင်းဖြင့် ဆုံးဖြတ်မှုသည် တရားမဝင်။ သံဃာမညီညွတ်သော ဆုံးဖြတ်မှုမှာလည်း အောင်မြင်ခြင်း မရှိချေ။)

(၅) အာစိဏ္ဏကပ္ပ။ ။ မိမိတို့၏ ဆရာသမားပြုလုပ်ခဲ့သော အစဉ်အလာကို လက်ခံ၍ပြုလုပ်နိုင်ခွင့်ရှိသည်။ ဆရာသမားတို့ကို အတုလိုက်၍ ပြုလုပ်ခြင်းကြောင့် အာပတ်မသင့်ဟု ပြင်ဆင်သည်။

(ဆရာသမားတို့ ပြုလုပ်သော အစဉ်အလာထုံးစံများသည်လည်း ဝိနည်းနှင့်ညီလျှင် အာပတ်မသင့်။ ဝိနည်းနှင့်မညီလျှင်ကား အာပတ်သင့်သည်သာ ဖြစ်သည်။)

(၆) ဂါမန္တရကပ္ပ။ ။ အခြားရွာသို့ သွားရန်ကိစ္စရှိပါက ပဝါရိတ်သင့်သော ရဟန်းသည် အတိရိတ်ဝိနည်းကံမပြုဘဲ ဆွမ်းကိုစားနိုင်သည်ဟု ပြင်ဆင်သည်။

(ရဟန်းသည် ဆွမ်းစားစဉ် 'တော်ပြီ'ဟုပြောလျှင် ပဝါရိတ်သင့်သည်ဟု ခေါ်၏။ စားခွင့်မရှိတော့ပေ။ အကယ်၍ စားလိုပြန်လျှင် အခြားရဟန်းအား စွန့်လိုက်ရသည်။ ထိုရဟန်းက ပြန်ပေးမှ စားခွင့်ရှိ၏။ ဤသို့ပြုလုပ်ခြင်းကို အတိရိတ်ဝိနည်းကံပြုသည်ဟု ခေါ်၏။ အတိရိတ်ဝိနည်းကံမပြုဘဲ စားသုံးပါက ပါစိတ် အာပတ်သင့်သည်။)

(၇) အမထိတကပ္ပ။ ။ ပဝါရိတ်သင့်သောရဟန်းသည် အတိရိတ်ဝိနည်းကံမပြုဘဲ နို့ရည်အဖြစ်ကိုလွန်၍ ဒိန်ချဉ်အဖြစ်မရောက်သေးသော နို့ချဉ်ကို သောက်ခွင့်ရှိသည်ဟု ပြင်ဆင်သည်။

( ဝိနည်းသိက္ခာပုဒ်တွင် နို့ရည်ကိုလည်းကောင်း၊ ဒိန်ချဉ်ကိုလည်းကောင်း ဘောဇဉ်၌ထည့်သွင်းထားရာ စပ်ကူးမပ်ကူးကာလဖြစ်သော နို့ချဉ်ရည်မှာ ဘုရားဟောဘောဇဉ်မှ အလွတ်ဖြစ်သည်ဟု ကြံဆ၍ လျှော့ပေါ့ပြင်ဆင်ခြင်း ဖြစ်သည်။)

(၈) ဇဠောဂီ။ ။ ကောက်ညှင်းဆန်၊ ထန်းလျက်၊ ကြံသကာစသည်တို့ကို စိမ်ရည်ဖြစ်အောင် ဖော်စပ်ရာ၌ စိမ်ရည်အဖြစ်မရောက်သေးသော သေရည်အနုစား၊ စိမ်ရည်အနုစား၊ ထန်းရည်ခါးတို့ကို ရဟန်းတော်များ သောက်သုံးနိုင်သည်ဟု ပြင်ဆင်သည်။

(ရဟန်းတော်များသည် စိမ်ရည်၊ ခေါင်ရည်၊ ထန်းရည်၊ သေရည်

အနုစား မှုးယစ်ဆေးဝါးကို သုံးဆောင်ခွင့်မရှိ။ သုံးဆောင်ပါက ပါစိတ် အာပတ် သင့်သည်။)

(၉) အဒသကံနိသီဒနံ။ ။ ရဟန်းများအတွက် အမြိတ်အဆာမပါ သော နိသီဒိုင် (နေရာထိုင်ခင်း)ကို သုံးဆောင်အပ်သည်ဟု ပြင်ဆင် သည်။

(အမြိတ်အဆာမပါသော နေရာထိုင်ခင်း(နိသီဒိုင်)ကိုမအပ်စပ်ဟု ဗုဒ္ဓပညတ်ချက် ရှိသည်။)

(၁၀) ဇာတရူပ ရဇတ။ ။ ရဟန်းတော်များသည် ရွှေ ငွေ အသပြာ ကို အလှူခံနိုင်သည်ဟု ပြင်ဆင်သည်။

(ရဟန်းတော်များသည် ရွှေငွေတို့ကို အလှူမခံရဟု ဗုဒ္ဓပညတ် ချက် ရှိသည်။)

## ထေရဝါဒနှင့် မဟာသံဃိက

ဝဇ္ဇိတိုင်းသား ရဟန်းတို့သည် အထက်ပါ ပြင်ဆင်ချက် ၁၀-ခု(ဒသဝတ္ထုက) တို့ကို တရားဝင်အလုပ်ကဲ့သို့ ပြောင်ပြောင်တင်းတင်း လုပ်ကိုင်နေကြသည်။

ရှင်မဟာယသမထေရ်ကြီးသည် ထိုသတင်းကိုကြားသဖြင့် ဝေသာလီပြည် မဟာဝုန်ကျောင်းတိုက်သို့ ရောက်ရှိလာသည်။ ထိုအချိန်တွင် သံဃာများ ဥပုသ် ပြုချိန်နှင့် တိုက်ဆိုင်နေ၏။ ထိုနေ့တွင် ရဟန်းတို့သည် သံဃာ့အလယ်မှာ ရွှေဖလားကြီးကို ချထား၏။ ဥပုသ်နေ့တွင် တရားနာသော ဒါယကာ ဒါယိကာမတို့ကို ပရိက္ခရာဖိုး လှူဒါန်းကြရန် ဟောပြောသည်။ လူတို့ကလည်း တတ်အားသရွေ့ ပါဝင်လှူဒါန်းကြသည်။

ရှင်မဟာယသသည် ဤလုပ်ရပ် ဝိနည်းတရားတော်နှင့်မညီသောကြောင့် မပြုလုပ်ရန် ပြောကြားသည်။ သို့သော်လည်း ဝဇ္ဇိရဟန်းတို့က ရှင်မဟာယသ၏ စကားကို လက်မခံပေ။ 'ရှင်မဟာယသသည် ဒါယကာတို့၏ သဒ္ဓါတရားကို တားဆီးပိတ်ပင်သူ' ဟူ၍ ပြစ်တင်ရှုတ်ချကြသည်။ နောက်ဆုံးတွင် ရှင်မဟာယသ အား သံဃာ့ဘောင်မှ ပိုင်းပယ်မှု (ဥက္ခေပနီယကံ) ပြုကြတော့သည်။

ရှင်မဟာယသသည် ဝဇ္ဇိတိုင်းသားရဟန်းတို့နှင့် သဘောထားမညီညွတ် သဖြင့် မိမိနှင့်သဘောတူရာရဟန်းတို့ကို စုစည်းရသည်။ စည်းရုံးရသည်။ ထိုအခါ ဘုရားရှင်၏ဒေသနာတို့ကို ရင်းမြစ်ကျကျ လက်ခံလိုသော ရဟန်းများစွာကို စုစည်း

မိလာ၏။ ရှင်မဟာယသသည် မိမိနှင့် သဘောတူရာ သံဃာတို့ကိုပေါင်းစု၍ ဗုဒ္ဓဒေသနာတို့ကို သံဂါယနာတင်ကြရသည်။ သံဂါယနာတင်ပွဲတွင် ကြွရောက်လာသော သံဃာတော်အားလုံးတို့က-

'ဗုဒ္ဓဘုရားရှင်၏ ဓမ္မဒေသနာတို့ကို ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း၊ နုတ်ပယ်ခြင်းမပြုဘဲ မူလရှိသည့်အတိုင်း လက်ခံကျင့်သုံးကြရန်'

ဟူ၍ ဆုံးဖြတ်ချက် ချခဲ့ကြသည်။ ထိုဂိုဏ်းသည် နောင်အခါ၌ 'ထေရဝါဒဂိုဏ်း' ဟူ၍ ထင်ရှားလာလေသည်။

ဤသတင်းကို ကြားရသောအခါ ဝဇ္ဇီတိုင်းသားရဟန်းတို့သည်လည်း မိမိတို့နှင့် သဘောတူရာရဟန်းတို့ကို စည်းရုံးကြသည်။ ထို့နောက် သဘောတူသံဃာ ပေါင်း ၁၀၀၀၀(တစ်သောင်း)ဖြင့် ကောသမ္ဗီပြည်၌ သီးခြားသံဂါယနာတင်ပွဲ ပြုလုပ်ကြသည်။ မိမိတို့တင်သော သံဂါယနာကို မဟာသံဂီတိဟု ခေါ်ဆိုကြ၏။ မိမိတို့ သံဃာ့အဖွဲ့အစည်းကြီးကိုလည်း 'မဟာသံဃိကဂိုဏ်း'ဟု ခေါ်ဆိုကြလေသည်။

ထို့ကြောင့် သာသနာနှစ် ၁၀၀-အကြာတွင် ဗုဒ္ဓဘာသာရဟန်းတော်လောက၌-

(၁) ထေရဝါဒ ဗုဒ္ဓဘာသာဂိုဏ်း
(၂) မဟာသံဃိက ဗုဒ္ဓဘာသာဂိုဏ်း

ဟူ၍ ဂိုဏ်းကြီး ၂-ဂိုဏ်း ကွဲပြားသွားလေသည်။

## ဗုဒ္ဓဘာသာ ဂိုဏ်းကွဲများ

မူလဗုဒ္ဓဘာသာထဲမှ မဟာသံဃိကဂိုဏ်းကြီး ခွဲထွက်သွားပြီးနောက် အခြားရဟန်းအုပ်စုတို့ကလည်း ဂိုဏ်းခွဲမှုကို စိတ်ဝင်စားလာကြဟန်တူပါသည်။ အင်အားရှိသော သံဃာ့ခေါင်းဆောင်တို့သည် အခြေအနေပေးတိုင်း၊ အခါအခွင့်သင့်တိုင်း ဂိုဏ်းသစ်များကို ဖွဲ့စည်းခဲ့ကြသည်။

မဟာသံဃိကဂိုဏ်းကြီးမှ-

(၁) ဂေါကုလိကဂိုဏ်း
(၂) ဧကဗျောဟာရိကဂိုဏ်း ဟူ၍ ၂-ဂိုဏ်းကွဲပြားသည်။

တစ်ဖန် ဂေါကုလိကဂိုဏ်းမှ-

(၃) ပဏ္ဏတ္တိဝါဒဂိုဏ်း
(၄) ဗဟုဿုတိကဂိုဏ်း ဟူ၍ ၂-ဂိုဏ်းကွဲပြားသည်။

တစ်ဖန် ဗဟုသုတိကဂိုဏ်းမှ-

(၅) စေတီယဂိုဏ်းဟူ၍ ၁-ဂိုဏ်းခွဲထွက်သည်။

ထို့ကြောင့် မဟာသံဃိကဂိုဏ်းမှ ဂိုဏ်းရင်းနှင့်တကွ သံယာ(၆)ဂိုဏ်း ကွဲပြားသွားလေသည်။

မဟာသံဃိကဂိုဏ်းကြီးကို အတုလိုက်၍ မူလထေရဝါဒမှလည်း ဂိုဏ်းအမျိုးမျိုး ကွဲပြားကုန်ကြသည်။ ရှေးဦးစွာ မူလထေရဝါဒဂိုဏ်းကြီးမှ-

(၁) မဟိသာသကဂိုဏ်း

(၂) ဝဇ္ဇိပုတ္တကဂိုဏ်း ဟူ၍ ၂-ဂိုဏ်းကွဲပြားသည်။

တစ်ဖန် ဝဇ္ဇိပုတ္တကဂိုဏ်းမှ-

(၃) ဓမ္မုတ္တရိယဂိုဏ်း

(၄) ဘဒြယာနိကဂိုဏ်း

(၅) ဆန္နာဂါရိကဂိုဏ်း

(၆) သမ္မိတိယဂိုဏ်းဟူ၍ ၄-ဂိုဏ်းကွဲပြားသည်။

တစ်ဖန် မဟိသာသကဂိုဏ်းမှ-

(၇) သဗ္ဗတ္ထိဝါဒဂိုဏ်း

(၈) ဓမ္မဂုတ္တိကဂိုဏ်းဟူ၍ ၂-ဂိုဏ်း ကွဲပြားသည်။

တစ်ဖန် သဗ္ဗတ္ထိဝါဒဂိုဏ်းမှ-

(၉) ကဿပိကဂိုဏ်း ခွဲထွက်ပြန်သည်။

တစ်ဖန် ကဿပိကဂိုဏ်းမှ-

(၁၀) သင်္ကန္တိကဂိုဏ်း ခွဲထွက်ပြန်သည်။

တစ်ဖန် သင်္ကန္တိကဂိုဏ်းမှ-

(၁၁) သုတ္တဝါဒဂိုဏ်း ခွဲထွက်ပြန်သည်။

ထို့ကြောင့် မူလထေရဝါဒနှင့် ပေါင်းလျှင် ထေရဝါဒဂိုဏ်းပေါင်း(၁၂)ဂိုဏ်း ရှိပေသည်။

ထေရဝါဒနှင့် မဟာသံဃိက ဂိုဏ်းမကြီးများနှင့် ဂိုဏ်းကွဲအားလုံးပေါင်းလျှင် ဂိုဏ်းပေါင်း ၁၈-ဂိုဏ်းရှိလေသည်။

ထို ၁၈-ဂိုဏ်းကွဲပုံကို ဒီပဝံသကျမ်း၌ ပြဆိုထား၏။ ယင်းဂိုဏ်းများအပြင် ပုဗ္ဗသေလိယဂိုဏ်း၊ အပရသေလိယဂိုဏ်း၊ ရာဇဂိရိကဂိုဏ်း၊ သိဒ္ဓတ္ထိကဂိုဏ်း၊ ဟေမဝတိကဂိုဏ်း၊ ဝါဇိရိယဂိုဏ်း၊ ဥတ္တရာပထဂိုဏ်း၊ ဝေတုလ္လဂိုဏ်း၊ ဟေတုဝါဒ

ဂိုဏ်း စသည်ဖြင့် ဆက်လက်ကွဲပြားကြောင်း ကထာဝတ္ထုအဌကထာ၌ ပြဆိုထားသည်။

ထို့ပြင် သက္ကတဘာသာဖြင့် ရေးသားထားသော ဝသုမိတြ၏မှတ်တမ်းတွင် အခြားဂိုဏ်းအမည်များလည်း ပါရှိသေးသည်။

သက္ကတစာရေးဆရာကြီး ဘဗျ၏မှတ်တမ်းတွင် ထူးခြားသော ဂိုဏ်းအမည်သစ်များကို တွေ့ရပြန်သည်။ ဘဗျမှတ်တမ်းထဲတွင် 'ဝိဘဇ္ဇဝါဒီဂိုဏ်း' ဟူသော နာမည်တစ်ခုကို ထည့်သွင်းထား၏။ ထိုဂိုဏ်းနာမည် အထက် ၁၈-ဂိုဏ်း၌လည်း မပါရှိပေ။ ထိုဂိုဏ်းသည် ထေရဝါဒ ပင်မဂိုဏ်းအတွက် အရေးပါသော ဂိုဏ်းတစ်ခု ဖြစ်ပါသည်။ သာသနာ့ဝင်ကျမ်းများ၌ အမှတ်မဲ့ဖြစ်နေသော ဂိုဏ်းလည်း ဖြစ်သည်။

ဖော်ပြခဲ့သောဂိုဏ်းများသည် သာသနာနှစ် ၂၀၀-ခန့်အတွင်း ကွဲပြားခဲ့သော ဂိုဏ်းများဖြစ်သည်။ အသောကမင်း နန်းတက်ချိန်လောက်တွင် ဂိုဏ်းအသီးသီးတို့သည် ကိုယ့်အင်ကိုယ့်အားနှင့် ကြီးပွားနေကြပြီ။ ထိုအထဲတွင် ဝိဘဇ္ဇဝါဒီဂိုဏ်းသည် အသောကမင်းတရား၏ မြှောက်စားပူဇော်မှုကို ခံယူရသော ဂိုဏ်းကြီး ဖြစ်ပေသည်။

## ထေရဝါဒနှင့် ဝိဘဇ္ဇဝါဒီဂိုဏ်း

ဝိဘဇ္ဇဝါဒီဂိုဏ်းသည် မူလထေရဝါဒမှ ဂိုဏ်းကွဲတစ်ခုဖြစ်သည်ဟု မှတ်တမ်း၌ ဆိုပါသည်။ မည်သည့်အချိန်က ကွဲပြားသည်ဟု မပြောနိုင်ပေ။ သို့သော်လည်း ဝိဘဇ္ဇဝါဒီဂိုဏ်းမှာ အသောကမင်းကြီးလက်ထက်တွင် ကြီးပွားနေပြီဟု ပြောနိုင်ပါသည်။

အသောကမင်း နန်းတက်ပြီးနောက် ဗုဒ္ဓဘာသာဝင်ဖြစ်ချိန်တွင် အိန္ဒိယနိုင်ငံ၌ ဗုဒ္ဓဘာသာဆိုင်ရာ အရှုပ်အထွေးများ ပေါ်ပေါက်နေပြီ။ သန့်စင်သော ဗုဒ္ဓဘာသာ မဟုတ်တော့ပေ။ သာသနာ့ပြင်ပဖြစ်သော တိတ္ထိတို့ကလည်း ဗုဒ္ဓသာသနာထဲဝင်၍ ရဟန်းပြုနေကြ၏။ သို့သော် ရဟန်းတရားကို အားမထုတ်ကြ။ တိတ္ထိတို့၏အလုပ် ကိုသာ လုပ်ကိုင်နေကြသည်။ ဗုဒ္ဓတရားတော်ကို နားမလည်ကြပေ။

အသောကမင်းသည် သာသနာတော်သန့်စင်ရေးအတွက် ဆောင်ရွက်ရသည်။ ရဟန်းတရားကို မေးစစ်သည်။ ထိုအခါ ရဟန်းယောင်တို့က မှန်အောင် မဖြေနိုင်ကြ။

'မြတ်ဗုဒ္ဓသည် ဘယ်အယူရှိပါသနည်း။' ဟု မေးလျှင် ရဟန်းအချို့က 'မြတ်ဗုဒ္ဓသည် သဿတအယူရှိပါသည်' ဟု ဆိုသူကဆိုသည်။

အချို့ကလည်း 'မြတ်ဗုဒ္ဓသည် ဥစ္ဆေဒအယူရှိပါသည်' ဟု ဖြေသူကဖြေသည်။

အသောကမင်းသည် ထိုရဟန်းအတုများကို လူထွက်စေ၍ သာသနာ့ဘောင်မှ နှင်ထုတ်လေသည်။

အသောကမင်းသည် ရဟန်းကောင်းတို့အား 'အရှင်ဘုရားတို့ မြတ်ဗုဒ္ဓဟာ ဘယ်အယူရှိပါသနည်း' ဟု မေးသည်။

ထိုအခါ ရဟန်းတို့က 'မင်းကြီး၊ မြတ်ဗုဒ္ဓဟာ သဿတအယူ၊ ဥစ္ဆေဒအယူတို့ကို ခွဲခြမ်းဝေဖန်၍ အလေ့အားဖြင့်ဆိုတော်မူတတ်သော ဝိဘဇ္ဇဝါဒီ ဖြစ်ပါသည်'ဟု ဖြေဆိုကြ၏။

အသောကမင်းသည် ထိုအဖြေကိုကြားရသဖြင့် ရဟန်းစစ်ရဟန်းမှန်ကို တွေ့ရပြီဟု ဆုံးဖြတ်၍ ထိုဝိဘဇ္ဇဝါဒီဂိုဏ်းသံဃာတို့ကို ချီးမြှင့်ပူဇော်လေတော့သည်။ ထိုအချိန်က ဝိဘဇ္ဇဝါဒီဂိုဏ်းသည် အသောကမင်းကြီး၏ အဓိကကိုးကွယ်ရာဂိုဏ်းဖြစ်သည်ဟု ဆိုနိုင်ပေသည်။

ဝိဘဇ္ဇဝါဒီဂိုဏ်း၏ အယူဝါဒတို့ကို သာသနာ့သမိုင်းတို့၌ ဖော်ပြမထားပေ။ ဤသို့မဖော်ပြသည်မှာ မူလထေရဝါဒနှင့် အယူဝါဒချင်း၊ တရားဓမ္မချင်း ခံယူမှု တူညီသောကြောင့်ဟု ဆိုရပါမည်။ ဤသို့ အယူဝါဒချင်း တူညီသောကြောင့်လည်း နောင်အခါတွင် ဝိဘဇ္ဇဝါဒီဂိုဏ်းသည် မူလထေရဝါဒနှင့် ပြန်လည်ပေါင်းစပ်နိုင်ခဲ့ခြင်း ဖြစ်ပေသည်။

## ဗြာဟ္မဏတို့၏ သွေးခွဲမှု

ရာစုနှစ် အနည်းငယ်အတွင်း ဗုဒ္ဓဘာသာဂိုဏ်းများ ဤမျှကွဲပြားသွားရသည်မှာ ဗြာဟ္မဏတို့၏ သွေးခွဲထိုးနှက်မှုလည်း မကင်းနိုင်ပေ။ ဗြာဟ္မဏတို့သည် ဗုဒ္ဓဘာသာကို မျက်မုန်းကျိုးနေသူများဖြစ်ကြ၏။ ဗုဒ္ဓဘုရား ပွင့်ပေါ်လာစဉ်ကပင် ဗြာဟ္မဏတို့က ရန်သူအဖြစ် မှတ်ယူခဲ့ကြသည်။

မှန်ပါသည်။ ဗုဒ္ဓဘုရားသည် ဗြာဟ္မဏတို့ လက်ခံထားသော အရေးပါသည့် အယူအဆများကို ချေဖျက်ဟောကြားခဲ့သည်။ ဗြာဟ္မဏတို့က အတ္တတရားကို လက်ကိုင်ထား၍ ဟောကြားနေကြ၏။ ဗုဒ္ဓဘုရားကမူ အနတ္တတရားကို အဓိကထား ဟောကြားရာ ဗြာဟ္မဏတို့မှာ အရှိုက်ကိုအထိုးခံရသလို နာကြည်းသွားကြ၏။

ထို့ပြင် လူမှုရေးလောက၌လည်း ဗြာဟ္မဏတို့က ဇာတ်စနစ်ကို အခြေခံ၍ လူတန်းစားများကို ပုံသေခွဲခြားထားကြ၏။ ဤဇာတ်စနစ်ကိုလည်း ဗုဒ္ဓဘုရားက ချေဖျက်ဟောကြားပြန်သည်။ ဗြာဟ္မဏတို့က ဘယ်မှာနှစ်သက်နိုင်ကြမည်နည်း။

ဗြာဟ္မဏတို့က ထာဝရဘုရားသခင် ဖန်ဆင်းရှင်ကို အတည်ပြုသည်။ ဗုဒ္ဓဘုရားက ဖန်ဆင်းရှင်ကို ငြင်းပယ်သည်။ ဗြာဟ္မဏတို့၏ အဓိကအယူအဆများကို ဗုဒ္ဓဘုရားက ချေဖျက်ဟောကြားနေသဖြင့် ဗုဒ္ဓသည် ဗြာဟ္မဏတို့၏ ရန်သူဖြစ်ခဲ့ရသည်။ ၎င်းတို့က ရန်ငြိုးဖွဲ့ခဲ့ကြလေသည်။

အသောကခေတ်သို့ရောက်သောအခါတွင် ဗုဒ္ဓဘာသာကို အားပေးသဖြင့် ဗြာဟ္မဏတို့ မှေးမှိန်မြုပ်တိမ်နေရသည်။ ထိုအခါမျိုးတွင် အချို့ဗြာဟ္မဏတို့သည် ဗုဒ္ဓဘာသာအတွင်းသို့ဝင်၍ ပူးသတ်ခဲ့ကြသည်။ ဗုဒ္ဓဘာသာအတုအယောင် ဗြာဟ္မဏတို့သည် ဗုဒ္ဓဘာသာ ပိဋကတ်တော်တို့ကို လေ့လာလျက် ကျမ်းစာများကို ရေးပြုကြ၏။ မိမိတို့၏ သဘောအယူအဆများကို ဗုဒ္ဓဘာသာအတွင်းသို့ သွတ်သွင်းကြသည်။

အသစ်ထည့်သွင်းထားသော အယူအဆများကို ကြိုက်နှစ်သက်သူများလည်း ရှိလာသည်။ ထိုပုဂ္ဂိုလ်တို့သည် လက်သစ်အယူအဆပါသော ကျမ်းစာတို့ကို လက်ခံ၍ ဂိုဏ်းဂဏအသစ်တို့ကို ထူထောင်ကြသည်။ ဤသို့ဖြင့် ဂိုဏ်းသစ်များ တဖွားဖွား ပေါ်ပေါက်လာခဲ့လေသည်။

ဘီစီ ၃-ရာစု အသောကမင်းလက်ထက်လောက်ကပင် မဟာသံဃိကဂိုဏ်းမှ ပေါ်ထွက်လာသော မဟာဝတ္ထုအဝဒါနကျမ်း၌ အဝလောကိတေသရခေါ် ဘုရားလောင်းသဘောတရား ဝါဒများကို ဗုဒ္ဓဘာသာတွင်းသို့ သွယ်ဝိုက်၍ သွတ်သွင်းလာကြပြီ ဖြစ်၏။ နောင်အခါတွင် ထိုဘုရားလောင်းသည် မဟာယာန ဂိုဏ်း၏ အဓိကကိုးကွယ်ရာ ဘုရားလောင်းကြီးတစ်ပါး ဖြစ်လာခဲ့လေသည်။

မဟာယာနဂိုဏ်းဟူ၍ ပီပြင်စွာဖြစ်ပေါ်လာသောအချိန်၌ ဗြာဟ္မဏတို့၏ အယူဝါဒများဖြစ်သော တန္တရ၊ မန္တရသဘောတရားများကိုပါ သိမ်းယူလက်ခံခဲ့ကြပြန်သည်။ နောက်ဆုံးတွင် အိန္ဒိယရှိ ဗုဒ္ဓဘာသာသည် ဟိန္ဒူဗြာဟ္မဏဝါဒနှင့် ရောထွေးယှက်တင် ဖြစ်သွားရလေသည်။

### သုင်္ဂခေတ် ဗုဒ္ဓသာသနာ

ဗုဒ္ဓဘာသာဂိုဏ်းများသည် အိန္ဒိယနယ်မြေ အနှံ့အပြားတွင် လှုပ်ရှား

နေကြရာ အချို့ဂိုဏ်းများလည်း ကြီးပွားတိုးတက်ကြသည်။ အချို့ဂိုဏ်းများမှာမူ အားနည်းလျက်ရှိကြ၏။ နိုင်ငံအုပ်ချုပ်သောမင်းတို့က မြှောက်စားလျှင် ထိုဂိုဏ်းမှာ ကြီးပွားစည်ပင်လာရမြဲဖြစ်သည်။ ထိုဂိုဏ်းများထဲတွင် အသောကမင်း မြှောက်စားသဖြင့် တောက်ကြွားခဲ့ရသောဂိုဏ်းမှာ ထေရဝါဒ ဝိဘဇ္ဇဝါဒီဂိုဏ်းကြီး ဖြစ်သည်။

ဝိဘဇ္ဇဝါဒီဂိုဏ်းနှင့်အတူ ထင်ရှားသောဂိုဏ်းကြီး ၂-ဂိုဏ်းလည်းရှိသေးသည်။ ထိုဂိုဏ်းများမှာ ထေရဝါဒမှ ခွဲထွက်ထားသော သဗ္ဗတ္ထိဝါဒီဂိုဏ်းနှင့် မဟာသံဃိကဂိုဏ်းတို့ ဖြစ်၏။ ထို့ကြောင့် အသောကခေတ်နောက်ပိုင်းတွင် ထင်ရှားသော ဂိုဏ်းကြီး ၃-ဂိုဏ်းကို တွေ့မြင်ရပေမည်။ ယင်းဂိုဏ်းတို့မှာ-

(၁) ထေရဝါဒနှင့် ဝိဘဇ္ဇဝါဒီဂိုဏ်း
(၂) ထေရဝါဒ သဗ္ဗတ္ထိဝါဒီဂိုဏ်း
(၃) မဟာသံဃိကဂိုဏ်းတို့ ဖြစ်ပေသည်။

ထိုဂိုဏ်းကြီးများ ထွန်းကားနေစဉ် အသောကမင်း၏နိုင်ငံတော်၌ မင်းဆက်အပြောင်းအလဲများ ဖြစ်လာသည်။ မဂဓနိုင်ငံတော်တွင် အသောကနောက် ၆-ဆက်မြောက်၌ ဘီစီ ၁၈၅-ခုနှစ်တွင် ဗြာဟ္မဏလူမျိုးဖြစ်သော ပုသျှမိတ္တရစစ်သူကြီးက မောရိယဧကရာဇ်ကို နန်းချကာ သုင်္ဂမင်းဆက်ကို ထူထောင်လေသည်။

သုင်္ဂပုသျှမိတ္တရမင်းသည် ဗြာဟ္မဏမျိုးဖြစ်သည့်အလျောက် ဗြာဟ္မဏဘာသာကို အဓိက ကိုးကွယ်သည်။ ဗြာဟ္မဏဘာသာကိုပင် နိုင်ငံတော်ဘာသာအဖြစ် ကြေညာသည်။ တိရစ္ဆာန်တို့ကိုသတ်၍ ယဇ်နတ်ပူဇော်ပွဲကြီးများ အကြီးအကျယ် ပြုလုပ်လေသည်။

ဗြာဟ္မဏတို့သည် မိမိတို့ အာဏာစက်ရရှိလာပြီဖြစ်ရာ အဓိကရန်ငြိုးထားနေသော ဗုဒ္ဓဘာသာကို ဖိနှိပ်ကြတော့သည်။ မင်း၏အာဏာကို နောက်ခံပြု၍ ဗုဒ္ဓဘာသာကို အပြတ်ဖြိုကြသည်။

သုင်္ဂပုသျှမိတ္တရမင်းကလည်း ဗြာဟ္မဏတို့၏အလိုကိုလိုက်လျော၍ အမိန့်ကြေညာချက်များ ထုတ်ပြန်သည်။ မိမိနိုင်ငံတော်အတွင်း ဗုဒ္ဓဘာသာရဟန်း၏ ဦးခေါင်းတစ်လုံးကို ဖြတ်၍ ဆက်သနိုင်ပါက ဆုငွေ ၁၀၀၀-ပေးမည်ဟုပင် ကြေညာထားလေသည်။

ဗုဒ္ဓဘာသာရဟန်းတော်တို့သည် မဂဓတိုင်း၊ ကောသလတိုင်းစသော မဇ္ဈိမဒေသတို့၌ မနေဝံ့ကြတော့သဖြင့် တိုင်းစွန်ပြည်ဖျားသို့ ထွက်ပြေးပုန်းရှောင်ကြရလေတော့သည်။

ထိုအချိန်တွင် အင်အားရှိသော ထေရဝါဒဂိုဏ်းသံဃာတော်တို့မှာ ဝိဒိသာ (ဝိဒိရှာ)မြို့အနီးရှိ ဆန်ချီ (သဉ္စိ)စေတီရှိရာ စေတိယပဗ္ဗတသို့ ရွှေ့ပြောင်းသွားကြသည်။

ထေရဝါဒသဗ္ဗတ္ထိကဂိုဏ်းသံဃာတို့ကား အိန္ဒိယအနောက်မြောက်ပိုင်း မထုရာမြို့အနီးရှိ ဥရုမုဏ္ဍ (ဂေါဝဒ္ဓန)တောင်သို့ ရွှေ့ပြောင်းသွားကြလေသည်။

ထိုအချိန်တွင် ဝိဘဇ္ဇဝါဒီဂိုဏ်းသံဃာတို့လည်း တောင်ပိုင်းဒေသသို့ပင် ရွှေ့ပြောင်းကြရပါသည်။ ထိုဝိဘဇ္ဇဝါဒီဂိုဏ်းသံဃာတို့သည် နောင်အခါတွင် ရှင်မဟိန္ဒနှင့် သံဃမိတ္တာတို့ အဆက်အနွယ်များရှိရာ သီဟိုဠ်ကျွန်းသို့ ကူးရောက်သွားကြပြီး သီဟိုဠ်သံဃာတို့နှင့် ပူးပေါင်း၍ သာသနာပြုနေခဲ့ကြသည်။ ထိုအချိန်မှစ၍ ဝိဘဇ္ဇဝါဒီအမည်ပျောက်ကာ ပင်မထေရဝါဒနှင့် တစ်ပေါင်းတည်း၊ တစ်သားတည်း ဖြစ်သွားလေတော့သည်။

## ကနိသျှကမင်းနှင့် ဗုဒ္ဓဘာသာ

မဂဓတိုင်းတွင် သုင်္ဂမင်းဆက် ကုန်ဆုံးပြီးနောက် ကန်ဗမင်းဆက်ကို ထူထောင်ကြသည်။ ထိုမင်းဆက်ကိုလည်း အန္ဓရမင်းများက သိမ်းပိုက်လိုက်သောကြောင့် အိန္ဒိယအရှေ့တောင်ပိုင်းဒေသတစ်ခုလုံးမှာ အန္ဓရမင်းတို့၏ လက်အောက်သို့ ကျရောက်သွားပေသည်။

ထိုအချိန်တွင် အိန္ဒိယအနောက်မြောက် ဒေသကြီးတစ်ခုလုံးမှာလည်း တိုင်းတစ်ပါးလူမျိုးတို့က ဆင့်ကဲလာရောက်၍ စိုးမိုးအုပ်ချုပ်လျက်ရှိသည်။ ထိုအထဲတွင် ထင်ရှားသောမင်းဆက်မှာ ကုသျှန်မင်းဆက်ဖြစ်လေသည်။

ကုသျှန်လူမျိုးတို့သည် အိန္ဒိယအနောက်မြောက်ဒေသကြီးတစ်ခုလုံးကို သိမ်းပိုက်လျက် အေဒီ ၄၀-ခုနှစ်မှစ၍ ကုသျှန်မင်းဆက်ကို ထူထောင်သည်။ ထိုမင်းများအနက် အေဒီ ၁၂၀-မှ ၁၆၂-အထိ စိုးစံသွားသော ကနိသျှကဘုရင်သည် တန်ခိုးအကြီးဆုံး ဖြစ်သည်။

ကနိသျှကမင်းသည် မူလက ပါရှင်ဘာသာဝင် မင်းတစ်ပါး ဖြစ်သည်။ နောက်ပိုင်းတွင် ဗုဒ္ဓဘာသာဝင်ဖြစ်လာပြီးနောက် ဗုဒ္ဓသာသနာထွန်းကားရေးကို အကြီးအကျယ် အားပေးသည်။ ဗုဒ္ဓဘာသာဝင်တို့က ထိုမင်းကို ဒုတိယအသောကမင်းဟူ၍ ခေါ်ဆိုကြသည်။

ကနိသျှကမင်းသည် ထေရဝါဒဂိုဏ်းကွဲဖြစ်သော သဗ္ဗတ္ထိဝါဒီဂိုဏ်း ရဟန်း

တော်တို့ကို အဓိကထား၍ ကြည်ညိုကိုးကွယ်သည်။ သို့အလျောက် ထေရဝါဒ သဗ္ဗတ္ထိဂိုဏ်းက တန်ခိုးကြီးထွားနေသည်။

ထိုအချိန်တွင် ပင်ရင်းထေရဝါဒနှင့် ဝိဘဇ္ဇဝါဒီဂိုဏ်းသံဃာတို့မှာ အိန္ဒိယ တောင်ပိုင်း ဆန်ချီ၌ အခြေချနေကြ၏။ တစ်ဂိုဏ်းနှင့် တစ်ဂိုဏ်း အလွန်ဝေးကွာ နေကြပြီ။

ကနိသျှကမင်းသည် ဗုဒ္ဓဘာသာဝင်ဖြစ်လာပြီးနောက် သာသနိက အဆောက်အအုံ အများအပြားကို တည်ထားသည်။ ဗုဒ္ဓ၏ဓာတ်တော်မွေတော်တို့ ကို ရှာဖွေလျက် စေတီပုထိုးတို့တွင် ဌာပနာသည်။ ပုရုသျှပူရမြို့တော်၌ အမြင့် သံတောင် ၂၆၀-ကျော်၊ အဝန်း သံတောင် ၃၀၀-မျှရှိသော စေတီတော်ကြီးကို တည်ထားသည်။ ကနိသျှကစေတီတော်ဟု ထင်ရှား၏။

ထို့ပြင် စေတီတော်အနီးမှာပင် မဟာဗောဓိကို စိုက်ပျိုးပူဇော်သည်။ ရဟန်း တော်များ သီတင်းသုံးရန် ကျောင်းတိုက်ကြီးကို တည်ထောင်သည်။ 'ကနိသျှက ကျောင်းတိုက်' ဟုပင် ခေါ်ကြသည်။

မင်းကြီးသည် ကနိသျှကကျောင်းတိုက်ကြီးနှင့် စေတီတော်စသော သာသနိကအဆောက်အအုံများကို သဗ္ဗတ္ထိဝါဒီဂိုဏ်းမှ ဆရာတော်ကြီးများအား အပ်နှံ၍ အုပ်ချုပ်စောင့်ရှောက်စေသည်။ ထိုခေတ်တွင် ကနိသျှကကျောင်းတိုက်ကြီး သည် ဗုဒ္ဓသာသနာပြုရာ ဗဟိုဌာနကြီး ဖြစ်လေသည်။

ကနိသျှကမင်း မရှိသောအခါ၌လည်း ထိုကျောင်းတိုက်ကြီးကို ထေရဝါဒ သဗ္ဗတ္ထိဝါဒီဂိုဏ်း သံဃာတော်တို့ကပင် အစဉ်အဆက် သာသနာပြုလုပ်ငန်းကို ဆောင်ရွက်နေခဲ့ကြသည်။ သာသနာနှစ် ၁၀၀၀-ခန့်အထိ ထိုကျောင်းတိုက်ကြီးမှာ ထေရဝါဒအစဉ်အလာ ပိဋကတ်တော်များကို ပို့ချနေသော ကျောင်းတိုက်ကြီးဖြစ် ကြောင်း တရုတ်ရဟန်းတော်တို့၏ မှတ်တမ်း၌ ဆိုပါသည်။

တရုတ်မှတ်တမ်းအရ သဗ္ဗတ္ထိဝါဒီဂိုဏ်းဝင် ရဟန်းတော်တို့က မိမိတို့ကိုယ်ကို 'ထေရဝါဒ' ဟုပင် သုံးနှုန်းခေါ်ဆိုခဲ့ကြပါသည်။ သို့ရာတွင် ၎င်းတို့၏ထေရဝါဒမှာ မူလပင်မ ထေရဝါဒမဟုတ်ဘဲ သဗ္ဗတ္ထိဝါဒီဂိုဏ်းခွဲ ထေရဝါဒသာ ဖြစ်နိုင်ပါသည်။

ရှေးဟောင်းသုတေသနဌာနမှ လေ့လာချက်အရ ထိုဒေသရှိ စေတီပျက်မှ ရရှိသော ကနိသျှကမင်း၏ ဓာတ်တော်ကြုတ်တွင် သက္ကတဘာသာဖြင့် ကမ္ပည်းစာ ရေးထိုးထားသည်။

"အာကျရယာန် ဆရဗသ်ဆတိ ဗာဒိန် ပရိဂရဟေ"

အဓိပ္ပာယ်မှာ "သဗ္ဗတ္ထိဂိုဏ်းဝင် ဆရာရှင်တို့ သိမ်းဆည်းပိုင်ဆိုင်သည်။" ဟူ၍ ဖြစ်ပါသည်။ ထို့ကြောင့် ကနိသျှကကျောင်းတိုက်ရှိ ထေရဝါဒသံဃာတို့မှာ သဗ္ဗတ္ထိဝါဒီဂိုဏ်းဝင် ထေရဝါဒသာ ဖြစ်နိုင်ကြောင်း ကောက်ချက်ချရပါသည်။

## ကနိသျှကမင်း၏ သံဂါယနာတင်ပွဲ

ကနိသျှကလက်ထက်တွင် အိန္ဒိယပြည်၌ ဗုဒ္ဓသာသနာဂိုဏ်းကွဲများ အရှိန်အဝါ ကောင်းနေဆဲဖြစ်သည်။ ဂိုဏ်းအချင်းချင်း အယူအဆရေးရာများနှင့် ပတ်သက်၍ မညီညွတ်ကြပေ။ သဘောတရားရေးဆိုင်ရာ အရှုပ်အထွေးများ ဖြစ်နေ၏။

ကနိသျှကမင်းသည် ဤကဲ့သို့ ဗုဒ္ဓဘာသာအချင်းချင်း ဂိုဏ်းဂဏကွဲပြားနေမှုကို အားမရဖြစ်ရသည်။ ဂိုဏ်းအားလုံး ပေါင်းစည်းညီညွတ်စေချင်သည်။ ဤသို့ ပေါင်းစည်းရန်မှာ အသောကမင်းလက်ထက်ကကဲ့သို့ သံဂါယနာတင်ပွဲ ပြုလုပ်မှ ဖြစ်မည်ဟု သဘောပေါက်သည်။

ထို့ကြောင့် မိမိကိုးကွယ်သော ထေရဝါဒသဗ္ဗတ္ထိဂိုဏ်း သံဃာတို့ကို လျှောက်ထား၍ ဗုဒ္ဓဒေသနာတို့ကို သံဂါယနာတင်ရန် ဆုံးဖြတ်သည်။ မိမိအုပ်ချုပ်ရာ နိုင်ငံတွင်းမှ ဂိုဏ်းပေါင်းစုံ သံဃာတို့ကို ပင့်ဆောင်သည်။ မဟာသံဃိကဂိုဏ်းမှ စ၍ ဂိုဏ်းပေါင်းစုံလောက်ပင် ကြွရောက်တော်မူကြသည်။

ဤသံဂါယနာတင်ပွဲသို့ တောင်ပိုင်း ပင်မထေရဝါဒရဟန်းတော်များ အနည်းငယ်သာ ကြွရောက်သည်ဟု ဆိုပါသည်။ သံဂါယနာပွဲမှာ ထေရဝါဒ သဗ္ဗတ္ထိဝါဒီဂိုဏ်းက ဦးဆောင်ပြုလုပ်သဖြင့် ထေရဝါဒ(ပင်မ) သံဃာတို့မှာ လေ့လာသူ အဖြစ်သာ ကြွရောက်ခဲ့ကြပါသည်။ ထို့ပြင် ပင်မထေရဝါဒသံဃာတို့က ထိုသံဂါယနာပွဲကို မိမိတို့သံဂါယနာပွဲစာရင်း၌ ထည့်သွင်းခြင်း မပြုခဲ့ကြပေ။

ဤသံဂါယနာပွဲသို့ လုံးဝမတက်ရောက်သော သံဃာဂိုဏ်းလည်းရှိသေးသည်။ ယင်းဂိုဏ်းကား အသောကမင်း သံဂါယနာပွဲကို ဦးဆောင်ခဲ့ကြသော ထေရဝါဒ ဝိဘဇ္ဇဝါဒီဂိုဏ်းဖြစ်သည်။ ထိုဂိုဏ်းသည် ပင်မထေရဝါဒဂိုဏ်းနှင့် ပေါင်းစည်းခဲ့သော ဂိုဏ်းပင်ဖြစ်ပါသည်။

ကနိသျှကမင်းသည် သဗ္ဗတ္ထိဝါဒီဂိုဏ်းမှ ဆရာတော် ဝသုမိတြမထေရ်ကို အကြီးအမှူးပြု၍ ဂိုဏ်းပေါင်းစုံမှ ရဟန်းတော် ၅၀၀-တို့ဖြင့် သံဂါယနာတင်ပွဲကို ကျင်းပလေသည်။

ထိုသံဂါယနာတင်ပွဲမှ သံဃာတော်တို့သည် သုတ်၊ ဝိနည်း၊ အဘိဓမ္မာတို့၏

အဖွင့်ဖြစ်သော မဟာဝိဘာသာကျမ်းများကို ပြုစုကြ၏။ ယင်းတို့မှာ -

(၁) သုတ္တန္တပိဋကအဖွင့် ဝိဘာသာကျမ်း (ဂါထာတစ်သိန်း)

(၂) ဝိနယပိဋကအဖွင့် ဝိဘာသာကျမ်း (ဂါထာတစ်သိန်း)

(၃) အဘိဓမ္မာပိဋကအဖွင့် ဝိဘာသာကျမ်း (ဂါထာတစ်သိန်း)တို့ ဖြစ်လေသည်။

ကနိသျှကမင်းသည် ထိုသံဂါယနာမှ ထွက်ပေါ်လာသော ဂါထာ ၃-သိန်းရှိ ဝိဘာသာကျမ်းများကို ကြေးပြားပေါ်တွင် သက္ကတဘာသာ ဖြင့်ရေးသား၍ ကျောက်သေတ္တာကြီးများဖြင့် ထည့်သွင်းကာ စေတီတစ်ဆူ၌ ဌာပနာသည်ဟု ဆိုပါသည်။ ထိုဝိဘာသာကျမ်းများကို နောင်အခါ၌ တရုတ်ဘာသာဖြင့် ပြန်ဆိုလေသည်။

ကနိသျှကမင်းသည် အိန္ဒိယပြည်၌သာမကဘဲ ပြည်ပနိုင်ငံများသို့လည်း သာသနာပြုလုပ်ငန်းများကို ဆောင်ရွက်ခဲ့သည်။ သို့ဖြစ်၍ ၎င်း၏လက်ထက်မှာပင် အိမ်နီးချင်းနိုင်ငံများတွင် ဗုဒ္ဓဘာသာ ပြန့်ပွားခဲ့လေသည်။

## ထေရဝါဒ၊ မဟာယာန၊ ဟီနယာန

ကနိသျှကမင်း သံဂါယနာတင်စဉ်က မဟာယာနဟူသော နာမည်မရှိသေးချေ။ ကနိသျှကသည် သာသနာဂိုဏ်းကွဲတို့ကို ပူးပေါင်းညီညွတ်စေလိုသဖြင့် ဂိုဏ်းပေါင်းစုံ စုဆုံ၍ သံဂါယနာတင်ခဲ့ခြင်း ဖြစ်ပေသည်။ သို့သော်လည်း ကနိသျှကမင်း၏ စေတနာမှာ အရာမရောက်ခဲ့ပေ။ သာသနာဂိုဏ်းကွဲများ ပပျောက်ခြင်းမရှိခဲ့ချေ။ ဆက်၍လည်း ဂိုဏ်းကွဲများ ပေါ်ပေါက်ခဲ့သည်။

ကနိသျှကမင်းလက်ထက် အတည်ပြုခဲ့သော ထေရဝါဒသဗ္ဗတ္ထိဝါဒီဂိုဏ်း၏ ဒေသနာတို့ကို အချို့ဂိုဏ်းများက လက်မခံခဲ့။ ဆက်လက်၍ သဘောတရားအသစ်များကို ပြုစုပျိုးထောင်ခဲ့ကြသည်။ ထိုဂိုဏ်းကွဲများသည် မြောက်ပိုင်းဒေသ၌ မိမိတို့၏ ဂိုဏ်း ကြီးပွားမှုကို ပြုလုပ်ခဲ့ကြသည်။ သဘောတရားသစ်များကို ဖြန့်ဝေခဲ့ကြသည်။ သို့အလျောက် ယင်းတို့၏ သာသနာပြုလုပ်ငန်းများလည်း ကျယ်ပြန့်သွားခဲ့လေသည်။

ဤသို့ကျယ်ပြန့်လာသောကြောင့် အေဒီ ၂-ရာစုမှ ၄-ရာစုအတွင်းတွင် ထိုဂိုဏ်းသံဃာတို့က မိမိတို့၏ဂိုဏ်းအမည်ကို ကြီးကျယ်သောဂိုဏ်းဟူ၍ အဓိပ္ပာယ်ရသည့် 'မဟာယာနဂိုဏ်း' ဟူ၍ ခေါ်ဆိုလာခဲ့ကြသည်။

မိမိတို့နှင့် အယူဝါဒမတူမျှသည့် သဗ္ဗတ္ထိဝါဒီဂိုဏ်းစသည်တို့ကို ဟီနယာန

ဂိုဏ်း (ဝါ) မဟာယာနအောက် ယုတ်လျော့သောဂိုဏ်းဟူ၍ ခေါ်ဆိုခဲ့ကြ၏။ ထိုအမည်မှည့်ခေါ်ချိန်၌ မူလပင်မ ထေရဝါဒမှာ မဟာယာနတို့နှင့် အဆက်အသွယ် မရှိတော့ပေ။

မဟာယာနတို့က ဟိနယာနဟု ခေါ်ဆိုသော ဂိုဏ်းများမှာ ကနိသျှက၏ သံဂါယနာမှ ကွဲပြားသွားသော ဂိုဏ်းအချို့တို့ကို ခေါ်ဆိုခြင်းဖြစ်သည်။ နောက်ပိုင်းတွင် မဟာယာနဂိုဏ်းကြီးမှာ တိဗက်၊ ဆစ်ကင်း၊ ဘူတန်၊ နီပေါ၊ မွန်ဂိုလီးယား၊ တရုတ်၊ ဗီယက်နမ်၊ ကိုရီးယား၊ ဂျပန်နိုင်ငံတို့၌ ထွန်းကားသွားသည်။ မူလက ဟိနယာနဟု ခေါ်ခဲ့ရသော ဂိုဏ်းများမှာမူ အိန္ဒိယနိုင်ငံ၌ တဖြည်းဖြည်း အားနည်း မှေးမှိန်သွားသည်။ ထိုအချိန်တွင် ပင်မထေရဝါဒဂိုဏ်းကြီးမှာ သီဟိုဠ်၊ မြန်မာစသော နိုင်ငံတို့၌ ရောက်ရှိ ပျံ့နှံ့သွားသည်။ နောင်အခါတွင် မိမိတို့နှင့် အယူဝါဒ မတူညီသော ထေရဝါဒဂိုဏ်းကိုလည်း ဟိနယာနဟူ၍ ရောထွေးခေါ်ဆိုလာကြလေသည်။

အချို့သုတေသီတို့ကမူ ပင်မထေရဝါဒထွန်းကားရာ နိုင်ငံများမှာ တောင်ပိုင်းဒေသ၌ရှိသဖြင့် 'တောင်ပိုင်းသာသနာ' ဟု ခေါ်ကြသည်။ မဟာယာနဂိုဏ်းမှာ မြောက်ပိုင်းဒေသ၌ ထွန်းကားနေသောကြောင့် 'မြောက်ပိုင်းသာသနာ' ဟု ခေါ်ဆိုကြသည်။

တောင်ပိုင်းသာသနာ ထေရဝါဒနှင့် မြောက်ပိုင်းသာသနာ မဟာယာနတို့မှာ အယူဝါဒရေးရာ၌ များစွာ ခြားနားနေကြပြီ။ အချို့နေရာများတွင် ကောက်သင်းကောက်သလို ရှာဖွေမှ တူညီမှုအနည်းငယ်ကို တွေ့ရတော့သည်။ သဘောတရားအများအပြားမှာမူ တွဲမရအောင် ကွဲပြားနေလေသည်။

## မဟာယာနဂိုဏ်း၏ ပဓာနလမ်းစဉ်

မဟာယာနဂိုဏ်း၏ စာပေများအရ အကျင့် ၃-မျိုးကို ဖော်ပြထားသည်။ ယင်းတို့မှာ -

(၁) သာဝကယာန

(၂) ပစ္စေကဗုဒ္ဓယာန

(၃) ဗုဒ္ဓယာနတို့ ဖြစ်ပေသည်။

ဤယာန ၃-မျိုးသည် ထေရဝါဒ၌ပါသော သာဝကဗောဓိ၊ ပစ္စေကဗောဓိ၊ သမ္မာသမ္ဗောဓိတို့နှင့် အတူဖြစ်သည်။ အဆိုပါ ၃-မျိုးသည် နိဗ္ဗာန်သို့ ရောက်နိုင်

သော လမ်းစဉ်ချည်းဖြစ်သည်။ သို့သော်လည်း မဟာယာနတို့ကမူ သာဝကယာန နှင့် ပစ္စေကဗုဒ္ဓယာနတို့မှာ တစ်ကိုယ်ကောင်းအကျင့်ဖြစ်သည်ဟု ယူဆပြီး အားပေး ခြင်း မပြုကြပေ။

ဗုဒ္ဓယာနအကျင့်ကား သတ္တဝါများကို ကယ်တင်နိုင်သည်။ ဗုဒ္ဓယာန သည်သာ အမြတ်ဆုံးဖြစ်သည်ဟု လက်ခံကြသည်။ ထို့ကြောင့် ဗောဓိသတ္တခေါ် ဘုရားလောင်းလမ်းစဉ်ကို အလေးထားကြသည်။ များစွာသော ဗောဓိသတ်တို့ကို ရည်မှန်း၍ ရုပ်တုများပြုလုပ်ကာ ကိုးကွယ်ဆည်းကပ်ကြသည်။ အလားတူပင် ဂေါတမဗုဒ္ဓ ရုပ်ပွားများကိုလည်း ထုလုပ်ကိုးကွယ်ကြသည်။ နောင်အခါတွင် ဂါထာ မန္တန်များဖြင့် ပူဇော်မှုများလည်း ထွန်းကားသည်။

မဟာယာနတို့ ကိုးကွယ်သော ဗောဓိသတ္တခေါ် ဘုရားလောင်းများအနက် ထင်ရှားသော ဗောဓိသတ္တတို့ကို ဤသို့တွေ့ရ၏။

အဝလောကိတေသရဗောဓိသတ္တ။ ။ ယင်းဗောဓိသတ်မှာ အထင်ရှား ဆုံးဖြစ်သည်။ ကြင်နာသနားတတ်သော ဗောဓိသတ်ဖြစ်၍ အဝီစိငရဲသို့ ကျရောက် နေသူများကိုပင် ကယ်တင်သူဖြစ်ပေသည်။

မဥ္ဇုသိရိ ဗောဓိသတ္တ။ ။ လူသားတို့အား အမှန်တရားကို နားလည်စေ ရန် လှုံ့ဆော်ပေးသူဖြစ်သည်။ လက်တစ်ဖက်တွင် ဓားလွယ်ကို ကိုင်ဆောင်ထားပြီး အခြားတစ်ဖက်တွင် စာအုပ်ကို ကိုင်ဆောင်ထားသည်။ ဓားကိုကိုင်ဆောင်ထားခြင်း မှာ မကောင်းမှုပြုသူတို့ကို ချေမှုန်းရန်ဖြစ်၏။ စာအုပ်ကိုကိုင်ထားခြင်းမှာ ပါရမီ ၁၀-ပါးကို အမြဲလက်ကိုင်ကျင့်သုံးနေကြောင်း ဖော်ပြသည်။

ဝဇိရပါဏိ ဗောဓိသတ္တ။ ။ ဣန္ဒနတ်ကဲ့သို့ ဝရဇိန်မိုးကြိုးလက်နက်ကို ကိုင်ဆောင်ထားသည်။ ယင်းဗောဓိသတ်မှာလည်း မကောင်းမှုကို ပြုလုပ်သူ၊ အပြစ် ကျူးလွန်သူတို့ကို ချေမှုန်းလေ့ရှိသည်။

မေတ္တေယျ ဗောဓိသတ္တ။ ။ ယင်းဗောဓိသတ်မှာ အသိမ်မွေ့ဆုံးဖြစ် သည်။ ယင်းသည် အနာဂတ်ကာလတွင် ဗုဒ္ဓစင်စစ်ဖြစ်မည့် ဗောဓိသတ်ဖြစ်၏။ (ထေရဝါဒ၌လည်း ယင်းဗောဓိသတ်ကို တွေ့ရမည်။)

မဟာယာနဂိုဏ်းအရ လူတိုင်းသည် သတ္တဝါများကို ကယ်တင်နိုင်ရန် အတွက် ဗောဓိသတ်ဆုကို ယူကြရသည်။ ဗောဓိသတ်တို့၏ ကိုယ်ကျင့်တရားများ တွင် ဒါန၊ သီလ၊ ဝီရိယ၊ ခန္တီ၊ ဈာန်၊ ပညာ -ထို ပါရမီ ၆-ပါးကို ဖြည့်ကျင့်ရ၏ ။

ထူးခြားသည်မှာ မဟာယာနတို့သည် ဝိနည်းတရားကို များစွာအလေးမထား

ခြင်းပင် ဖြစ်သည်။ ဘုရားဆုပန်သော ဘုရားလောင်းများအတွက် ကျပ်တည်း ကျဉ်းမြောင်းသော ဝိနည်းဥပဒေများ မလိုအပ်ဟု ယူဆကြသည်။

မဟာယာနတို့ ယုံကြည်ချက်အရ သက်ရှိသတ္တဝါအားလုံးမှာ ဗောဓိသတ်များချည်းဖြစ်သည်။ ပါရမီ အနုအရင့်သာလျှင် ကွာခြား၍ အခြေခံချင်းအတူတူပင် ဖြစ်သည်။ နောက်ဆုံး၌ သတ္တဝါအားလုံးပင် ကျွတ်တမ်းဝင်၍ နိဗ္ဗာန်သို့ ရောက်ကြရမည် ဖြစ်လေသည်။

## အိန္ဒိယ၌ သာသနာကွယ်ပုံ

ဗုဒ္ဓပွင့်ရာ မဇ္ဈိမဒေသ၌ သာသနာကွယ်ပရခြင်းအကြောင်းကို လေ့လာသောအခါ အထွေထွေသော အကြောင်းရပ်များကို တွေ့ကြရ၏။ ထိုအထဲတွင် ဗုဒ္ဓဘာသာ ရဟန်းတော်တို့၏ ကျင့်ဝတ်ကျင့်ထုံးများ လွဲမှားမှုကိုလည်း အကြောင်းတစ်ရပ်အနေဖြင့် တွေ့ကြရသည်။

ရဟန်းတော်တို့သည် မိမိတို့၏ အဓိကကျသောကျင့်ဝတ်တို့ကို မဆောင်ရွက်ကြ၊ စိတ်ကူးယဉ်အစွဲအလမ်းတို့ကို အခြေခံသော စိတ်ကူးယဉ်ဘာဝမျိုးကို မျှော်လင့်၍ လုပ်ကိုင်နေကြသည်။ ဤဘာဝမျိုးတို့မှာ သိဒ္ဓိရှင်ဘာဝ၊ စေတလုံးပိုင်ရှင်ဘာဝ၊ ဝိဇ္ဇာဘာဝ၊ ထွက်ရပ်ပေါက်ဆရာဘာဝ၊ မှော်ဆရာဘာဝစသည့် ဘာဝများဖြစ်သည်။

ဤစိတ်ကူးယဉ်ဘာဝမျိုးကို ရှာဖွေသောအလုပ်မှာ အိန္ဒိယခေတ်ဦးကပင် ရသေ့တို့ တီထွင်ခဲ့သော လမ်းစဉ်ဖြစ်သည်။ ဤဝါဒသည် ဟိန္ဒူ ဗြာဟ္မဏတို့ လက်ထက်၌ တန္တရဂိုဏ်းဟု ခေါ်ကာ တွင်ကျယ်စွာ လုပ်ကိုင်နေကြသည်။

ရှေးခေတ်ဦး ရသေ့တို့သည် နတ်အမျိုးမျိုး၊ ဘုရားအမျိုးမျိုးတို့၏ဂုဏ်ကို ဖွဲ့ဆိုထားသော ဂါထာ၊ မန္တရား၊ မှော်၊ ပဥ္စလက်စသည် ပါဝင်သော တန္တရကျမ်းများကို ရေးသားခဲ့ကြသည်။ ထိုကျမ်းများကို အခြေခံ၍ လိုက်နာကျင့်သုံးသောဂိုဏ်းကို 'တန္တရဂိုဏ်း' ဟု ခေါ်၏။

တန္တရဂိုဏ်း၌ လက်ဝဲဂိုဏ်း၊ လက်ယာဂိုဏ်းဟု ၂-မျိုးရှိသည်။ လက်ဝဲဂိုဏ်းသားတို့သည် စုန်း၊ တစ္ဆေ၊ မြေဖုတ်၊ နတ်ဘီလူး၊ နတ်မိစ္ဆာ၊ ရက္ခိုသ်စသည့် ဆင်းရဲဒုက္ခကို ပေးတတ်သော၊ တိရစ္ဆာန်များကို စေခိုင်းနိုင်သော ဂါထာ၊ မန္တရား၊ အင်းအိုင်၊ ခါးလှဲ့၊ လက်ဖွဲ့စသည်တို့ကို စီရင်ကြသည်။ ဤလက်ဝဲဂိုဏ်းစီရင်နည်းကို မြန်မာနိုင်ငံ သားတို့က 'အောက်လမ်းစီရင်နည်း' ဟု ခေါ်ကြသည်။

လက်ယာဂိုဏ်းမှာ ဘုရား၊ နတ်တို့၏ဂုဏ်ကို ဖွဲ့ဆိုထားသော ဂါထာမန္တန်

တို့ဖြင့် ရောဂါဝေဒနာပပျောက်ရေး၊ စည်းစိမ်ဥစ္စာတိုးတက်ရေးစသည်တို့ကို ပြီးမြောက်စေရန် အားထုတ်ကြရသည်။ မြန်မာတို့က 'အထက်လမ်းစီရင်နည်း' ဟု ခေါ်ကြသည်။

ဤဟိန္ဒူဗြာဟ္မဏတို့၏ တန္တရဂိုဏ်းကို အတုယူ၍ ဗုဒ္ဓဘာသာဘုန်းကြီးတို့ကလည်း 'ဗုဒ္ဓတန္တရဂိုဏ်း' ကို ထူထောင်ကြသည်။ ကျင့်ဝတ်ကျင့်ထုံးများကို တီထွင်ကြသည်။ ထိုအထဲတွင် ဟိန္ဒူဗြာဟ္မဏတို့၏ ကျင့်ထုံးကို ထပ်တူလိုက်မှုများလည်း ရှိသည်။ ခွဲခြားကျင့်သုံးမှုများလည်း ရှိသည်။

တန္တရဗုဒ္ဓဘာသာဂိုဏ်း၏ လုပ်ငန်းများမှာလည်း ဂါထာမန္တန်၊ အင်းအိုင်၊ ခါးလှဲ့၊ လက်ဖွဲ့၊ မှော်အတတ်၊ စုန်းအတတ်၊ ပယောဂအတတ်၊ ဗေဒင်အတတ်၊ အဂ္ဂိရတ်အတတ်စသည်တို့ကို လေ့လာလိုက်စားသော ဘာသာဖြစ်ပေသည်။

တိဗက်ပြည်တွင် မှော်ပညာကို တတ်မြောက်သဖြင့် သိဒ္ဓိမြောက်သွားသော ပုဂ္ဂိုလ် ၈၄-ယောက် ရှိသည်ဟု အဆိုရှိ၏။ ဘယ်လိုပေါက်သွားသည်ဟုကား မသိရပေ။

အိန္ဒိယရှိ ဗုဒ္ဓဘာသာရဟန်းတို့သည်လည်း ဤကဲ့သို့ စိတ်ကူးယဉ်သိဒ္ဓိရှင်ဘဝစသည်တို့ကို ရလိမ့်နိုးဖြင့် မျှော်ကိုးကျင့်သုံးနေကြသည်။ ဗုဒ္ဓဘုရား၏ လက်တွေ့ကျသော လူသားအကျိုးပြုလုပ်ငန်းကိုမူ လျစ်လျူရှုနေကြ၏။ အိန္ဒိယတွင် အလွန်ထင်ရှားခဲ့သော နာလန္ဒဗုဒ္ဓတက္ကသိုလ်ကဲ့သို့ မဟာပညာဌာနကြီးကလည်း အိပ်မက်ထဲက အလှမယ်ကို တကယ်ရလိမ့်နိုးဖြင့် မျှော်ကိုးရှာဖွေနေသော ပညာမျိုးကို အားပေးသင်ကြားနေခဲ့သည်။



**စိတ်တန်ခိုး**

စိတ်၏ လွတ်မြောက်မှုသည် ဘဝထဲ၌မရှိ။
ဘဝ၏လွတ်မြောက်မှုသည် စိတ်ထဲ၌ရှိ၏။

**သိသူ မသိသူ**

သိသူသည် မရှိသူကို သိ၏။ ရှိသူကို သိ၏။
မသိသူသည် မရှိသူကိုမသိ။ ရှိသူကို မသိ။

**ဖြေရှင်းချက်**

သဘာဝကြောင့် ဖြစ်သော အလိုဆန္ဒကို
သဘာဝ ပစ္စည်းဖြင့် ဖြေရှင်းနိုင်၏။
အလိုကြောင့် ဖြစ်သော သဘာဝကို
နဂို သဘာဝဖြင့် ဖြေရှင်းနိုင်၏။

(ဘုန်းနွယ်၏ အတွေးအမြင်များမှ)

# အခန်း (၂)

## ထေရဝါဒသာသနာ ပြန့်ပွားရာ

အေဒီ ၁၂-ရာစုတွင် အိန္ဒိယနိုင်ငံ၌ ဗုဒ္ဓဘာသာ ကွယ်ပျောက်သွားခဲ့ရသည်။ ထိုအချိန်တွင် အာရှတိုက်တစ်ခွင်၌ ဗုဒ္ဓဘာသာ ပြန့်ပွားထွန်းနေလေပြီ။

အာရှတိုက်ဒေသအချို့တွင် အသောကလက်ထက်၊ သို့မဟုတ် ထို့ထက်စောသော ကာလကပင် ဗုဒ္ဓသာသနာ ရောက်ရှိပြန့်ပွားနေခဲ့၏။ မဟာယာနဗုဒ္ဓဘာသာသည် မြောက်ပိုင်းဒေသကြီးများ၌ စည်ပင်နေသကဲ့သို့ ထေရဝါဒဗုဒ္ဓဘာသာသည်လည်း တောင်ပိုင်းဒေသများ၌ ထွန်းပြန့်နေလေသည်။

ထေရဝါဒဗုဒ္ဓဘာသာ ထွန်းပြန့်ရာ နိုင်ငံများကား ယခု သီရိလင်္ကာခေါ် သီဟိုဠ်နိုင်ငံ၊ မြန်မာနိုင်ငံ၊ ထိုင်းနိုင်ငံ၊ ကမ္ဘောဒီးယားနိုင်ငံနှင့် လောနိုင်ငံတို့ ဖြစ်သည်။

ထိုနိုင်ငံများသို့ ထေရဝါဒဗုဒ္ဓဘာသာ ရောက်ရှိပြန့်ပွားလာပုံသမိုင်းအချုပ်ကို ထုတ်နုတ် လေ့လာကြပါဦးစို့။

### သီဟိုဠ်နိုင်ငံ ထေရဝါဒဖြစ်စဉ်

ဗုဒ္ဓဘုရားရှင် ပရိနိဗ္ဗာန်ပြုပြီးနောက် သာသနာသက္ကရာဇ် ၂၃၅-ခုနှစ်၌ အသောကမင်းတရားသည် ၉-တိုင်းဒေသ ၉-ဌာနသို့ သာသနာပြုလုပ်ငန်းများ ဆောင်ရွက်ရန် ရဟန်းတော်များကို စေလွှတ်သည်။ ဤဌာနများတွင် ယခု သီရိလင်္ကာ ခေါ် သီဟိုဠ်နိုင်ငံလည်း ပါဝင်၏။

သီဟိုဠ်နိုင်ငံ၌ တာဝန်ကျသော မထေရ်များမှာ သားတော်အရှင်မဟိန္ဒနှင့် နောက်ပါသံဃာတော် ၅-ပါးဖြစ်သည်။ အရှင်မဟိန္ဒမထေရ်နှင့် အဖွဲ့သည် ၂၃၆-ခု၊ နယုန်လပြည့်နေ့တွင် သီဟိုဠ်နိုင်ငံသို့ ရောက်ရှိကြလေသည်။

ထို့နောက် သမီးတော် သံဃမိတ္တာထေရီကိုလည်း သီရိလင်္ကာသူ အမျိုးသမီး

များအား ဘိက္ခုနီ(ရဟန်းမ) ပြုလုပ်ပေးရန်အတွက် စေလွှတ်ခဲ့ပြန်သည်။ သံဃမိတ္တာ ထေရီမယ်သည် ဗုဒ္ဓဂါယာရှိ မဟာဗောဓိပင်မှ တောင်ကိုင်းကို ပွားယူကာ သီဟိုဠ်သို့ ပင့်ဆောင်ခဲ့သည်။ သီဟိုဠ်နိုင်ငံ အနုရာဓမြို့၌ စိုက်ပျိုးထားရာ ယခုတိုင် မျိုးဆက်မပြတ် ရှိနေလေသည်။

အရှင်မဟိန္ဒတို့ ရောက်ရှိသွားချိန်တွင် သီဟိုဠ်နိုင်ငံ၌ ဒေဝါနံပိယတိဿမင်း အုပ်စိုးနေချိန် ဖြစ်သည်။ ထိုမင်းသည် အဘိသိက်ခံ၍ တစ်လမျှသာ ရှိသေးသည်။

ပိယတိဿမင်းသည် မင်းဖြစ်၍ တစ်လမြောက်သော နယုန်လပြည့်နေ့တွင် မိဿကတောင်သို့ တောကစားထွက်လာသည်။ ထိုတောင်ပေါ်၌ပင် အရှင်မဟိန္ဒ မထေရ်နှင့် တွေ့ဆုံဖူးကြို့ရသည်။

အရှင်မဟိန္ဒမထေရ်က ဒေဝါနံပိယတိဿမင်းအား စူဠဟတ္ထိ ပဒေါပမသုတ်ကို ဟောကြားသည်။ ဒေသနာတော်အဆုံးတွင် နောက်လိုက်အခြွေအရံ ၄၀၀၀၀ (လေးသောင်း)နှင့်တကွ သရဏဂုံတည်ကြပြီး ဗုဒ္ဓဘာသာဝင်ဖြစ်ကုန်ကြသည်။

အရှင်မဟိန္ဒမထေရ်နှင့်အဖွဲ့သည် ဝါဆိုလပြည့်နေ့တွင် ဥပုသ်အိမ် သိမ်ကို သမုတ်ကြပြီး အရိဋ္ဌအမတ်နှင့် ၅၅-ယောက်တို့ကို ရဟန်းခံပေးသည်။ ထိုနှစ်တွင် မိဿကတောင်၌ပင် ဝါကပ်၍ သာသနာပြုတော်မူကြသည်။

ဒေဝါနံပိယတိဿမင်းသည် မထေရ်များ သီတင်းသုံးရန်အတွက် မဟာဝိဟာရကျောင်းတိုက်ကို ဆောက်လုပ်လှူဒါန်းသည်။ ထို့ပြင် စေတီ၊ ပုထိုး၊ ဗောဓိ၊ သိမ်၊ အရာမ်များကိုလည်း တည်ထားဆောက်လုပ်လေသည်။

နောက်မင်းများ လက်ထက်တွင်လည်း ဗုဒ္ဓသာသနာကို ဆက်လက်အားပေးခဲ့ကြသည်။ ထိုမင်းများထဲတွင် ဗုဒ္ဓဘာသာကို အထူးအားပေးသော မင်းများလည်း ပေါ်ထွက်ခဲ့သည်။ ဒုဋ္ဌဂါမဏိမင်းသည် လောဟပါသာဒခေါ် ကျောင်းတိုက်ကြီးကို တည်ထောင်သည်။ အနုရာဓမြို့တော်၌ မဟာစေတီကြီးကိုလည်း တည်ထားသည်။ ထိုစေတီကြီးသည် သီရိလင်္ကာနိုင်ငံ၌ ယခုတိုင် ထင်ရှားသော စေတီကြီးဖြစ်သည်။

သီဟိုဠ်သံဃာတို့၏ ထူးခြားသော ဆောင်ရွက်ချက်မှာ ဗုဒ္ဓဒေသနာတို့ကို သံဂါယနာပွဲ ကျင်းပ၍ ပေလွှာရွက်ဖြင့် အက္ခရာတင်နိုင်ခြင်းပင် ဖြစ်ပါသည်။

## သီဟိုဠ်သံဃာဂိုဏ်းများ

သီဟိုဠ်နိုင်ငံ၌လည်း ထေရဝါဒသာသနာရေးဆိုင်ရာ ဂိုဏ်းကွဲများ ပေါ်ထွက်ခဲ့ပါသည်။ ဤသို့ ကွဲပြားလာခဲ့သည်မှာ နိုင်ငံအုပ်ချုပ်သော မင်းတို့က အားပေးခဲ့

သောကြောင့်လည်း ဖြစ်သည်။ သီဟိုဠ်နိုင်ငံတွင် ရှေးဦးခေတ်က ကွဲပြားသော ဂိုဏ်းကြီး ၃-ဂိုဏ်းရှိ၏။ ယင်းတို့မှာ -

(၁) မဟာဝိဟာရဝါသီဂိုဏ်း

(၂) အဘယဂိရိဝါသီဂိုဏ်း

(၃) ဇေတဝနဝါသီဂိုဏ်း တို့ဖြစ်ပေသည်။

မဟာဝိဟာရဝါသီဂိုဏ်း။ ။ ဤဂိုဏ်းကြီးမှာ အရှင်မဟိန္ဒမထေရ်တို့ခေတ်က တည်ရှိလာသော ပင်မဂိုဏ်းဖြစ်သည်။ ဒေဝါနံပိယတိဿမင်း တည်ထောင်ပေးသော မဟာဝိဟာရကျောင်းတိုက်ကြီး၌ မထေရ်များ စဉ်ဆက်မပြတ် စောင့်ရှောက်လာခဲ့သောကြောင့် 'မဟာဝိဟာရဝါသီဂိုဏ်း' ဟု ခေါ်တွင်လာခြင်း ဖြစ်သည်။

အဘယဂိရိဝါသီဂိုဏ်း။ ။ ဝဋ္ဋဂါမဏိမင်းသည် ကျည်းသားတို့၏ ဘေးရန်ကြောင့် ထွက်ပြေးပုန်းရှောင်နေရစဉ် ရဟန်းတော်တို့က ပြုစုထောက်ပံ့ထားခဲ့သည်။ ထိုမင်းသည် နောက်ထပ်တစ်ကြိမ် မင်းဖြစ်လျှင် အဘယဂိရိကျောင်းတိုက်နှင့် အဘယဂိရိစေတီတော်ကို တည်ထား၍ ကျေးဇူးပြုခဲ့ဖူးသော အရှင်တိဿမထေရ်အား တင်လှူသည်။

ထိုအရှင်တိဿမထေရ်သည် ကုလသံသဋ္ဌ ဖြစ်သောကြောင့် မဟာဝိဟာရဝါသီ ရဟန်းတို့က ပဗ္ဗာဇနီယကံ ပြုကြသည်။ ထိုအခါ အရှင်တိဿ၏တပည့်ဖြစ်သူ မဟာဒဋ္ဌိယတိဿ ရဟန်းက တားမြစ်သည်။ ထိုရဟန်းကိုလည်း မစင်ကြယ်မှုကို အတုလိုက်သူဟု ဆိုကာ ဝိုင်းပယ်မှု (ဥက္ခေပနီယကံ)ပြုကြပြန်သည်။

ထိုရဟန်းသည် မိမိအားဝိုင်းပယ်မှုကို မကျေနပ်သောကြောင့် သံဃာ ၅၀၀-တို့ကို ခွဲယူ၍ မဟာဝိဟာရဝါသီဂိုဏ်းမှ ထွက်သွား၏။ ထိုအချိန်မှစ၍ အဘယဂိရိဝါသီဂိုဏ်းဟု ထင်ရှားသွား၏။ ထိုဂိုဏ်းခွဲသောနှစ်မှာ သာသနာနှစ် ၄၅၄-ခုနှစ် တည်း။

ဇေတဝနဝါသီဂိုဏ်း။ ။ ထိုဂိုဏ်းသည် မဟာသေနမင်းလက်ထက်တွင် ပေါ်ပေါက်လာသည်။ မဟာသေနမင်းသည် မဟာဝိဟာရဝါသီကျောင်းတိုက်ကြီး အတွင်း၌ ဇေတဝန်ကျောင်းကြီးကို တည်ဆောက်သည်။ ထိုကျောင်းကြီးသို့ ဒက္ခိဏာဂိရိကျောင်းတိုက်မှ သံဃာများက လာရောက်နေထိုင်ကြသည်။ ထိုသံဃာများသည် မဟာဝိဟာရဝါသီ ရဟန်းတို့နှင့် ပေါင်းဖော်မှုမပြုဘဲ သီးခြားဂိုဏ်းတစ်ခုကို ထူထောင်ကြသည်။ ဇေတဝနဝါသီဂိုဏ်းဟု ခေါ်ကြသည်။

ဇေတဝနဝါသီတို့သည် မဟာဝိဟာရဝါသီဂိုဏ်း ပျက်စီးစေရန် မဟာသေန မင်းနှင့်တိုင်ပင်၍ မဟာဝိဟာရကျောင်းတိုက်ကြီးကို ဖျက်ဆီးကြ၏။ ဒုဋ္ဌဂါမဏီမင်းကြီး ဆောက်လုပ်ခဲ့သော လောဟပါသာဒပြာသာဒ်ကျောင်းကြီးကို ဖျက်ဆီးပစ်ကြသည်။ ထို့ကြောင့် မဟာဝိဟာရကျောင်းတိုက်ကြီးမှာ ၉-နှစ်မျှ သံဃာဆိတ်သုဉ်း နေရလေသည်။

ဖော်ပြပါ ဂိုဏ်းကြီး ၃-ဂိုဏ်းတို့မှာ သီဟိုဠ်နိုင်ငံ၌ နှစ်ပေါင်းအတော်ကြာမျှ တည်တံ့နေခဲ့သည်။ သီရိသံဃဗောဓိ ပရက္ကမဗာဟုမင်း နန်းတက်လာသော အခါတွင် မဟာဝိဟာရဝါသီ သံဃာတို့အား သန့်စင်သော ဂိုဏ်းသံဃာဟူ၍ အသိအမှတ်ပြုသည်။ ကျန် ၂-ဂိုဏ်းမှ သံဃာတို့ကို အကျင့်မဲ့သော ဒုဿီလများဖြစ်သည် ဟုဆိုကာ လူထွက်စေသည်။ ထိုအချိန်မှစ၍ မဟာဝိဟာရဝါသီဂိုဏ်းသာ ကျန်ရှိတော့သည်။

## ယခုခေတ်ဂိုဏ်းများ

ယခုအချိန်တွင် သီရိလင်္ကာနိုင်ငံ၌ ရှေးဦးဂိုဏ်းကြီး ၃-ဂိုဏ်းစလုံး ကွယ်ပျောက်ခဲ့ပြီ။ ထိုနိုင်ငံ၌ တိုင်းတစ်ပါးသားများ ဝင်ရောက်စိုးမိုးသောကြောင့်လည်းကောင်း၊ သဘာဝဘေးအန္တရာယ်များကြောင့်လည်းကောင်း ထေရဝါဒ သာသနာ အားနည်းမှေးမှိန်ခဲ့ရသည်။ ထို့ကြောင့် နောက်ပိုင်းခေတ်များတွင် မြန်မာနိုင်ငံနှင့် ထိုင်းနိုင်ငံတို့မှ အကူအညီဖြင့် သာသနာတော် ပြန်လည်အားဆက်ခဲ့ရပေသည်။

ယခုအချိန်တွင် သီရိလင်္ကာနိုင်ငံ၌ အောက်ပါဂိုဏ်းကြီးများ ထွန်းကား ပြန့်ပွားလျက်ရှိသည်။

သျှာမ်းဂိုဏ်း။ ။ သာသနာသက္ကရာဇ် ၂၂၈၉-ခုနှစ် နန်းတက်သော ကိတ္တိသိရိ ရာဇသီဟမင်းလက်ထက် ရဟန်းသံဃာများမရှိသောကြောင့် ယိုးဒယားခေါ် ထိုင်းနိုင်ငံမှ ရဟန်းတို့ကို ပင့်ဆောင်၍ သာသနာကို ပြုစုခဲ့ရ၏။ ထိုဂိုဏ်းကို သျှာမ်းဂိုဏ်း (သျှာမနိကာယ)ဟု ခေါ်သည်။

အမရပူရဂိုဏ်း။ ။ သာသနာနှစ် ၂၃၄၄-ခုနှစ်တွင် သီဟိုဠ်သာမဏေ ၆-ပါးနှင့် ဥပါသကာတစ်ယောက် မြန်မာနိုင်ငံ အမရပူရမြို့တော်သို့ ရောက်ရှိလာပြီး ဆင်ကြီးရှင်ဂူသိမ်၌ ဉာဏာဘိဝံသ မွေသေနာပတိမထေရ်ကို ဥပဇ္ဈာယ်ပြု၍ ပဉ္စင်းခံကြသည်။ ထို့နောက်လည်း သီဟိုဠ်ရဟန်းတို့ လာရောက်ပြီး သိက္ခာသစ်တင်ယူ

ကြသည်။ ထိုရဟန်းတို့၏ အဆက်အနွယ်များသည် သီဟိုဠ်နိုင်ငံ၌ အမရပူရဂိုဏ်း (အမရပူရနိကာယ) ဟု ထင်ရှားသည်။

ရာမညဂိုဏ်း။ ။ သာသနာနှစ် ၂၄၀၆-ခုနှစ်တွင် သီဟိုဠ်မှ အရှင်ဓမ္မာလင်္ကာရ၊ အရှင်သုမနတိဿနှင့် ရဟန်း ၁၇-ပါးတို့သည် ရာမညတိုင်း ပဲခူးမြို့သို့ ကြွရောက်လာကြပြီး ရန်ကုန်မြို့မှ သဒ္ဓမ္မဓရမဟာထေရ်ကို ဥပဇ္ဈာယ်ပြု၍ ကလျာဏီ သိမ်တော်၌ သိက္ခာသစ် တင်ယူကြသည်။ ထိုဂိုဏ်းကို ရာမညဂိုဏ်း (ရာမည နိကာယ) ဟု ခေါ်ကြသည်။

ထို့ပြင် ဒုတိယကမ္ဘာစစ် မတိုင်မီက သီဟိုဠ်သား အချို့သည် မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံတိုက်သို့ လာရောက်၍ ပညာသင် ခဲ့ကြဖူးသည်။ ထိုရဟန်းများထဲမှ ရှင်သီရိသဒ္ဓမ္မဆရာတော်သည် သီဟိုဠ်ပြန်ရောက်သောအခါ မဟာဝိသုဒ္ဓါရာမ ကျောင်းတိုက်ကို တည်ထောင်၍ သာသနာပြုရာ ဆက်ပွားတပည့် သံဃာများ ထွန်းကားခဲ့၏။ သို့ရာတွင် ထိုဆရာတော် ပျံလွန်သည့်နောက် တပည့် ရဟန်းများ၏ အားနည်းမှုကြောင့် သီရိလင်္ကာ ရွှေကျင်ဂိုဏ်းမှာ ထင်ရှားခြင်း မရှိတော့ချေ။

## ထိုင်းနိုင်ငံ ထေရဝါဒဖြစ်စဉ်

ထိုင်းနိုင်ငံသည် ခေတ်ဦးကာလက ထိုင်းလူမျိုးများနယ်မြေ မဟုတ်ပေ။ မွန်လူမျိုးတို့ အခြေစိုက်ခဲ့သော နိုင်ငံဖြစ်သည်။ မွန်လူမျိုးတို့သည် ယခု ထိုင်းနိုင်ငံ နယ်မြေ၌ မွန်ပြည်ထောင် ၂-ခုကို တည်ထောင်ခဲ့ကြသည်။ တောင်ပိုင်းမွန်နိုင်ငံကို ဒွါရာဝတီဟုခေါ်၏။ မြို့တော်မှာ လောဗ္ဗူရီ (လဝပူရ)ဖြစ်သည်။ လောဗ္ဗူရီမြို့ကား ယခုတိုင်ရှိသေးသည်။ ဗန်ကောက်မြို့တော်၏မြောက်ဘက် မဲနမ်မြစ်ကမ်းပေါ်၌ တည်ရှိသည်။

မြောက်ပိုင်းနိုင်ငံကို ဟရိဘုဥ္စဟု ခေါ်သည်။ မြို့တော်မှာ လန်ဖုန်းဖြစ်သည်။ ထိုမြို့မှာလည်း ဇင်းမယ်မြို့တောင်ယွန်း၌ ယခုတိုင် ရှိနေပါသေး၏။

ဒွါရာဝတီနိုင်ငံသည် အေဒီ ၇၀၀-ခုတွင် တန်ခိုးအကြီးမားဆုံးသော ကာလ ဖြစ်သည်။ အေဒီ ၁၀-ရာစုကျော်လောက်တွင် ကမ္ဗောဒီးယားလူမျိုးများ လာရောက် တိုက်ခိုက်ကြသောကြောင့် မွန်နိုင်ငံ ပျက်စီးခဲ့ရသည်။ ယင်းခမာ(ကမ္ဗောဒီးယား) လူမျိုးတို့သည် ထိုင်းနိုင်ငံအလယ်ပိုင်းအထိ စိုးမိုးအုပ်ချုပ်နေကြသည်။ ထို့ကြောင့် လောဗ္ဗူရီမင်းသမီး ချာမဒေဝီသည် အင်အားသစ်များစုရုံး၍ ဟရိပုဥ္စယနိုင်ငံကို ပြန်လည်ထူထောင်ခဲ့သည်။

ထိုအချိန်တွင် တရုတ်ပြည်အနောက်တောင်ပိုင်းမှ ထိုင်းလူမျိုးတို့သည် တောင်ဘက်သို့ တဖြည်းဖြည်း ရွေ့ဆင်းလာကြသည်။ ထိုင်းလူမျိုးတို့သည် ၁၁-ရာစုလောက်တွင် ကမ္ဘောဒီးယား ခေါ် ခမာတို့ အုပ်ချုပ်ရာနယ်မြေသို့ ရောက်ရှိလာကြ၏။ ခမာတို့အုပ်ချုပ်မှုအောက်၌ ခိုလှုံနေခဲ့ကြသည်။

ထိုစဉ်က ထိုင်းလူမျိုးတို့သည် အုပ်စိုးသူ ခမာတို့ ကိုးကွယ်သော မဟာယာန ဗုဒ္ဓဘာသာနှင့် ဗြာဟ္မဏဘာသာတို့ကိုပင် ကိုးကွယ်ကြသည်။ ထို့ကြောင့် ထိုင်းလူမျိုးတို့အပေါ်၌ မဟာယာနနှင့် ဗြာဟ္မဏတို့၏ ယဉ်ကျေးမှုများ လွှမ်းမိုးခံခဲ့ရသည်။ ယခုတိုင် ထိုင်းတို့၏ ဓလေ့ထုံးစံများနှင့် ပွဲလမ်းသဘင်အခမ်းအနားများတွင် မဟာယာနနှင့် ဟိန္ဒူဘာသာယဉ်ကျေးမှု အရိပ်အငွေ့များ ထင်ဟပ် တင်ကျန်နေဆဲဖြစ်ပေသည်။

## ထိုင်းနိုင်ငံ တည်ထောင်ခြင်း

ခရစ်နှစ် ၁၃-ရာစု အလယ်ပိုင်းလောက် ရောက်သောအခါ ထိုင်းလူမျိုးတို့သည် အင်အားကောင်းလာသဖြင့် ကမ္ဘောဒီးယားတို့ကို တိုက်ထုတ်လိုက်ကြသည်။ ဟရိပုဥ္စယနိုင်ငံငယ်ကိုလည်း ဖျက်ဆီး၍ သိမ်းပိုက်လိုက်ကြသည်။ ထိုင်းလူမျိုးတို့သည် မြောက်ပိုင်း၌ လန်နာ(Lanna) နိုင်ငံကိုလည်းကောင်း၊ အလယ်ပိုင်း၌ ဆူခိုထိုင်း (Sukhothai) နိုင်ငံကိုလည်းကောင်း တည်ထောင်လိုက်ကြသည်။ ထိုအချိန်မှစ၍ ထိုင်းနိုင်ငံဟု ထင်ရှားပေါ်ပေါက်လာလေသည်။

ထိုင်းလူမျိုးတို့သည် ကမ္ဘောဒီးယားတို့၏လက်အောက်၌ နေစဉ်ကပင် ထေရဝါဒဗုဒ္ဓဘာသာကို လက်ခံရရှိနေပြီဟု ဆိုသည်။ ထိုင်းရာဇဝင်များအရ မြန်မာနိုင်ငံမှ "အနော်ရထာမင်းကြီးသည် ထိုင်းနိုင်ငံသို့ ထေရဝါဒဗုဒ္ဓဘာသာကို ဖြန့်ဖြူးပေးခဲ့ကြောင်း၊ အနော်ရထာ၏ ကျေးဇူးကြောင့် ထေရဝါဒတရားတော်များ ရရှိခဲ့ကြောင်း" စသည်ဖြင့် ချီးကျူးရေးသားကြသည်။ ထိုအကြောင်းကို မြန်မာရာဇဝင်တို့၌ မတွေ့ရချေ။

ထိုင်းလူမျိုးတို့သည် လန်နာနှင့် ဆူခိုထိုင်း ၂-နိုင်ငံကို တည်ထောင်ပြီးသည့်နောက်တွင်မှ ထိုင်းဘုရင်တို့သည် သီရိလင်္ကာနိုင်ငံသို့ ရဟန်းတော်များကို စေလွှတ်၍ ပညာသင်ယူစေခဲ့သည်။ သီရိလင်္ကာမှ ပညာတတ်ဆရာတော်များကိုလည်း ထိုင်းနိုင်ငံသို့ ပင့်ဆောင်၍ ထေရဝါဒသာသနာတော်ကို ပြုစုစေခဲ့ကြသည်။

ဤသို့ဆောင်ရွက်ခဲ့ကြသဖြင့် ကမ္ဘောဒီးယားလက်အောက်ခံဘဝက ခံယူခဲ့

သော မဟာယာနနှင့် ဗြာဟ္မဏအယူဝါဒများမှာ တဖြည်းဖြည်း မြုပ်တိမ်မှေးမှိန်သွားရသည်။ နောက်ပိုင်းတွင် ထေရဝါဒက လွှမ်းမိုးလာပြီး ထေရဝါဒဗုဒ္ဓဘာသာသည်သာလျှင် နိုင်ငံတော်ဘာသာအဖြစ်သို့ ရောက်ရှိလာလေသည်။

ခရစ်နှစ် ၁၉-ရာစုအလယ်ပိုင်းတွင် အုပ်စိုးသော မောင်းကွတ်(Mongkut) ဘုရင်သည် ဘုန်းကြီးသော မင်းတစ်ပါးဖြစ်သည်။ ထေရဝါဒဗုဒ္ဓဘာသာကိုလည်း အလွန်ရိုသေသူ ဖြစ်၏။ မိမိကိုယ်တိုင် ၂၇-နှစ်ကြာမျှ မွန်ဆရာတော်ကြီးထံတွင် ရဟန်းဝတ်ခဲ့ပြီးမှ မင်းပြုခဲ့သူလည်း ဖြစ်၏။

မောင်းကွတ်ဘုရင်သည် သာသနာတော် သန့်ရှင်းစေရန်နှင့် ဝိနည်းစည်းကမ်းများကို လိုက်နာစေရန်အတွက် ထမယုတ်ခေါ်သော ဓမ္မယုတ္တိဂိုဏ်းကို စတင် တည်ထောင်သည်။ ထိုအချိန်မှစ၍ ထိုင်းနိုင်ငံ၌-

(၁) ထမယုတ်ဂိုဏ်း(ဓမ္မယုတ္တိဂိုဏ်း)

(၂) မဟာနိကိုင်ဂိုဏ်း (မဟာနိကာယဂိုဏ်း)

ဟူ၍ ဂိုဏ်းကြီး ၂-ဂိုဏ်း ဖြစ်ပေါ်လာလေသည်။

## ကမ္ဘောဒီးယားနိုင်ငံ ထေရဝါဒဖြစ်စဉ်

အင်ဒိုချိုင်းနားကျွန်းဆွယ်ကြီးသည် အေဒီ ၁-ရာစုလောက်ကပင် အိန္ဒိယကုန်သည်များ ကူးသန်းသွားလာရာ ဖြစ်ခဲ့သည်။ အင်ဒိုချိုင်းနားကို ရှေးအခါက အာနံဟု ခေါ်ကြသည်။ အိန္ဒိယနိုင်ငံမှ ပလ္လဝါလူမျိုးတို့သည် အာနံဒေသသို့ ကုန်ရောင်းကုန်ဝယ် လာရောက်ကြသည်။ အချို့ပလ္လဝါတို့သည် စမ္ပာ (Champa)အရပ်တွင် အခြေချကာ စူမတြား (သုမိတ္တ)၊ ဂျာဗားနှင့် အရှေ့အိန္ဒိယကျွန်းစုများသို့ ကူးသန်းနေခဲ့ကြသည်။ နှစ်ရှည်လာသောအခါ စမ္ပာသည် ကုန်သွယ်ဆိပ်ကမ်းဖြစ်၍ စည်ကားလာသည်။

ပထမဦးဆုံး စမ္ပာဒေသကို အုပ်စိုးသော ဘုရင်မှာ အိန္ဒိယနိုင်ငံ ပလ္လဝါနေပြည်တော် ကန်ချီမှ ဗြာဟ္မဏအနွယ်ဝင် ကောဏ္ဍညဖြစ်သည်။ ကောဏ္ဍညသည် မင်းပြု၍ ဘိသိက်ခံသောအခါ ပလ္လဝါမင်းများ ခံယူသောဘွဲ့အတိုင်း ဝရမန် (Varman)ဟူသော ဘွဲ့ကို ခံယူသည်။

ထိုအချိန်က မင်းများသည် ဟိန္ဒူဘာသာကို အဓိကအားဖြင့် ကိုးကွယ်ကြသည်။ ထေရဝါဒမှ ခွဲထွက်ထားသော သဗ္ဗတ္ထိဝါဒီဂိုဏ်းလည်း အနည်းအကျဉ်း ရှိသည်ဟု သိရသည်။

ကမ္ဘောဒီးယားတောင်ပိုင်း၌ ဟိန္ဒူမင်းများ အုပ်စိုးနေချိန်တွင် မြောက်ပိုင်းဒေသ၌မူ ကမ္ဗုဇဟူသော လူမျိုးများနေထိုင်ကြသည်။ ထိုလူမျိုးတို့သည် အေဒီ၄၃၅-ခုနှစ်တွင် ကမ္ဘောဇနိုင်ငံကို ထူထောင်ကြသည်။ ကမ္ဘောဇမင်းများသည် မိမိတို့၏နယ်တွင် ဗုဒ္ဓသာသနာ့အဆောက်အအုံများကို ဆောက်လုပ်ကြ၏။ စေတီပုထိုးတို့ကို တည်ထားကြ၏။ ဗုဒ္ဓဘာသာကို စုမတြာကျွန်း၊ သီရိဝိဇယနိုင်ငံမှ ရယူကိုးကွယ်ကြသည်။

အေဒီ၉-ရာစုတွင် ဇယဝရမန် (Jaya Varman)မင်းသည် ကမ္ဘောဒီးယားနိုင်ငံတွင် အင်ကောအမည်ရှိသော မြို့တော်ကို တည်ဆောက်သည်။ အင်ကောအဓိပ္ပာယ်မှာ မင်းနေပြည်ဖြစ်သည်။ အင်ကောနေပြည်တော်၌ အင်ကောဝပ်ခေါ် ဘုရားကျောင်းကြီးကိုလည်း ကြီးကျယ်ခမ်းနားစွာ ဆောက်လုပ်၏။ ထိုကျောင်းကြီးသည် ကမ္ဘာ့အံ့ဖွယ်များအနက် တစ်ခုအပါအဝင် ဖြစ်သည်။

အင်ကောဘုရင်တို့သည် ဟိန္ဒူဘာသာဝင်များဖြစ်သော်လည်း မဟာယာနဗုဒ္ဓဘာသာကိုလည်း အားပေးချီးမြှောက်ခဲ့ကြသည်။

## သတ္တမ ဇယဝရမန်နှင့် ဗုဒ္ဓဘာသာ

အေဒီ၁၁-ရာစုခန့်တွင်မူ ဗုဒ္ဓဘာသာကို ကြည်ညိုကိုးကွယ်သောမင်းများပေါ်ပေါက်လာသည်။ ထိုအချိန်က ဗုဒ္ဓဘာသာမှာ မဟာယာန ဗုဒ္ဓဘာသာ ဖြစ်၏။ ဗုဒ္ဓဘာသာကို အားပေးသော မင်းများအနက် သတ္တမမြောက် ဇယဝရမန်မင်းသည် အကြီးကျယ်ဆုံး အားပေးသော မင်းတစ်ပါး ဖြစ်သည်။ ထိုမင်းသည် အခြားနိုင်ငံတော်ဖွံ့ဖြိုးရေးကိုလည်း စွမ်းစွမ်းတမံ ဆောင်ရွက်သည်။ အင်ကောမြို့တော်သစ်ကို ၁၂-ရာစုအတွင်း၌ တည်ဆောက်ခဲ့သည်။

အင်ကောမြို့တော်သစ်ကို အလျား၂မိုင်၊ အနံ၂မိုင်ကျယ်ဝန်းသော စတုရန်းပုံဖြင့် တိကျစွာ ဆောက်လုပ်ထား၏။ မြို့တော်အလယ်ဗဟိုတွင် ဘာယွန်အမည်ရှိ ဗုဒ္ဓဘာသာ ကျောင်းကြီးကိုလည်း တည်ဆောက်သည်။ ဘာယွန်ကျောင်းကြီးသည် ပေပေါင်း ၁၃၀-မြင့်သည်။ ဝရမန်မင်းသည် ကျောင်းတော်ကြီးကို အနုပညာလက်ရာများစွာဖြင့် ခြယ်မှုန်းတည်ဆောက်သည်။ ကျောင်းတော်၏ ဗဟိုမျှော်စင်ကြီးတွင် ဉာဏ်တော် ၁၀၂-ပေရှိ ဗုဒ္ဓရုပ်ပွားတော်ကြီးကို ထုလုပ်ပူဇော်ထားခဲ့လေသည်။

ဝရမန်မင်းသည် နန်းစံပြီးနောက် ၅-နှစ်အကြာတွင် တာပရွန်ခေါ် ကျောင်း

တိုက်ကြီးကိုလည်း တည်ဆောက်ခဲ့သည်။ ကျောင်းတော်ကြီးမှာ မိဖုရားကြီး၏ မယ်တော်အတွက် ရည်စူး၍ ဆောက်လုပ်ခဲ့ခြင်းဖြစ်ပေသည်။

တာပရွှန်ကျောင်းတော်ကြီး ဆောက်လုပ်ရန်အတွက် ကျေးရွာပေါင်း ၃၁၄၀-မှ ရွာသူရွာသားပေါင်း ၇၉၃၆၅-ယောက်ကို အလုပ်တာဝန်ပေးခဲ့သည်ဟု ဆိုပါသည်။ ထိုကျောင်းတိုက်ကြီး၌ -

-ဆရာတော်ကြီးပေါင်း ၁၈-ပါး

-ရဟန်းတော်ပေါင်း ၂၇၄၀-ပါး

-သာမဏေပေါင်း ၂၂၀၂-ပါး သီတင်းသုံး နေထိုင်ကြလေသည်။

အေဒီ၁၂၀၀-ခုလောက်မှာပင် ဝရမန်မင်းဆက်လည်း ကုန်ဆုံးခဲ့ပါသည်။

အေဒီ၁၂-ရာစုလောက်တွင် မြန်မာနိုင်ငံမှ ရဟန်းတော်တစ်ပါးသည် ကမ္ဘောဒီးယားနိုင်ငံသို့ ကြွရောက်၍ ထေရဝါဒဗုဒ္ဓသာသနာကို ဟောကြားဖြန့်ဖြူးခဲ့သည်။ ထိုအချိန်တွင် ကမ္ဘောဒီးယားဘုရင်တို့သည် ထေရဝါဒ ဗုဒ္ဓဘာသာကို နှစ်ခြိုက်ကြသဖြင့် အားပေးကူညီခဲ့ကြသည်။ နောက်ပိုင်းတွင် ထေရဝါဒသာသနာ ပြန့်ပွားလာရာ ၁၃-ရာစုကုန်ချိန်၌ မဟာယာနနှင့် ဟိန္ဒူဘာသာတို့ ပျောက်ကွယ်သွားရ၏။

၁၄-ရာစုလောက်တွင် သီရိလင်္ကာ ထေရဝါဒဗုဒ္ဓဘာသာနှင့်လည်းကောင်း၊ ထိုင်းနိုင်ငံ ထေရဝါဒ ဗုဒ္ဓဘာသာတို့နှင့်လည်းကောင်း ဆက်သွယ်မိကြသည်။ ထိုမှ နောက်ပိုင်းတွင် ထေရဝါဒသာ အခြေခိုင်၍ တည်တံ့လာခဲ့သည်။

ယခုအချိန်တွင် ကမ္ဘောဒီးယားနိုင်ငံ၌ ထေရဝါဒ ဗုဒ္ဓဘာသာသည် နေမင်းပမာ လမင်းအလား ထင်ရှားနေလေသည်။

## လောနိုင်ငံ ထေရဝါဒဖြစ်စဉ်

လော(လာအို)နိုင်ငံသည် ၁၄-ရာစုရောက်မှ သီးခြားနိုင်ငံ ပေါ်ပေါက်လာခဲ့ခြင်းဖြစ်သည်။ လောနိုင်ငံဖြစ်ပေါ်လာရေးအတွက် ခမာတို့က အကူအညီ ပေးခဲ့ကြရသည်။

လောနိုင်ငံတွင် အစောပိုင်းကာလများက မဟာယာနဗုဒ္ဓဘာသာလည်း ထွန်းကားခဲ့ဖူးသည်။ ထေရဝါဒဗုဒ္ဓဘာသာကိုမူ ခမာ(ကမ္ဘောဒီးယား)နှင့် ထိုင်းနိုင်ငံတို့မှတစ်ဆင့် ရရှိခဲ့သည်ဟု ဆိုပေသည်။

လောနိုင်ငံဘုရင်တို့သည် ထေရဝါဒဗုဒ္ဓဘာသာကို အားပေးချီးမြှောက်ခဲ့ကြသဖြင့် ၁၄-ရာစုကျော် ကာလကပင် ထေရဝါဒဗုဒ္ဓဘာသာကို နိုင်ငံတော်ဘာသာ

အဖြစ် ကြေညာနိုင်ခဲ့ကြသည်။

လောနိုင်ငံသည် ကွန်မြူနစ်များ အုပ်စိုးသော ကာလ၌လည်း ထေရဝါဒ ဗုဒ္ဓဘာသာမှာ ယိုင်လဲပြိုကွဲခြင်းမရှိဘဲ တည်တံ့မြဲတည်တံ့နေခဲ့သည်။ ဗုဒ္ဓဘာသာ အရှိန်အဝါ ကျဆုံးခြင်းမရှိဘဲ ပို၍ပင် တိုးတက်နေသည်ဟု ဆိုရပေမည်။

ယခုအချိန်တွင် လောနိုင်ငံရှိ လူဦးရေ ၉၅-ရာခိုင်နှုန်းမှာ ထေရဝါဒဗုဒ္ဓ ဘာသာဝင်များ ဖြစ်နေကြလေသည်။

# အခန်း (၃)

## ထေရဝါဒ သံဂါယနာပွဲများ

### သံဂါယနာ နိဒါန်း

ဗုဒ္ဓဘုရားရှင်သည် မဟာသက္ကရာဇ် ၁၄၈-ခု၊ (ဘီစီ ၅၄၄) ကဆုန်လပြည့် အင်္ဂါနေ့တွင် ကုသိနာရုံပြည် အင်ကြင်းဥယျာဉ်၌ ပရိနိဗ္ဗာန်ပြုတော်မူလေသည်။

ရှင်မဟာကဿပမထေရ်မြတ်သည် နောက်ပါ ရဟန်း၅၀၀- ခြံရံလျက် မြတ်စွာဘုရားကို ဖူးမြင်ရန် ပါဝါပြည်မှ ကုသိနာရုံပြည်သို့ ကြွလာကြသည်။

မထေရ်မြတ်နှင့်အဖွဲ့သည် လမ်းခရီးအကြား၌ ရာသီဥတု ပူပြင်းသောကြောင့် သစ်ပင်အောက်၌ နားခိုနေကြသည်။ ထိုစဉ် အာဇီဝက တက္ကတွန်း တစ်ယောက်သည် ကုသိနာရုံမှ ပါဝါပြည်သို့ လာနေ၏။ တက္ကတွန်းသည် အနားယူနေသော ရှင်မဟာကဿပနှင့် တွေ့ဆုံကြသည်။

ရှင်မဟာကဿပ မထေရ်မြတ်က မြတ်စွာဘုရားရှင်၏ အကြောင်းကို မေးမြန်းရာ "ဘုရားရှင် ပရိနိဗ္ဗာန်ပြုသွားပြီဖြစ်ကြောင်း" လျှောက်ထား၏။ ရဟန်းသံဃာတို့သည် ထိုသတင်းကို သိလိုက်ရသဖြင့် ဆောက်တည်ရာမရတော့ဘဲ ဝမ်းနည်း ပူဆွေး၍ ငိုကြွေးကြလေသည်။

အခြားရဟန်းတော်များ ငိုကြွေးနေကြသော်လည်း သုဘဒ်ရဟန်းမှာမူ ငိုကြွေးရမှန်းမသိ၊ ဘုရားမရှိတော့သည်ကိုပင် ဝမ်းသာနေ၏။ သုဘဒ်ရဟန်းသည် ငိုကြွေးသော ရဟန်းတော်တို့ကို အားပေးစကား ပြောကြားသည်။

'ငါ့ရှင်တို့၊ ဘာဖြစ်လို့ ငိုကြွေးနေကြသနည်း၊ ငါတို့ဟာ ဂေါတမရဟန်းကြီးလက်က လွတ်မြောက်သွားကြပြီ၊ ဂေါတမရှိတုန်းကဆိုလျှင် ငါတို့ကို ဒီအမှုမလုပ်နှင့်၊ ဒီအမှုကို လုပ်ရမည်' ဆိုပြီး ကန့်သတ်ချက်တွေ ပြုလုပ်နေခဲ့သည်။

သူမကြိုက်တာ လုပ်မိလျှင် ဘယ်အာပတ်သင့်စေဆိုပြီး ဥပဒေပညတ်ချက်တွေ နှင့် တားဆီးနေသည်။ ဂေါတမဟာ ငါတို့ကို နှိပ်စက်ညှဉ်းဆဲနေသူဖြစ်သည်။ ခုတော့ ငါတို့ ပြုလိုသမျှ ပြုနိုင်ကြပြီ၊ လုပ်ချင်ရာကို လုပ်နိုင်ပြီ၊ လွတ်လပ်ပြီ'

သုဘဒ်ရဟန်း၏ စကားကို ကြားရသဖြင့် ရှင်မဟာကဿပမထေရ်ကြီး သည် "ယခုချိန်ကပင် မဖွယ်မရာ ပြောဆိုစည်းရုံးနေပြီ၊ နောင်တစ်ချိန် ဒီရဟန်း မျိုးတွေ တိုးပွားလာပါက အဓမ္မမှုများ တွင်ကျယ်လာတော့မည်၊ သာသနာတော် လည်း အားနည်းလျော့ပါးချေတော့မည်။ ဗုဒ္ဓဘုရားရှင် ဟောကြားထားသော ဓမ္မဒေသနာတော်တို့ကို သံဂါယနာ တင်ထားမှသာလျှင် သင့်တော်လိမ့်မည်။"ဟု ကြံစည်စဉ်းစားမိလေသည်။

ရှင်မဟာကဿပနှင့်အဖွဲ့သည် ကုသိနာရုံပြည်သို့ ရောက်လာသောအခါ ဘုရားရှင်၏ ရုပ်ကလာပ်တော်ကို တေဇောဓာတ်လောင်ကျွမ်းခြင်း၊ ဓာတ်တော် ဖြန့်ချိခြင်း ကိစ္စတို့ကို ဆောင်ရွက်ရသည်။ ထို့နောက် နယုန်လဆန်း၅-ရက်နေ့ တွင် ဓာတ်တော်ထားရာ ဇရပ်၌ သံဃာအစည်းအဝေး ကျင်းပသည်။

သံဃာအစည်းအဝေးကြီးတွင် ရှင်မဟာကဿပမထေရ်ကြီးက သံဂါယနာ တင်ပွဲ ကျင်းပရေးကို အဆိုပြုလျှောက်ထား၏။

'ငါ့ရှင်တို့၊ သုဘဒ်ရဟန်းလို ရဟန်းဖျင်းများ အသင်းအပင်းများခဲ့လျှင် ဗုဒ္ဓဘုရားရှင်၏ ဩဝါဒဒေသနာတော်များ ကွယ်ပသွားနိုင်ပါသည်။ ဘုရားရှင် ၏ ဒေသနာတော်များ မပျက်မစီး တည်ရှိနေမှသာလျှင် ဘုရားရှင်၏ သာသနာ တော် အရှည်တည်တံ့နေမည် ဖြစ်ပါသည်။ ဒေသနာတော် တည်တံ့နေသမျှ ဘုရားရှင် သက်တော်ထင်ရှား ရှိနေသကဲ့သို့ ဖြစ်ပါမည်။ သို့ဖြစ်၍ -

- မသူတော်တရား မပြန့်ပွားမီ
- သူတော်ကောင်းတရား မပျောက်ပျက်မီ
- အလဇ္ဇီ အဝိနယဓမ္မ မပြန့်ပွားမီ
- လဇ္ဇီတို့ ဝိနည်းတရား မပျက်ပြားမီ
- အဓမ္မဝါဒီတို့ အင်အားမကောင်းမီ
- ဓမ္မဝါဒီတို့ အားမနည်းမီ -

ဘုရားရှင်ဟောကြားတော်မူသော သုတ္တန်ဒေသနာတော်၊ ဝိနည်းဒေသနာတော်၊ အဘိဓမ္မာဒေသနာတော်တို့ကို စုပေါင်း၍ သံဂါယနာတင်ကြပါကုန်အံ့၊'ဟု လျှောက်ထားသည်။

ရှင်မဟာကဿပ၏ အဆိုပြုချက်ကို သံဃာတော်တို့က 'အရှင်တင်ပြသော အကြောင်းမှာ အလွန်သင့်လျော်လှပါသည်၊ သံဂါယနာတင်ရန်အတွက် အရှင်ဘုရားက ဦးဆောင်ဦးရွက်ပြု၍ သင့်လျော်မည့်သံဃာတို့ကို ရွေးကောက်တော်မူပါ၊' ဟု လျှောက်ထားကြသည်။

## ပထမ သံဂါယနာပွဲတော်

ရှင်မဟာကဿပမထေရ်ကြီးသည် သံဂါယနာတင်ပွဲ ကျင်းပနိုင်ရန်အတွက် ပရိယတ္တိဓမ္မ ကျွမ်းကျင်တော်မူသော ပဋိသမ္ဘိဒါပတ္တရဟန္တာ ၄၉၉-ပါး ကို ရွေးချယ်စိစစ်၍ စာရင်းကောက်ယူသည်။ သံဂါယနာတင်ပွဲအတွက် ရဟန္တာ ၅၀၀-ပါဝင်ရန် ရည်ရွယ်ထားသည်။ ထိုအထဲတွင်လည်း ရှင်အာနန္ဒာ ပါဝင်ရန်လည်း ရည်ရွယ်ထားသည်။သို့သော်လည်း ထိုအချိန်၌ ရှင်အာနန္ဒာမှာ သောတာပန်အဆင့်သာ ရှိနေသေးသည့်အတွက် စာရင်းမသွင်းနိုင်သေးပေ။

ထိုအခါ အခြားသံဃာတော်တို့က ရှင်အာနန္ဒာသည် သေက္ခပုဂ္ဂိုလ်ပင်ဖြစ်သော်ငြားလည်း တရားတော်အရာမှာ ဘဏ္ဍာစိုးကြီးဖြစ်ကြောင်း၊ ဓမ္မက္ခန္ဓာပေါင်း ရှစ်သောင်းလေးထောင်ကို ဘုရားရှင်ရှေ့တော်မှာ သင်ကြား၍ နှုတ်တွင်ဆောင်ထားနိုင်သူဖြစ်ကြောင်း၊ မြတ်စွာဘုရား၏ အလုပ်အကျွေးဖြစ်ခဲ့သော လက်ရင်းတပည့်ကြီး ရှင်အာနန္ဒာကို ချန်ထားပြီး သံဂါယနာမတင်သင့်ကြောင်း လျှောက်ထားကြသည်။

ထိုအခါမှ ရှင်မဟာကဿပသည် ရှင်အာနန္ဒာကို ရွေးကောက်၍ သံဃာတော် ၅၀၀-ပြည့်သွား၏။

ရှင်အာနန္ဒာသည် မိမိကို ရွေးချယ်ပြီးနောက် ရဟန္တာအဖြစ်ဖြင့် သံဂါယနာတင်ပွဲဝင်ရန် တရားဓမ္မကို ရှုကြည့်အားထုတ်လေရာ သံဂါယနာတင်ပွဲမတိုင်မီ ရဟန္တာ ဖြစ်သွားလေသည်။

ရှင်မဟာကဿပသည် သံဃာတော်၅၀၀-ကို ရွေးချယ်ပြီးနောက် သံဂါယနာတင်မည့် နေရာအတွက် ရာဇဂြိုဟ်ပြည်ကို ရွေးချယ်လိုက်သည်။ သံဂါယနာတင်မည့် သံဃာတို့သည် ရာဇဂြိုဟ်ပြည်၌ ဝါဆိုဝါကပ်ရမည်။ အခြားသံဃာတို့ကိုမူ အခြားမြို့ရွာများ၌ ဝါဆိုစေ၏။

သံဃာတော်တို့သည် ရာဇဂြိုဟ်ပြည်၌ ဝါကပ်ပြီးနောက် ရဟန်းတော် ၈-ပါးကို ရွေးချယ်၍ အဇာတသတ်မင်းထံ စေလွှတ်သည်။ သံဂါယနာတင်ပွဲကြီးတွင်

အဇာတသတ်မင်းက ပစ္စည်း ၄-ပါး ဒါယကာ ပြုလုပ်၍ အာဏာစက်ဖြင့် ကူညီရန် မေတ္တာရပ်ခံသည်။

အဇာတသတ်မင်းသည် ရဟန်းတော်တို့ အမိန့်ရှိသည်ကို ဝမ်းမြောက်ဝမ်းသာ လက်ခံလိုက်၏။ ထို့နောက် သံဂါယနာတင်ရန်အတွက် ဝေဘာရတောင်စရည်းပင်ကြီးရှိရာ သတ္တပဏ္ဏိလိုဏ်ဂူဝ၌ ကြီးကျယ်ခမ်းနားသော မဏ္ဍပ်ကြီးကို ဆောက်လုပ်ပေးသည်။

ရှင်မဟာကဿပနှင့် သံဃာ ၅၀၀-တို့သည် ဘုရားရှင် ပရိနိဗ္ဗာန်ပြုပြီးနောက် ၃- လအကြာ မဟာသက္ကရာဇ် ၁၄၈-ခု၊ ဝါခေါင်လပြည့် (လဆုတ် ၄-ဟုလည်းဆို၏) နေ့၌ သံဂါယနာတင်ပွဲကို ဆင်နွှဲကျင်းပကြလေသည်။

သံဂါယနာတင်ပွဲတွင် ပထမသံဂီတိနာယက ပုစ္ဆက(အမေးပုဂ္ဂိုလ်)အဖြစ် ရှင်မဟာကဿပမထေရ်က ဆောင်ရွက်သည်။

ဝိနည်းပိဋကတော်ကို ဘုရားရှင်ရှိစဉ်က ဧတဒဂ်ထားခဲ့သော ရှင်ဥပါလိမထေရ်က ဝိဿဇ္ဇက (အဖြေပုဂ္ဂိုလ်) ပြု၍ ဖြေဆိုရသည်။ ရှင်အာနန္ဒာသည် ပိဋကတ်တော်အားလုံးကို မျက်ကွယ်မရှိ နာကြားခဲ့သူဖြစ်သည်။ သို့သော်လည်း ရှင်ဥပါလိမှာ ဝိနည်းအရာ၌ ဧတဒဂ်ထားခဲ့သည်ကို လေးစားသောအားဖြင့် ရှင်ဥပါလိကို ဝိဿဇ္ဇကအဖြစ် ဆောင်ရွက်စေခြင်း ဖြစ်သည်။

ထို့နောက် သုတ္တန်ပိဋကနှင့် အဘိဓမ္မာပိဋကဒေသနာတို့ကို ရှင်အာနန္ဒာမထေရ်က ဝိဿဇ္ဇကပြု၍ ဖြေကြားလေသည်။

ဤကဲ့သို့ အမေးအဖြေများ ပြုလုပ်ပြီးနောက် သံဃာတော်ငါးရာတို့က ပေါင်းစု၍ ရွတ်ပြန်သရဇ္ဈာယ်တော်မူကြသည်။ ထိုပထမအကြိမ် သံဂါယနာတင်ပွဲမှာ ၇- လကြာမှ ပြီးမြောက်ခဲ့လေသည်။

ဗုဒ္ဓဘာသာဝင်တို့သည် သာသနာသက္ကရာဇ်ကို ထိုနှစ်မှစ၍ ရေတွက်ခဲ့ကြ၏။ သာသနာနှစ်အစကို ကမ္ဘာ့သမိုင်းပညာရှင်တို့က ဘီစီ ၄၈၇- ဟုလည်းကောင်း၊ ၄၈၅- ဟုလည်းကောင်း အမှတ်အသားပြုကြသည်။ သီဟိုဠ်မူ၌ ဘီစီ ၅၄၄- ကို အတည်ပြုထားကြသည်။

## ဒုတိယ သံဂါယနာပွဲတော်

သာသနာတော်နှစ် ၁၀၀၊ ခရစ်မပေါ်မီ (ဘီ၊ စီ) ၃၈၇-အရောက်တွင် ဝေသာလီပြည် ဝဇ္ဇီတိုင်းသား ရဟန်းတို့သည် ဝိနည်းတော်နှင့် မညီသော အမှု

ဝတ္ထု ၁၀-ပါး (ဒသဝတ္ထုက) အကျင့် ကျင့်ကြံပြုမူလာကြသည်။ (ဤ ၁၀-ပါးကို အထက်က ဖော်ပြခဲ့ပြီ။)

ထိုအခါ ဓမ္မဝါဒီမထေရ်တို့သည် အဓမ္မဝါဒီတို့၏ ဝိနည်းဒေသနာ ပြုပြင် ကျင့်သုံးမှုကို ပယ်ရှားလိုသောကြောင့်လည်းကောင်း၊ ဓမ္မဝါဒီကို ကျစ်လျစ်ခိုင်မာ စေလိုသောကြောင့်လည်းကောင်း သံဂါယနာတင်ရန် စီမံကြရပြန်သည်။

ထိုသံဂါယနာတင်ပွဲကို ရှင်အာနန္ဒာ၏ တပည့်ကြီးများဖြစ်သော သက်တော် ၁၈၀-ရှိ အရှင်ရေဝတမထေရ်၊ အရှင်သဗ္ဗကာမိမထေရ်၊ အရှင်သာဠှမထေရ်၊ အရှင်ခုဇ္ဇသောဘိတမထေရ်၊ အရှင်မဟာယသမထေရ်၊ အရှင်သမ္ဘုလမထေရ် တို့သည်လည်းကောင်း၊ အရှင်အနုရုဒ္ဓါ၏ သဒ္ဓိဝိဟာရိကတပည့် အရှင်ဝိသဘဂါမိ မထေရ်၊ အရှင်သုမနမထေရ်တို့သည်လည်းကောင်း ဒုတိယသံဂါယနာပွဲအတွက် ဦးဆောင်ဦးရွက်ပြုသူများ ဖြစ်ကြသည်။ ထိုအထဲမှ အချို့မထေရ်တို့သည် ဗုဒ္ဓ ဘုရားရှင်ကို တွေ့ကြုံ ဖူးမြင်ခဲ့ရသူများ ဖြစ်သည်။

အထက်ပါ မထေရ်တို့အထဲက အရှင်မဟာယသမထေရ်ကို အမှူးထား၍ ရဟန္တာ ၇၀၀-တို့သည် ဝေသာလီပြည်၊ ဝါလိကာရုံကျောင်းတော်ကြီး၌ ၈-လ တိုင်တိုင် ဒုတိယအကြိမ် သံဂါယနာတင်ပွဲကို ကျင်းပကြသည်။ ယင်းသံဂါယနာ တင်ပွဲကို ဝေသာလီပြည် ကာလာသောက မင်းကြီးက ပစ္စည်းလေးပါးဖြင့် သာသနာ့ဒါယကာ ပြုလုပ်၍ အာဏာစက်ဖြင့် ဖြည့်စွက်ကူညီခဲ့လေသည်။

## တတိယ သံဂါယနာပွဲတော်

ပါဋလိပုတ်ပြည် အသောက(သီရိဓမ္မာသောက)မင်းလက်ထက်တွင် ဗုဒ္ဓ သာသနာတော် စည်ဝေဖွံ့ဖြိုးနေ၏။ အသောကမင်းသည် စောစောပိုင်းက ဗုဒ္ဓ ဘာသာဝင် မဟုတ်သော်လည်း နောက်ပိုင်းတွင် ဗုဒ္ဓဘာသာဝင်ဖြစ်လာခဲ့သည်။

အသောကမင်းသည် ဗုဒ္ဓဘာသာဝင်ဖြစ်ပြီးနောက် ဗုဒ္ဓသာသနာကို အကြီးအကျယ် ချီးမြှောက်သည်။ သို့အလျောက် သာသနာ့ဝန်ထမ်း ရဟန်း ယောကျ်ား၊ ရဟန်းမိန်းမများ အမြောက်အမြားတိုးပွားလာ၏။

ဤအခြေအနေကို အခွင့်ကောင်းယူလျက် သာသနာ့ပြင်ပမှ တိတ္ထိတို့သည် ဗုဒ္ဓသာသနာတွင်းသို့ ဝင်၍ ရဟန်းပြုလုပ်ကြသည်။ ယင်းတိတ္ထိတို့သည် ဗုဒ္ဓဘာသာ ကို ယုံကြည်၍ ဝင်ရောက်လာသူများ မဟုတ်ကြ။ သာသနာတော်တရားကိုလည်း မသင်ကြားကြပေ။

ထိုရဟန်းတု ရဟန်းယောင်တို့သည် ဗုဒ္ဓတရားနှင့် မစပ်ဆိုင်သော အယူဝါဒများကို ဗုဒ္ဓတရားတော်အဖြစ် ဟောပြော နေကြသည်။ မိမိတို့၏ အယူဝါဒများကို ဗုဒ္ဓဘာသာတရားထဲသို့ ထည့်သွင်းနေကြသည်။ ဗုဒ္ဓ၏ ဓမ္မဒေသနာများမှာသန့်စင်မှုမရှိတော့။

အချို့ရဟန်းတို့ကမူ မီးကို ပူဇော်ကြသည်။ လုပ်ကျွေးကြသည်။ နေကို ပူဇော် ကြသည်။ လုပ်ကျွေးကြသည်။ ဗုဒ္ဓရဟန်းတော် အမည်ခံပြီး သာသနာ့ပြင်ပကိုးကွယ်မှုများကို ပူဇော်ကိုးကွယ်နေကြသည်။ သံဃာစစ်သံဃာမှန်တို့သည် ဖော်ပြပါ ရဟန်းတုများနှင့် အပေါင်းအသင်းမပြုကြ။ ဥပုသ်ပဝါရဏာ စသော သံဃာ့ကံများ မပြုလုပ်ကြချေ။

အသောကာရုံကျောင်းတိုက်ကြီး၌ နေထိုင်သော သံဃာတို့သည် ဤသို့ အယူဝါဒ ကွဲပြားနေသည်မှာ ၇-နှစ်တာမျှ ကြာမြင့်ခဲ့၏။ အသောကအုပ်ချုပ်သော နယ်မြေအရပ်ရပ်တွင်လည်း ဤသို့ပင် သာသနာတော်ရေး မစင်ကြယ်မှုများ၊ အယူဝါဒ ရောထွေးနေမှုများ ကျယ်ပွားပြန့်ကားနေလေသည်။

အသောကမင်းသည် ဤကဲ့သို့ မသန့်ရှင်း မစင်ကြယ်ဖြစ်နေသော ဗုဒ္ဓသာသနာတော်ကို သန့်ရှင်းသော သာသနာဖြစ်စေရန် စီမံသည်။

အသောကမင်းသည် ဗုဒ္ဓသာသနာတွင်း ဝင်ရောက်နေကြသော ရဟန်းတု ရဟန်းယောင်တို့ကို ဝါဒရေးရာနှင့်ပတ်သက်၍ စစ်မေးသည်။ ရဟန်းယောင်တို့သည် ဗုဒ္ဓဝါဒအစစ်အမှန်ကို မဖြေကြားနိုင်ကြ။ ဗုဒ္ဓဝါဒမှ ပြင်ပအယူဝါဒများကို ဗုဒ္ဓဝါဒအဖြစ် ရောနှောဖြေဆိုကြသည်။

အသောကမင်းသည် ဤကဲ့သို့ စစ်ဆေးပြီးနောက် ဗုဒ္ဓဝါဒအမှန်ကို မဖြေနိုင်သော ရဟန်းတု တိတ္ထိပေါင်း ၆၀၀၀၀(ခြောက်သောင်း)ကို အဝတ်ဖြူလဲ၍ လူထွက်စေသည်။ အသောကာရုံကျောင်းတိုက်မှ နှင်ထုတ်ပစ်လိုက်သည်။

အသောကမင်းတရားသည် သာသနာတော်သန့်စင်ရေးကို ဆောင်ရွက်ပြီးနောက် ရှင်မဟာမောဂ္ဂလိပုတ္တတိဿ အမှူးပြုသော ရဟန္တာပေါင်း ၁၀၀၀(တစ်ထောင်) တို့သည် ဗုဒ္ဓ၏ ဓမ္မဒေသနာ သန့်စင်ရေးအတွက် တတိယအကြိမ်သံဂါယနာတင်ရပြန်သည်။

တတိယ သံဂါယနာတင်ပွဲကို သာသနာနှစ် ၂၃၅(ဘီ၊ စီ ၂၅၂)ခု၊ နယုန်လမှစ၍ ပြုလုပ်ရာ ၉လ-ကြာမှ ပြီးမြောက်သည်။ ထိုတတိယ သံဂါယနာတင်ပွဲကြီး

၏ သာသနာ့ဒါယကာမှာ အသောကမင်းတရားကြီးပင် ဖြစ်လေသည်။

## စတုတ္ထ သံဂါယနာပွဲတော်

စတုတ္ထသံဂါယနာ မတင်မီ အကြို့နှစ်များက သီဟိုဠ်ကျွန်း၌ ဝဋ္ဋဂါမဏီမင်း နန်းစံခဲ့သည်။ နန်းစံ၍ မကြာမီမှာပင် ကျည်းသားလူမျိုးတို့၏ ပြဟွဏတိဿ သူပုန်ဘေးကြီး ဖြစ်ပွားသည်။ ဝဋ္ဋဂါမဏီသည် သူပုန်ရန်ဘေးကြောင့် နန်းမှဆင်း၍ ထွက်ပြေးပုန်းအောင်းနေရ၏။

ထိုကာလမှာပင် မိုးကလည်း ခေါင်သဖြင့် သီးနှံများ ပျက်ခဲ့ရာ တစ်ကျွန်းလုံး ငတ်မွတ်ခေါင်းပါးပြီး ဗုဒ္ဓိကဗ္ဗတ္ထရကပ်ကြီးနှင့် ရင်ဆိုင်ကြရလေသည်။

သံဃာတော်တို့သည် အစာပြတ်သဖြင့် ဗုဒ္ဓ၏ ပိဋကတ်ဒေသနာတို့ကို ရွတ်ဆိုနိုင်ခြင်း မရှိကြပေ။ ထိုအချိန်ထိ သံဃာတို့သည် ဗုဒ္ဓ၏ ဓမ္မဒေသနာတို့ကို နှုတ်ဖြင့်သာ ရွတ်ဆိုထိန်းသိမ်းလာခဲ့ကြသည်။ ဤကဲ့သို့ ငတ်မွတ်ခြင်းဘေးနှင့် ကြုံတွေ့ရသောအခါ ရဟန်းတို့ လေနာရောဂါထ၍ ရောဂါဘယများ ဖြစ်ပေါ်လာကြသည်။ သို့သော်လည်း ပိဋကတ်တော်များ မမေ့ပျောက်စေရန် ကြိုးစား၍ ရွတ်ဆိုထိန်းသိမ်းနေကြရသည်။ အချို့ရဟန်းတော်များမှာ အာဟာရပြတ်၍ ပျံလွန်တော်မူကုန်ကြသည်။

မသေပျောက်ဘဲ ကျန်ရစ်သော သံဃာတို့က ပိဋကတ်တော်တို့ကို နှုတ်ဆင့်ကမ်း၍ ထိန်းသိမ်းနေကြရသည်။ ဤသို့ ပင်ပန်းကြီးစွာ စောင့်ရှောက်နေရသည်မှာ ၁၂-နှစ်မျှ ကြာမြင့်ခဲ့လေသည်။

ထိုနှစ်များအတွင်း ဝဋ္ဋဂါမဏီမင်းသည် သူပုန်ရန်ကို ပြန်လည်နှိမ်နင်းနိုင်သဖြင့် ဒုတိယအကြိမ် ထီးနန်းကို စံမြန်းရပြန်သည်။

ထိုအခါ ပိဋကတ် ၃-ပုံကို နှုတ်ငုံဆောင်ခဲ့သော ရဟန္တာတို့သည် နှုတ်ဆင့်ကမ်း သယ်ဆောင်ရသဖြင့် တာဝန်ကြီးလှသည်။ အကယ်၍ ဘေးဒုက္ခနှင့်ကြုံသဖြင့် ပြန်ဆိုခြင်းမပြုနိုင်လျှင် ဗုဒ္ဓဒေသနာတော်များ ကွယ်ပျောက်သွားနိုင်သည်။ ထို့ကြောင့် ဒေသနာတော် အရပ်ရပ်ကို စာပေဖြင့် မှတ်တမ်းတင်ထားမှ စိတ်ချရမည်ဟု စဉ်းစားမိကြသည်။

ထို့ကြောင့် သီဟိုဠ်သံဃာ ရဟန္တာတို့သည် ပိဋကတ်တော်များကို ပေလွှာ ရွက်ပေါ်၌ အက္ခရာစာဖြင့် မှတ်တမ်းပြု၍ သံဂါယနာ တင်ကြရန် ဆုံးဖြတ်ကြသည်။ ယင်းသို့ ဆုံးဖြတ်ပြီးနောက် အရှင်မဟာဓမ္မရက္ခိတ အမှူးပြုသော ရဟန္တာ

၅၀၀-တို့သည် သာသနာနှစ် ၄၅၀-ခုနှစ်တွင် မလယဇနပုဒ် အာလောကလိုဏ်ဂူ၌ စတုတ္ထ သံဂါယနာတင်ပွဲကို ကျင်းပကြသည်။ ပိဋကတ်ဒေသနာတို့ကို ပေထက်အက္ခရာ တင်တော်မူကြလေသည်။

## ပဉ္စမ သံဂါယနာပွဲတော်

မြန်မာနိုင်ငံကို စိုးအုပ်သော မင်းတုန်းမင်းသည် မြန်မာသက္ကရာဇ် ၁၂၂၁-ခုနှစ်တွင် မန္တလေးရတနာပုံမြို့ကို တည်ထောင်သည်။ မင်းတုန်းမင်းသည် မြို့တော်သစ်၌ ကောင်းမှုတော် လောကမာရဇိန် ကျောက်တော်ကြီးဘုရား၊ အတုမရှိကျောင်းတော်ကြီး စသော ကောင်းမှုတော်များစွာတို့ကို တည်ထားသည်။ ရန်ကုန်မြို့ရှိ ရွှေတိဂုံစေတီတော်ကြီးကိုလည်း ထီးတော်အသစ် တင်လှူသည်။

မင်းတုန်းမင်းသည် ၁၂၂၂-ခု၊ တန်ဆောင်မုန်းလကစ၍ ပိဋကတ်သုံးပုံ ပါဠိတော်တို့ကို ပေထက်အက္ခရာတင်သည်။ ထိုမျှဖြင့် အားမရသေးဘဲ ပိဋကတ်တော်များ အရှည်တည်တံ့ရေးအတွက် ရှေးခေတ်သာသနာပြုမင်းများ မဆောင်ရွက်ဖူးသော ပိဋကတ်တော် ကျောက်ထက်အက္ခရာတင်ရန် ဆန္ဒရှိလာပြန်သည်။

ထို့ကြောင့် စကျင်တောင်မှ ကျောက်ပြားများကို မှာယူ၍ ပိဋကတ်တော် ကျောက်ထက်အက္ခရာတင်လုပ်ငန်းကို ဆောင်ရွက်သည်။ ပိဋကတ်တော်တို့ကို မူမှန်သန့်စင်ရေးအတွက် အောက်ပါဆရာတော်ကြီးများကို လျှောက်ထားတာဝန်ပေးသည်။

(၁) မိဖုရားခေါင်ကြီး စကြာဒေဝီ၏ဆရာဖြစ်သော 'ဇာဂရာဘိဝံသ တိပိဋက ရေမဟာဓမ္မရာဇာဓိ ရာဇဂုရု' ဘွဲ့တော်ရ ဒက္ခိဏာရာမဆရာတော်၊

(၂) သေနတ်ဝန်ကြီး၏ ဆရာဖြစ်သော 'နရိန္ဒာဘိ သိရိ သဒ္ဓမ္မ ဇောတိပါလဇ မဟာဓမ္မရာဇာဓိ ရာဇာဂုရု' ဘွဲ့ရဆရာတော်၊

(၃) သုမင်္ဂလသာမိ သိရိ ပဝရ မဏိဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု' ဘွဲ့ရဆရာတော်တို့ ဖြစ်သည်။

လူပုဂ္ဂိုလ်များဘက်မှလည်း ခန်းပတ်မြို့စား၊ ယောမြို့စား၊ မိုင်းခိုင်းမြို့စား စသည့် ပုဂ္ဂိုလ်တို့ကို ကြီးကြပ်ဆောင်ရွက်စေ၏။

မင်းတုန်းမင်း၏ ကျောက်ထက်အက္ခရာတင်လုပ်ငန်းမှာ သက္ကရာဇ် ၁၂၃၀-ပြည့်နှစ်၊ ကဆုန်လဆန်း ၁၄-ရက်နေ့တွင် ပြီးစီးအောင်မြင်ခဲ့သည်။ ပိဋကတ်တော်တို့ကို ကျောက်စာအဖြစ် မှတ်တမ်းတင်ရာ၌ -

(၁) ဝိနည်းငါးကျမ်းပါဠိတော် (၁၁၁)ချပ်
(၂) အဘိဓမ္မာပါဠိတော် (၂၀၈)ချပ်
(၃) သုတ္တန်ပါဠိတော် (၄၁၀)ချပ်

စုစုပေါင်း ကျောက်ချပ်ရေ ၇၂၉-ချပ် ရှိပေသည်။

မင်းတုန်းမင်းသည် ရှေးရှေးသော မင်းများဖြစ်သည့် အဇာတသတ်၊ကာလာသောက၊ သီရိဓမ္မာသောက၊ ဝဋ္ဋဂါမဏိမင်းတို့လက်ထက်ကကဲ့သို့ ပိဋကတ်တော်ကို နှုတ်ဖြင့်ရွတ်ဆိုသော သံဂါယနာတင်ပွဲကို ပြုလုပ်လိုသောဆန္ဒ ဖြစ်ပေါ်လာပြန်သည်။

ထိုအကြောင်းကို ရွှေမြို့တော်ရှိ တံဆိပ်ရ မရ ဆရာတော်များနှင့်ညှိနှိုင်း၍ သံဂါယနာတင်ပွဲ ကျင်းပရန် ဆုံးဖြတ်သည်။ ထို့နောက် ဒက္ခိဏာရာမဆရာတော်၊ ဆီးဘန်နီဆရာတော်၊ စိုးတော်မြင်းဝန်တိုက်ဆရာတော် တို့ကို အမှူးထား၍ သံဃာတော် ၂၄၀၀-တို့ကို ရွှေနန်းတော်သို့ ပင့်ဆောင်ပြီးလျှင် မြန်မာသက္ကရာဇ် ၁၂၃၃-ခု သာသနာနှစ် ၂၄၁၅-ခု၊ ခရစ်နှစ် ၁၈၇၁-ခု၊ တန်ခူးလပြည့်ကျော် ၁၁-ရက်နေ့တွင် ပဉ္စမသံဂါယနာတင်ပွဲကို ကျင်းပသည်။ ထိုသံဂါယနာတင်ပွဲတွင် ပိဋကတ်တော်များကို နှုတ်ဖြင့် ရွတ်ဆိုကြရာ ၅-လနှင့် ၃-ရက်ကြာမှ ပြီးမြောက်ခဲ့လေသည်။

## ဆဋ္ဌ သံဂါယနာပွဲတော်

မြန်မာသက္ကရာဇ် ၁၂၄၇-ခုနှစ်တွင် မြန်မာနိုင်ငံသည် အင်္ဂလိပ်ကိုလိုနီတို့၏ လက်အောက်သို့ ကျရောက်ခဲ့ရသည်။ မြန်မာတို့သည် အင်္ဂလိပ်တို့၏လက်အောက်မှ ရုန်းထွက်ရန် နည်းအမျိုးမျိုးဖြင့် ကြိုးစားခဲ့ကြသည်။ လူပုဂ္ဂိုလ်များသာမဟုတ်၊ ဗုဒ္ဓဘာသာရဟန်းတော်တို့လည်း လွတ်လပ်ရေးအတွက် ပါဝင်ဟောပြောကြသည်။ အသင်းအဖွဲ့များ တည်ထောင်၍လူမျိုးဘာသာ သာသနာအတွက် အားကြိုးမာန်တက် ရှက်ဆောင်ခဲ့ကြသည်။ ထိုအချိန်က မျိုးချစ်အသင်းများစွာ ပေါ်ပေါက်ခဲ့၏။

သံဃာတော်တို့သည်လည်း အသင်းအဖွဲ့ထူထောင်၍ သာသနာဝေဖြိုးရေးကို ကြိုးစားခဲ့ကြသည်။ ထိုအဖွဲ့များအနက် 'သံဃသာမဂ္ဂီ' ခေါ် အဖွဲ့ကြီးသည် အင်အားကောင်းသော အဖွဲ့ကြီးဖြစ်သည်။

သံဃသာမဂ္ဂီအဖွဲ့မှ သံဃာတော်တို့သည် ခရစ်နှစ် ၁၉၂၀-ပြည့်လွန်လောက်ကပင် ဆဋ္ဌမအကြိမ် သံဂါယနာတင်ရန် ဆော်ဩခဲ့ကြသည်။ သို့သော်

လည်း အင်္ဂလိပ်အစိုးရသည် သံဂါယနာတင်ရေးကို စိတ်အတွေးမျှ မဝင်ခဲ့ကြပေ။ ဤသို့ဖြင့် ၁၉၄၈-ခုနှစ်တွင် မြန်မာနိုင်ငံ လွတ်လပ်ရေး ရလာသည်။

ထိုအချိန်၌ မြန်မာဆရာတော်ကြီးများသည် ဆဋ္ဌသံဂါယနာတင်ရန်အတွက် နိုးကြားတက်ကြွလာကြသည်။ လက်ရှိပိဋကတ်တော်များမှာ တစ်ဆင့်ကူးယူရာတွင်လည်းကောင်း၊ ပုံနှိပ်ရာတွင်လည်းကောင်း ပုဒ်၊ ပါဌ်၊ အက္ခရာ၊ ဝါကျ၊ ချို့ယွင်းမှုများ တဖြည်းဖြည်း ပေါ်ပေါက်လာနေသည်။ ပုဒ် ပါဌ်မမှန် အက္ခရာချို့ယွင်းပါက အဓိပ္ပာယ်ပြန်ဆိုခြင်းလည်း လွဲမှားနိုင်သည်။ အဓိပ္ပာယ်လွဲမှားပါက ပရိယတ္တိဒေသနာများ ပျက်စီးသွားနိုင်ပေသည်။ ထို့ကြောင့် ပရိယတ္တိဒေသနာ သန့်စင်ရေးအတွက် ဆဋ္ဌမအကြိမ် သံဂါယနာတင်ရန် ဆုံးဖြတ်ကြသည်။

ထိုသံဂါယနာတင်ပွဲကြီးအတွက် မြန်မာနိုင်ငံတော်သမ္မတ ဦးဘဦးက သာသနာ့ဒါယကာ အဖြစ် ခံယူသည်။ နိုင်ငံတော်အစိုးရအဖွဲ့၏ အကြီးအကဲဖြစ်သူ ဝန်ကြီးချုပ်ဦးနုက အထွေထွေအာဏာစက်ဖြင့် ကူညီဆောင်ရွက်ရန် တာဝန်ယူသည်။

သတိုးသီရိသုဓမ္မသူဌေးကြီး ဆာဦးသွင် ဦးဆောင်သော နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီးကလည်း တိုင်းသူပြည်သားတို့၏ကိုယ်စား ပစ္စည်းလေးပါးဖြင့် ထောက်ပံ့ပူဇော်ရန် တာဝန်ယူကြ၏။ ဝန်ကြီးချုပ်ကတော် ဒေါ်မြရီအမှူးပြုသော အမျိုးသမီးများကလည်း သံဂါယနာဝေယျာဝစ္စလုပ်ငန်းများကို အားတက်သရော ပါဝင်၍ လုပ်အားဒါနများ လှူဒါန်းကြသည်။

ဤသို့အဘက်ဘက်မှ ပြည့်စုံပြီးနောက် မန္တလေးမြို့မှ ညောင်ရမ်းဆရာတော် အဘိဓဇမဟာရဋ္ဌဂုရု ဘဒ္ဒန္တ ရေဝတအမှူးပြုသော သံဃာတော်၂၅၀၀တို့သည် ရန်ကုန်မြို့၊ ကမ္ဘာအေးကုန်းမြေရှိ မဟာပါသာဏ လိုဏ်ဂူတော်ကြီး၌ -

- သာသနာသက္ကရာဇ်၂၄၉၈-ခု
- ခရစ်နှစ် ၁၉၅၄-ခု၊ မေလ (၁၇)ရက်
- မြန်မာသက္ကရာဇ် ၁၃၁၆-ခု၊ ကဆုန်လဆန်း (၁၅)ရက်

နေ့တွင် ဆဋ္ဌမအကြိမ် သံဂါယနာပွဲကို ကျင်းပကြလေသည်။

ဆဋ္ဌသံဂါယနာတင်ပွဲကြီးသို့ ထိုင်း၊ ကမ္ဘောဒီးယား၊ လာော၊ သီရိလင်္ကာနိုင်ငံတို့မှ ထေရဝါဒရဟန်းတော် ၁၄၄-ပါး၊ မြန်မာနိုင်ငံမှ ရဟန်းတော် ၂၄၇၃-ပါးတို့က ၂၄၅-ရက် ကြာမြင့်စွာ ရွတ်ပွားတော်မူကြ၏။

ထိုသံဂါယနာတင်ပွဲသို့ ထေရဝါဒမဟုတ်သော ဂျပန်၊ တိဗက်၊ ဗီယက်နမ်၊

ကိုရီးယား၊ ဂျာပန်၊ မလေးကျွန်း၊ ဆစ်ကင်းပြည်စသော နိုင်ငံတို့မှ မဟာယာန ဂိုဏ်း ရဟန်းတော်တို့လည်း သံဂီတိကာရကအဖြစ်လည်းကောင်း၊ အာဂန္တု ဧည့်သည်တော်အဖြစ် လည်းကောင်း ကြွရောက်ကြသည်။

ထိုသံဂါယနာပွဲကြီးတွင် ဆဋ္ဌသံဂီတိပုစ္ဆက (အမေးပုဂ္ဂိုလ်)အဖြစ် အဂ္ဂမဟာပဏ္ဍိတ မဟာစည်ဆရာတော်ဘဒ္ဒန္တသောဘဏမဟာထေရ်ကလည်းကောင်း၊ ဆဋ္ဌသံဂီတိ ဝိဿဇ္ဇက(အဖြေပုဂ္ဂိုလ်) အဖြစ် တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဘဒ္ဒန္တဝိစိတ္တသာရာဘိဝံသမထေရ်ကလည်းကောင်း ဆောင်ရွက်တော်မူသည်။

ထို့နောက် ပိဋကတ်ဒေသနာတော်တို့ကို စက္ကူထက်၌ အက္ခရာတင်၍ သန့်စင်ရေးကို ဆောင်ရွက်တော်မူကြသည်။ ဤဆဋ္ဌသံဂါယနာတင်ပွဲကြီးသည် သာသနာတော် ၂၅၀၀-ပြည့်သည့်နှစ် မြန်မာသက္ကရာဇ် ၁၃၁၈-ခု၊ ကဆုန်လပြည့်နေ့၊ ခရစ်နှစ် ၁၉၅၆-ခုနှစ်၊ မေလ ၂၄-ရက်နေ့တွင် ပြီးဆုံးခဲ့လေသည်။

# အခန်း (၄)

## ထေရဝါဒ ပိဋကတ်တော်

### ထေရဝါဒဟူသည်

ထေရဝါဒ၏ အဓိပ္ပာယ်ကို 'ဗုဒ္ဓဒေသနာတော် ဝေါဟာရအဘိဓာန်' ကျမ်းစာမျက်နှာ ၂၇၄-၌ -

"မထေရ်အဆက်ဆက်တို့ မပျောက်မပျက်ရအောင် ဆောင်ထားအပ်သော ထိန်းသိမ်းအပ်သော ဘုရားစကားတော် အယူစကားအစဉ်"

"အရှင်မဟာကဿပအစရှိသော မထေရ်အဆက်ဆက်တို့ မူရင်းမပျက် သံဂါယနာတင်လျက် ထိန်းသိမ်းစောင့်ရှောက်ထားအပ်သော ဘုရားစကား ပါဠိတော်အတိုင်း ကျင့်ကြံနေထိုင်သော အယူဝါဒကို 'ထေရဝါဒ'ဟု ခေါ်သည်"

ဟူ၍ ဖွင့်ပြထားသည်။

ထေရဝါဒရဟန်းတော်တို့သည် မိမိတို့၏ ဓမ္မဒေသနာများကို ပါဠိဘာသာဖြင့် နှုတ်ဆင့်ကမ်း၍လည်းကောင်း၊ စာမှတ်တမ်းဖြင့်လည်းကောင်း ထိန်းသိမ်းလာခဲ့ကြ၏။ ထိုဒေသနာအစုစုကို စုပေါင်း၍ 'ပိဋကတ်တော်'ဟု ခေါ်ဆိုခဲ့ကြ သည်။

ပိဋက၏ အဓိပ္ပာယ်မှာ 'ခြင်းတောင်း' ဟူ၍ဖြစ်သည်။ လူတို့သည် သယ်ယူစရာပစ္စည်းများကို ခြင်းတောင်းတို့ဖြင့် သယ်ယူကြ၏။ ထို့အတူ ဗုဒ္ဓတရားတော်တို့ကိုလည်း ဗုဒ္ဓဘုရားရှင်လက်ထက်တော်မှစ၍ ခေတ်အဆက်ဆက် မထေရ်မြတ်တို့က လက်ဆင့်ကမ်း၍ သယ်ယူခဲ့ကြသဖြင့် ခြင်းတောင်းနှင့်တင်စားကာ ပိဋကဟူ၍ ခေါ်ဆိုလာခဲ့ခြင်း ဖြစ်ပေသည်။

ထေရဝါဒဗုဒ္ဓဘာသာဝင်တို့ထိန်းသိမ်းသယ်ဆောင်လာခဲ့သောပိဋကများမှာ-

(၁) ဝိနယ ပိဋက
(၂) သုတ္တန္တ ပိဋက
(၃) အဘိဓမ္မ ပိဋက

ဟူ၍ သုံးမျိုးရှိ၏။ ထိုသုံးမျိုးလုံးကို ပေါင်းရုံးခေါ်ဆိုသောအခါ၌ ပိဋကတ်ဟူ၍ ခေါ်ဆိုကြလေ၏။

## (၁) ဝိနယ ပိဋကတော်

ရဟန်းယောကျ်ားများနှင့် ရဟန်းမိန်းမများအတွက် သတ်မှတ်ပညတ်ထားသော ကျင့်ဝတ်စည်းကမ်းများ ဖြစ်သည်။ ထိုဝိနယပိဋကကို ၅–ကျမ်း ထပ်မံခွဲခြားထားး၏။

| | |
|---|---|
| (က) ပါရာဇိကဏ်ပါဠိတော် . | ရဟန်းတော်များအတွက် ရည်ညွှန်းသော သိက္ခာပုဒ် ၄၉–ပါး ပါရှိသည်။ |
| (ခ) ပါစိတ်ပါဠိတော် . | ရဟန်းတော်များအတွက် ရည်ညွှန်းသော သိက္ခာပုဒ် ၁၇၈–ပါးနှင့် ဘိက္ခုနီတို့အတွက် ရည်ညွှန်းသော သိက္ခာပုဒ် ၃၁၁–ပါး ပါရှိသည်။ |
| (ဂ) မဟာဝဂ္ဂ . | သံဃာများ လိုက်နာရမည့် ကျင့်ဝတ်များ၊ လုပ်နည်း လုပ်ဟန်များကို အခန်း ၁၀–ခုဖြင့် ဖော်ပြထားသည်။ |
| (ဃ) စူဠဝဂ္ဂ . | သံဃာ့အဖွဲ့ နှင့် ပတ်သက်သော စည်းမျဉ်း ဥပဒေ တို့ကို အခန်းပေါင်း ၁၂–ခုတို့ဖြင့် ဖော်ပြထားသည်။ |
| (င) ပရိဝါရ . | ဝိနည်းသိက္ခာပုဒ်တို့ကို ကျက်မှတ်လိုသူတို့ အတွက် အကျဉ်းချုပ် ပြုစုထားသော ကျမ်း ဖြစ်၏။ |

## (၂) သုတ္တန္တ ပိဋကတော်

ဗုဒ္ဓဘုရားရှင် ရှေးဦးစွာ ဟောကြားသော ဓမ္မစကြာတရားတော်မှစ၍ ပရိနိဗ္ဗာန်ပြုခါနီး နောက်ဆုံးဟောကြားသော သြဝါဒဒေသနာတော်အထိ ၄၅–နှစ်ပတ်လုံး ဟောကြားတော်မူခဲ့သည့် ဒေသနာတော် အမျိုးအစားများဖြစ်သည်။

ဤသုတ္တန္တပိဋကကို နိကာယ်အားဖြင့် ၅–စု ဖွဲ့ထားသည်။ ယင်းတို့မှာ–

(က) ဒီဃ နိကာယ်
(ခ) မဇ္ဈိမ နိကာယ်
(ဂ) သံယုတ္တ နိကာယ်
(ဃ) အင်္ဂုတ္တရ နိကာယ်
(င) ခုဒ္ဒက နိကာယ် တို့ဖြစ်ပေသည်။

(က) ဒီဃနိကာယ် ▪ ရှည်လျားသောသုတ်တို့ကို ပေါင်းစည်းထားသောကြောင့် ဒီဃနိကာယ်ဟု ခေါ်သည်။

ယင်းဒီဃနိကာယ်၌ -
(၁) သီလက္ခန္ဓ ဝဂ္ဂ ၁၃-သုတ်
(၂) မဟာဝဂ္ဂ ၁၀-သုတ်
(၃) ပါထိကဝဂ္ဂ ၁၁-သုတ် ပါဝင်သည်။

(ခ) မဇ္ဈိမနိကာယ် ▪ မရှည်လွန်း၊ မတိုလွန်း အလယ်အလတ်ဖြစ်သောသုတ်တို့ကို ပေါင်းစည်းထားသောကြောင့် မဇ္ဈိမနိကာယ်ဟု ခေါ်သည်။

ယင်းမဇ္ဈိမနိကာယ်၌ -
(၁) မူလပဏ္ဏာသ ၅၀-သုတ်
(၂) မဇ္ဈိမပဏ္ဏာသ ၅၀-သုတ်
(၃) ဥပရိပဏ္ဏာသ ၅၂-သုတ် ပါဝင်သည်။

(ဂ) သံယုတ္တနိကာယ် ▪ ဒေသနာတော်ချင်းတူညီသော အချက်တစ်ခုခုကို မူထား၍ စုစည်းပေါင်းစပ်ထားသော သုတ်များကို သံယုတ္တနိကာယ်ဟု ခေါ်သည်။

ယင်းသံယုတ္တနိကာယ်၌ -
(၁) သဂါထာဝဂ် သံယုတ်ပေါင်း ၁၁
(၂) နိဒါနဝဂ် သံယုတ်ပေါင်း ၁၀
(၃) ခန္ဓဝဂ် သံယုတ်ပေါင်း ၁၃
(၄) သဠာယတနဝဂ် သံယုတ်ပေါင်း ၁၂
(၅) မဟာဝဂ် သံယုတ်ပေါင်း ၁၂- ပါဝင်သည်။

(ဃ) အင်္ဂုတ္တရနိကာယ် ▪ ဧကနိပါတ်မှ ဧကာဒသနိပါတ်တိုင်အောင် အပိုင်းငယ် နိပါတ် ၁၁–ခု၊ သုတ်ပေါင်း ၉၅၅၇ သုတ်။

(င) ခုဒ္ဒကနိကာယ် ▪ ရှေးနိကာယ် ၄-ရပ်တို့မှ နောက်ထပ်ဖြစ်သော ခုဒ္ဒကပါဌ

စသည့် ကျမ်းအစုကို ခုဒ္ဒကနိကာယ်ဟု ခေါ်သည်။
ယင်းခုဒ္ဒကနိကာယ်၌ အောက်ပါကျမ်းများ ပါဝင်သည်။

(၁) ခုဒ္ဒကပါဌ = တိုတောင်းသည့် အစု ၉-မျိုး ပါဝင်သည်။

(၂) ဓမ္မပဒ = ဝဂ်ပေါင်း ၂၆၊ ဂါထာပေါင်း ၄၂၃-ပါဝင်သည်။

(၃) ဥဒါန = ဗုဒ္ဓဘုရားရှင်ကျူးရင့်သော စကားများဖြစ်သည်။ ဝဂ်ပေါင်း ၈-ခုနှင့် ဥဒါန်းပေါင်း ၈၂-ပုဒ် ပါဝင်သည်။

(၄) ဣတိဝုတ္တက = နိပါတ် ၄-ခု၊ သုတ်ပေါင်း ၁၂၀-ပါဝင်သည်။

(၅) သုတ္တနိပါတ = သုတ်ငယ်များ စုပေါင်းထား၏။ ဝဂ် ၅-ခု၊ သုတ် ၅၄-နှင့် ပုစ္ဆာ ၆၁-ခု ပါဝင်သည်။

(၆) ဝိမာနဝတ္ထု = ဘုံနန်းဗိမာန်ဆိုင်ရာ အဖြစ်အပျက်တို့ကို ဖော်ပြထား၏။ ဝဂ် ၇-ခု၊ ဇာတ် ၈၃-ပုဒ် ပါဝင်သည်။

(၇) ပေတဝတ္ထု = ငရဲလောက၏ ဆင်းရဲတို့ကို ဖော်ပြထား၏။ ဝဂ် ၄-ခု၊ ဝတ္ထုပုဒ်ပေါင်း ၅၀-ပါဝင်သည်။

(၈) ထေရဂါထာ = မထေရ်ကြီး ၁၀၇-ပါးတို့၏ အဆိုအမိန့်များကို နိပါတ် ၂၁-ခုဖြင့် ခွဲခြားဖော်ပြထားသည်။

(၉) ထေရီဂါထာ = ထေရီမယ် ၇၃-ပါးတို့၏ တင်ပြချက်များကို နိပါတ် ၁၆-ခုဖြင့် ဖွဲ့စည်းထားသည်။

(၁၀) ဇာတက = ဗုဒ္ဓဘုရားရှင်၏ ရှေးဖြစ်စဉ်တို့ကို ဖော်ပြထား၏။ အပိုင်းငယ် နိပါတ ၂၂-ခု၊ ဇာတ်ဝတ္ထုပေါင်း ၅၄၇-ဇာတ် ပါဝင်သည်။

(၁၁) မဟာနိဒ္ဒေသ = သုတ္တနိပါတ်ကျမ်းလာ အဋ္ဌကဝဂ်၏ ဝေါဟာရ အဓိပ္ပာယ်တို့ကို ထပ်မံ ဖွင့်ဆိုထား၏။

(၁၂) စူဠနိဒ္ဒေသ = သုတ္တနိပါတ်ကျမ်းလာ နောက်ဝဂ် ၃-ခုကို ထပ်မံချဲ့ဖွင့်ထားသည်။

(၁၃) ပဋိသမ္ဘိဒါမဂ္ဂ = ဓမ္မ၏ အခြေခံအချက်တို့ကို သရုပ်ခွဲ၍ ဝေဖန်ပြသည်။ ကဏ္ဍကြီး ၃-ခုနှင့် အခန်းငယ်များစွာ ပါဝင်သည်။

(၁၄) အပဒါန = မွန်မြတ်သောကျင့်ထုံးတို့ကို ကျင့်သုံးခဲ့သော

ပုဂ္ဂိုလ်တို့အကြောင်းကို ဖော်ပြထား၏။ ကဏ္ဍ ၅၅-ခုဖြင့် မထေရ် ၅၅၀-တို့ဘဝကို ဖော်ပြသည်။ ထို့ပြင် ကဏ္ဍ ၄-ခုတို့ဖြင့် ထေရီ ၄၀-တို့၏ဘဝများကိုလည်းကောင်း၊ နောက်ဆက်တွဲအဖြစ် ဗုဒ္ဓပဒါနနှင့် ပစ္စေကဗုဒ္ဓပဒါနတို့ကို ဆက်လက်ဖော်ပြထားသည်။

(၁၅) ဗုဒ္ဓဝံသ - ဘုရားရှင်တို့၏ ဘဝဖြစ်စဉ်ကို အစီအစဉ်ဖြင့် ဖော်ပြထား၏။ ထို့ပြင် ဗုဒ္ဓပကိဏ္ဏကကဏ္ဍနှင့် ဓာတုဘာဇနီယကထာတို့ကိုလည်း ထည့်သွင်းဖော်ပြထားသည်။

(၁၆) စရိယာပိဋက - ဘုရားအလောင်းတော် ပါရမီဖြည့်ဆည်းခဲ့သည့် ဘဝတို့ကို ဖော်ပြသည်။ ဗုဒ္ဓ၏ ရှေးဘဝပေါင်း ၃၅-ခုသာ ပါဝင်သည်။

## (၃) အဘိဓမ္မ ပိဋကတော်

သုတ္တန်၊ ဝိနည်းတို့ထက် ကဲလွန်သော သဘောတရားများ၊ နက်နဲသော သဘာဝဓမ္မများကို စုစည်းဖော်ပြထားသောကြောင့် အဘိဓမ္မပိဋကဟု ခေါ်သည်။ ဤအဘိဓမ္မပိဋကကို ကျမ်းအားဖြင့် ၇-ကျမ်း ခွဲခြားထားသည်။

(က) ဓမ္မသင်္ဂဏီ • အပိုင်းကြီး ၄-ပိုင်းခွဲလျက် သက်ရှိသက်မဲ့ အားလုံးတို့၏ ရုပ်နာမ်သဘာဝကို ရေတွက်ပြသည်။

(ခ) ဝိဘင်္ဂ • ဓမ္မသဘာဝကို အဓိပ္ပာယ်ခွဲခြမ်းပြသထားသော ဝိဘင်္ဂခေါ် အဖွင့်ပေါင်း ၁၈-ခု ပါဝင်သည်။

(ဂ) ဓာတုကထာ • ပရမတ္ထတရားတို့ကို ကဏ္ဍ ၁၄-ခု ခွဲခြားကာ နည်း ၄-ပါးတို့ဖြင့် အကျယ်တဝင့်ရှင်းလင်းဖော်ပြထားသည်။

(ဃ) ပုဂ္ဂလပညတ္တိ • ကဏ္ဍကြီး ၁၀-ခုတို့၌ ၁-မှ ၁၀-အထိ ပုဂ္ဂိုလ်အမျိုးအစားတို့ကို နိဒ္ဒေသအလိုက် ထည့်သွင်းထား၏။

(င) ကထာဝတ္ထု • ဗုဒ္ဓဝါဒဂိုဏ်းကွဲများ၏ အယူဝါဒများကို စုပေါင်းတင်ပြထားသည်။ ဝဂ်ပေါင်း ၂၃-ခုဖြင့် ထေရဝါဒမှ

သုတ်ပေါင်း၅၀၀ နှင့်ပရဝါဒမှသုတ်ပေါင်း၅၀၀ တို့ကို နှိုင်းယှဉ်ပြထားသည်။

(စ) ယမက ။ အဘိဓမ္မ သဘောတရားများ ဖြစ်တည်နေပုံကို မူလ၊ ခန္ဓ၊ အာယတန၊ ဓာတု၊ သစ္စ၊ သင်္ခါရ၊ အနုသယ၊ စိတ္တ၊ ဓမ္မ၊ ဣန္ဒြိယဟူသော ယမက ၁၀-ပါး တို့ဖြင့် ဖော်ပြထားသည်။

(ဆ) ပဋ္ဌာန ။ ဓမ္မအနုလောမ စသည်တို့၌ တိကပဋ္ဌာနစသော ပဋ္ဌာန်း ၆-ပါးတို့ဖြင့် ပွားအပ်သည်ဖြစ်၍ ၂၄-ပါး **သော ပဋ္ဌာန်းတို့ကိုရရှိ**သည်။ ပဋ္ဌာန်းတစ်ပါးစီ၌ **ပဋိစ္စဝါရစသော ဝါရ( ၇) ပါး**တို့ဖြင့် တန်ဆာဆင်ထားသည်။

အထက်ဖော်ပြခဲ့ပြီးသော ပိဋကတ်တော်များမှတစ်ပါး အခြားသော ပါဠိကျမ်းဂန်များလည်း ရှိသေးသည်။ ထိုကျမ်းများသည် ပိဋကတ် ၃-ပုံ၏ နောက်ဆက်တွဲ ကျမ်းစာများဖြစ်သည်။ အဋ္ဌကထာတို့၏ ရှေ့ပြေးဖြစ်သော ပါဠိကျမ်းစာများ ဖြစ်သည်။ ယင်းကျမ်းတို့ကို အောက်ပါအတိုင်း တွေ့ရသည်။

(၁) နေတ္တိပကရဏ ။ ဓမ္မရေးရာနှင့် ပတ်သက်သော ဝေါဟာရနှင့် အဓိပ္ပာယ်တို့ကို ရှင်းလင်းဖော်ပြထားသည်။

(၂) ပေဋကောပဒေသ ။ ပိဋကတ် ၃-ပုံမှ ကောင်းနိုးရာရာအချက်တို့ကို ပေါင်းစု ဖော်ပြထားသည်။

(၃) မိလိန္ဒပဉှာ ။ ပိဋကတ်တော်တွင် အကျယ်တဝင့် ပါရှိသော သတိ၊ သမာဓိ၊ ပညာ စသည့် အကျင့်တရားများ၊ ဖဿ၊ ဝေဒနာ စသော အဖြစ်တရားများကို စေ့စပ်စွာ ဆွေးနွေးတင်ပြထားသည်။

## ဗုဒ္ဓကျမ်းစာ စိစစ်ရာ

ထေရဝါဒ ဗုဒ္ဓဝါဒီပုဂ္ဂိုလ်တို့သည် ဗုဒ္ဓဘုရားဟောကြားသော ပိဋကတ် ၃-ပုံ တရားစုံတို့ကို စတုတ္ထ သံဂါယနာတင်ပွဲ၌ ပေရွက်ဖြင့် အက္ခရာတင်ခဲ့ကြသည်။

ပဥ္စမသံဂါယနာတင်ပွဲ၌ ကျောက်စာဖြင့် အက္ခရာတင်၍ မှတ်တမ်းပြုခဲ့ကြသည်။

ဆဋ္ဌသံဂါယနာတင်ပွဲတွင်မူ စက္ကူဖြင့်အက္ခရာတင်၍ မှတ်တမ်းပြုခဲ့ကြသည်။

ဆဋ္ဌသံဂါယနာမှ မှတ်တမ်းပြုရာ၌ 'ဆဋ္ဌမူ' ခေါ် စာအုပ်များဖြင့် ဤသို့ ခွဲခြား ရိုက်နှိပ်ထားကြသည်။

| ကျမ်းအမည် | ကျမ်းရေ | စာအုပ်ရေ |
|---|---|---|
| ဝိနည်း | ၅ | ၅ |
| ဒီဃနိကာယ် | ၃ | ၃ |
| မဇ္ဈိမနိကာယ် | ၃ | ၃ |
| သံယုတ္တနိကာယ် | ၅ | ၃ |
| အင်္ဂုတ္တရနိကာယ် | ၁၁ | ၃ |
| ခုဒ္ဒကနိကာယ် | ၁၉ | ၁၁ |
| အဘိဓမ္မာ | ၇ | ၁၂ |
| စုစုပေါင်း | ၅၃ | ၄၀ |

စတုတ္ထ၊ ပဉ္စမ၊ ဆဋ္ဌသံဂါယနာတင်ပွဲတို့၌ ပေစာ၊ကျောက်စာ၊စက္ကူစာတို့ ဖြင့်မှတ်တမ်းတင်ခဲ့ကြရာတွင် အရေအတွက်တို့ကို ဤသို့ တွေ့ရှိရသည်။

| | | |
|---|---|---|
| - ပေရွက်ရေ | ၆၃၄၅ | - ရွက် |
| - ကျောက်ချပ်ရေ | ၇၂၉ | - ချပ် |
| - စာအုပ်ရေ | ၄၀ | - အုပ် |
| - စာရွက်ရေ | ၆၅၄၇ | - ရွက် |
| - စာမျက်နှာ | ၁၃၀၉၄ | -မျက်နှာ |
| -စာကြောင်းရေ | ၄၀၄၀၇၀ | -ကြောင်းရှိပေသည်။ |

ပိဋကတ် ၃- ပုံလုံး၌ ပါဝင်သော အက္ခရာလုံးရေမှာ ၁၁၀၂၇၅၀(တစ်ကုဋေ တစ်သန်း နှစ်သောင်း တစ်ထောင် ခုနှစ်ရာငါးဆယ်) ရှိလေသည်။

# အခန်း (၅)

# ထေရဝါဒ ဓမ္မရတနာ

## ဘာသာများထဲက ဗုဒ္ဓဘာသာ

ကမ္ဘာ့သမိုင်း တစ်လျှောက်တွင် လူသားတို့ ကိုးကွယ်ခဲ့ကြသော ဘာသာဝါဒများကား များပြားလှပေသည်။ သမိုင်းဦးဘာသာရေးသည် လူသားတို့၏ အယူအဆအရ ဖြစ်ပေါ်လာသော ဘာသာအယူဝါဒများ ဖြစ်သည်။ နောက်ပိုင်းတွင် ဘာသာဝါဒကို ထူထောင်သော လူသားများ ပေါ်ပေါက်လာ၏။ ဘာသာတရားကို ဟောပြောသော ပုဂ္ဂိုလ်များသည် ဘာသာရှင်များ ဖြစ်လာကြသည်။

ဘာသာဝါဒကို ထူထောင်ဟောပြောသော သူတို့သည် သာမန်ပုဂ္ဂိုလ်များ မဟုတ်ကြ။ သဘာဝကို လေ့လာလျက် အတွေ့သစ်၊ အသိသစ်တို့ကို ရှာဖွေကြသူများဖြစ်၏။ မိမိတို့၏ပတ်ဝန်းကျင်တွင် ခံယူနေကြသော ယုံကြည်ချက်များကို အသိသစ်ဖြင့် ချေဖျက်၍ ဟောကြားကြသည်။ ထိုဟောကြားချက်များကို နောင်းလူတို့က မှတ်တမ်းတင်ခဲ့ကြသည်။ ထိုမှတ်တမ်းကြီးများသည် ဘာသာရှင်တို့၏ ဓမ္မစာပေများအဖြစ် တည်ရှိနေလေသည်။

ဘာသာဝါဒများကို လေ့လာရာ၌ အချို့ဘာသာရှင်တို့သည် မိမိတို့၏ ဓမ္မသစ်များကို ရိုးရာယဉ်ကျေးမှုများဖြင့် ချဉ်းကပ်၍ဟောပြောကြသည်။ ဓလေ့ဟောင်းယဉ်ကျေးမှုကို မှီခို၍ ဘာသာဝါဒကို ထူထောင်ကြသည်။ ထိုဘာသာဝါဒများမှာ-

(၁) ဟိန္ဒူဘာသာ

(၂) ခရစ်ယာန်ဘာသာ

(၃) အစ္စလာမ်ဘာသာ စသည်တို့ ဖြစ်သည်။

ကမ္ဘာတွင် ထင်ရှားသော အထက်ပါဘာသာကြီး ၃-ခုတို့သည် ရှေးဟောင်း ယဉ်ကျေးမှု အယူဝါဒများတွင် ပါဝင်နေသော ထာဝရဘုရားကို အခြေပြုသည့် ဘာသာဝါဒများ ဖြစ်သည်။

ထာဝရဘုရားဆိုသည်ကား ကမ္ဘာလောကကြီးနှင့်တကွ သက်ရှိသက်မဲ့ အရာအားလုံးကို ဖန်ဆင်းပေးသော အနန္တတန်ခိုးရှင်ဖြစ်သည်။ အလုံးစုံကိုသိသော ဉာဏ်တော်ရှင်လည်း ဖြစ်သည်။ မေတ္တာရှင်လည်း ဖြစ်သည်။ထိုအရှင်သည် စကြဝဠာအနန္တ၌ အစဉ်ထာဝရ တည်ရှိနေသည်။ ဖြစ်ခြင်း ပျက်ခြင်းမရှိသော တန်ခိုးရှင်ကြီး ဖြစ်သည်။

လူ၊ တိရစ္ဆာန်နှင့် မည်သည့်အရာဝတ္ထုကိုမဆို ထာဝရဘုရားသခင်၏ ဆန္ဒအတိုင်းသာ ဖြစ်ပေါ်လာရသည်။ ပျက်စီးသွားရသည်။ စကြဝဠာ လောကဓာတ်ကြီး မရှိမီကပင် ထာဝရဘုရားရှင် ရှိနေပြီဖြစ်၏။ စကြဝဠာကြီး ပျက်စီးသွားသော်လည်း ထာဝရဘုရားသခင်ကား ပျက်စီးခြင်းမရှိ၊ ဆက်လက်တည်ရှိနေဦးမည် ဖြစ်၏။ ဤကား ထာဝရဘုရားသခင်၏ သဘောပင်ဖြစ်၏။

ထာဝရဘုရားကို ငြင်းပယ်လျက် သဘာဝတရားကို ဖေါ်ပြသောဘာသာကား ဗုဒ္ဓဘာသာဖြစ်သည်။ ဗုဒ္ဓဘာသာ၌-

- ထာဝရဘုရားကို ငြင်းပယ်၏။
- အတ္တတရားကို လက်မခံ။
- ကယ်တင်ရှင်ဟူ၍ မရှိ။
- ဖန်ဆင်းမှုကို အတည်မပြု။

မိမိကိုယ်ကို မိမိသာလျှင် ဖန်တီးသည်ဟူသော ဓမ္မဒေသနာသစ်ကို ဟောကြားလျက် ဘာသာဝါဒကို ထူထောင်ခဲ့သူကား ဂေါတမဗုဒ္ဓဖြစ်ပေသည်။ ဗုဒ္ဓဘုရားသည် ဓလေ့ရိုးရာ စိတ်ကူးယဉ်ဝါဒများကို လက်မခံဘဲ အခြေခံကျသော လူသားဘဝကို အဓိကထား၍ တရားဓမ္မများကို ဟောကြားခဲ့လေသည်။

ဗုဒ္ဓဘုရားရှင်သည် မိမိ၏ဓမ္မသစ် ဒေသနာတို့ကို ၄၅-နှစ်ပတ်လုံး ကောသလတိုင်း၊ မဂဓတိုင်းနှင့်ဂင်္ဂါမြစ်ဝှမ်းမြောက်ဘက်ရှိ ဒေသအနှံ့အပြား၌ ဟောပြခဲ့သည်။ မိမိ၏ဘာသာဝါဒ ပြန့်ပွားရေးအတွက် သံဃာ့အဖွဲ့အစည်းကို ထူထောင်၍ အောင်မြင်စွာ ဆောင်ရွက်နိုင်ခဲ့ပေသည်။

## ဗုဒ္ဓဘာသာဝင် ဖြစ်ခြင်း

ဗုဒ္ဓဘာသာဝင်တစ်ဦး ဖြစ်ရန်အတွက် ကျယ်ပြန့်သော ဥပဒေများမရှိပေ။ ဗုဒ္ဓဘာသာလောက၌ ကိုးကွယ်ရာ ၃-မျိုးရှိ၏။ ယင်းတို့မှာ-

(၁) ဗုဒ္ဓဘုရားကို ကိုးကွယ်ရာဟူ၍ ဆည်းကပ်ခြင်း

(၂) ဗုဒ္ဓ၏ တရားတော်ကို ကိုးကွယ်ရာဟူ၍ ဆည်းကပ်ခြင်း

(၃) ဗုဒ္ဓ၏ သံဃာ့အဖွဲ့အစည်းကို ကိုးကွယ်ရာဟူ၍ ဆည်းကပ်ခြင်းတို့ ဖြစ်ပေသည်။ ဤသုံးပါးကို ယုံကြည်လက်ခံလိုက်ပါက ဗုဒ္ဓဘာသာဝင်ဖြစ်ပေပြီ။ ထိုသုံးပါးကို သရဏဂုံ ၃-ပါးဟု ဗုဒ္ဓဘာသာတို့ ခေါ်ဆိုကြသည်။

## ဗုဒ္ဓဘာသာသီလ

ဗုဒ္ဓဘာသာဝင်တစ်ဦးအတွက် လိုက်နာကျင့်သုံးရသည့် ကျင့်ဝတ် ၅-မျိုးရှိသည်။

(၁) သူ့အသက်ကို သတ်ခြင်းမှ ရှောင်ကြဉ်ရခြင်း

(၂) သူတစ်ပါးပစ္စည်းကို ခိုးယူခြင်းမှ ရှောင်ကြဉ်ရခြင်း

(၃) ကာမဂုဏ်ဖောက်ပြန်မှုမှ ရှောင်ကြဉ်ရခြင်း

(၄) မဟုတ်မမှန် ပြောဆိုခြင်းမှ ရှောင်ကြဉ်ရခြင်း

(၅) မူးယစ်ပစ္စည်း သုံးစွဲမှုမှ ရှောင်ကြဉ်ရခြင်း တို့ဖြစ်သည်။

ဗုဒ္ဓဘာသာဝင်တို့သည် ဥပုသ်နေ့နှင့် အခါကြီးရက်ကြီးများတွင် ၈-ပါးသီလကို ဆောက်တည်ကျင့်သုံးကြ၏။ ထို့ပြင် အခြားကျင့်ဝတ်သီလများလည်း ရှိသေး၏။

ဗုဒ္ဓဘုရား၏ ဓမ္မဒေသနာများ၌ လူသားတို့အတွက် လက်ငင်း လက်တွေ့ အကျိုးဖြစ်စေမည့် ဓမ္မဒေသနာများလည်း များပြားဒွေးကြွယ်လှသည်။ ဗုဒ္ဓဘုရားက သူ၏ ဓမ္မဒေသနာတို့မှာ လက်ငင်းချမ်းသာကို ရရှိစေရမည်။ အခါမဆိုင်း အကျိုးရှိစေရမည်။ စမ်းသပ်ခံနိုင်သော စွမ်းရည်ရှိသည်ဟူ၍ အတိအလင်း ဟောကြားခဲ့သည်။

ဗုဒ္ဓဘုရားလက်ထက်တွင် ဘာသာဝါဒကို ထူထောင်နေကြသော ဂိုဏ်းဆရာကြီးများ ပေါ်ပေါက်နေ၏။ ယင်းဆရာကြီးတို့ကလည်း မိမိတို့၏တရားသာ အမှန်ဖြစ်ပါသည်ဟု ကြွေးကြော်အော်ဟစ်လျက် ဟောမြွက်နေကြ၏။ အိန္ဒိယပြည်သူတို့သည် ဝါဒများအကြား၌ ဗျာများနေရသူများလည်း ရှိနေသည်။ မည်သည့်ဝါဒက

မှန်သည် မှားသည်ဟူ၍ မဝေခွဲတတ်သူများ ရှိနေသည်။ ထိုအထဲတွင် ကေသမုတ္တ နိဂုံး ရွာသား ကာလာမ မင်းသားတို့လည်း အပါအဝင် ဖြစ်သည်။

## ကာလာမဒေသနာ စံပြုစရာ

ကေသမုတ္တရွာသား ကာလာမမင်းသားတို့က ဗုဒ္ဓဘုရားရှင်အား ဤသို့ လျှောက်ထား၏။

"မြတ်စွာဘုရား၊ ကေသမုတ္တရွာနိဂုံးသို့ ရောက်လာကြသည့် ရဟန်းပုဏ္ဏား ဂိုဏ်းဆရာများက မိမိတို့၏အယူဝါဒသာ မှန်သည်။ အခြားအယူဝါဒများမှားသည် ဟု ရှုတ်ချကဲ့ရဲ့ပြီး ပြောဆိုကြပါသည်။ တပည့်တော်တို့မှာ ဘယ်အယူဝါဒက အမှန် ဖြစ်သည်ဟု မဝေခွဲနိုင်အောင် ဖြစ်နေရပါသည်။ အယူဝါဒတွေအပေါ်မှာ သံသယ ဖြစ်နေရပါသည် ဘုရား၊ ဝါဒမှန်ရမည့်နည်းလမ်းကို ဟောပြတော်မူပါ။"

ထိုအခါ ဗုဒ္ဓဘုရားရှင်က အယူဝါဒရေးရာ နှင့်ပတ်သက်၍ စံထားစရာ ဒေသနာ ၁၀-ချက်ကို ဟောပြတော်မူသည်။

"အို- ကာလာမမင်းသားတို့၊ သင်တို့သည် အယူဝါဒတစ်ရပ်ကို

(၁) တစ်ဆင့်စကား ကြားရုံဖြင့်လည်း လက်မခံကြနှင့်၊
(၂) ဘေးဘိုးစဉ်လာ အယူဝါဒဖြစ်၍လည်း လက်မခံကြနှင့်၊
(၃) 'ဒီအရာက ဒီလိုဖြစ်သတဲ့' ဟူသောကောလာဟလစကားကိုလည်း လက်မခံကြနှင့်၊
(၄) မိမိတို့ လေ့လာထားသော ကျမ်းစာနှင့် ညီညွတ်သည်ဟူ၍လည်း လက်မခံကြနှင့်၊
(၅) မိမိတို့ တွေးခေါ် ကြံဆမှုနှင့် ကိုက်ညီရုံမျှဖြင့်လည်း လက်မခံကြနှင့်၊
(၆) 'ဒီအရာဟာ ယုတ္တိရှိသည်'ဟု နည်းမှီထောက်ဆ၍ ရရုံမျှဖြင့်လည်း လက်မခံကြနှင့်၊
(၇) 'ဒီအရာဟာ မှန်ကန်ပြီ' ဟု မိမိဘာသာဆင်ခြင်သုံးသပ်၍ ရရုံမျှဖြင့် လည်း လက်မခံကြနှင့်၊
(၈) မိမိတို့ စဉ်းစား တွေးကြံ လက်ခံထားသော အယူဝါဒနှင့် ကိုက်ညီပြီ ဟူ၍လည်း လက်မခံကြနှင့်၊
(၉) မိမိတို့ ယုံကြည်ထိုက်သော ပုဂ္ဂိုလ်ကြီးက ပြောသောစကားဖြစ်၍ လည်း လက်မခံကြနှင့်၊

(၁၀) မိမိတို့ လေးစားသော ဆရာသမားာ၏ စကားဖြစ်၍လည်း လက်မခံကြနှင့်။"

ဤအချက်တို့ကို ထောက်ရှုသောအားဖြင့် ဗုဒ္ဓဘုရားသည် လူမှုအကျိုးတရားကို ဖော်ဆောင်နိုင်မည့် သစ္စဝါဒကို ရရှိနိုင်ရန်အတွက် ဉာဏချိန်ခွင်တွင် တင်၍ ဆုံးဖြတ်ခိုင်းထားခြင်း ဖြစ်သည်။

ဗုဒ္ဓဘုရားသည် ဝါဒရွေးရာ စံပြုစရာ ၁၀-ချက်ကို ဟောပြပြီးနောက် ကိုယ်တိုင်လက်တွေ့ စမ်းသပ်ရမည့် ဒေသနာဓမ္မကိုလည်း ဆက်လက်၍ ဟောပြတော်မူသည်။

"အို - ကာလာမမင်းသားတို့၊ သင်တို့သည် 'ဒီတရားကမကောင်းမှု အကုသိုလ်တရားပဲ။ ဒီတရားက အပြစ်ရှိတဲ့ တရားဖြစ်တယ်။ ပညာရှိတို့ ကဲ့ရဲ့အပ်တဲ့ တရားဖြစ်တယ်။ ဒီတရားကို ကျင့်သုံးရင် အကျိုးမဲ့ဖြစ်မယ်၊ ဆင်းရဲဒုက္ခရောက်စေမယ်'ဟု သင်တို့ကိုယ်တိုင် သိရှိလာမည်ဆိုလျှင် ထိုတရားကို ဖယ်ရှားကြရမည်"

ဤနေရာတွင် ကောင်းမှုနှင့် မကောင်းမှုဆိုသောသဘောတရားကို လေ့လာရတော့မည်။ မကောင်းမှုသဘောကို အယူဝါဒတစ်ခုနှင့်တစ်ခု သတ်မှတ်ပုံချင်း မတူညီကြပေ။ ဗုဒ္ဓဒေသနာတော်ကမူ မကောင်းသောအမှု၊ မကောင်းသောစရိုက်တို့ကို ဤသို့ အဖြေရှာပေးထားသည်။

## မကောင်းမှု စရိုက်ဆိုး ၁၀ပါး

ဗုဒ္ဓဒေသနာတော်၌ မကောင်းမှု စရိုက်ဆိုး ၁၀-ပါးကို မပြုလုပ်ရန် တားမြစ်ထား၏။ ယင်း ၁၀-ပါးမှာ -

(၁) ကိုယ်ဖြင့်ပြုလုပ်သော စရိုက်ဆိုး ၃-ပါး

(၂) နှုတ်ဖြင့်ပြုလုပ်သော စရိုက်ဆိုး ၄-ပါး

(၃) စိတ်ဖြင့်ပြုလုပ်သော စရိုက်ဆိုး ၃-ပါး

တို့ဖြစ်ပေသည်။ ယင်းစရိုက်ဆိုး ၁၀-ပါးကိုလည်း ဤသို့ ခွဲဖွင့်ပြထား၏။

(၁) ကိုယ်ဖြင့်ပြုလုပ်သော စရိုက်ဆိုး ၃-ပါးမှာ-

(က) သူတစ်ပါး၏ အသက်ကို သတ်ခြင်း

(ခ) သူတစ်ပါး၏ ဥစ္စာကို ခိုးယူခြင်း

(ဂ) ကာမမှု၌ ဖောက်ပြန်ခြင်း တို့ဖြစ်သည်။

(၂) နှုတ်ဖြင့်ပြုလုပ်သော စရိုက်ဆိုး (၄)ပါးမှာ -
(က) မဟုတ်မမှန် လိမ်ညာပြောဆိုခြင်း
(ခ) ခင်မင်နေသူအချင်းချင်း စိတ်ဝမ်းကွဲအောင် ကုန်းတိုက်စကား ပြောဆိုခြင်း
(ဂ) မိမိ၊ သူတစ်ပါး အကျိုးမရှိသောစကားကို ပြောဆိုခြင်း
(ဃ) ကြမ်းတမ်းသောစကားကို ပြောဆိုခြင်း တို့ဖြစ်သည်။

(၃) စိတ်ဖြင့်ပြုလုပ်သော စရိုက်ဆိုး ၃-ပါးမှာ-
(က) သူတစ်ပါး၏ ပစ္စည်းကို မိမိရယူနိုင်ရန်မတရားသောနည်းလမ်း ဖြင့် ကြံစည်ခြင်း
(ခ) သူတစ်ပါး၏ စည်းစိမ်ဥစ္စာကို ဖျက်ဆီးရန် ကြံစည်ခြင်း
(ဂ) အယူအမြင် မှားယွင်းခြင်း တို့ဖြစ်ပေသည်။

ဖော်ပြပါ စရိုက်ဆိုးများကို မပြုလုပ်ဘဲ ရှောင်ကြဉ်နေသူကို စရိုက်ကောင်း ရှိသူ၊ စာရိတ္တကောင်းသူဟူ၍ ဗုဒ္ဓဒေသနာတော်၌ ဟောပြထားလေသည်။

## လူတို့ကျင့်ရာ မင်္ဂလာ

ဗုဒ္ဓဒေသနာတော်၌ လူမှုဘဝကျင့်ထုံးများကို အကောင်းဆုံးဖော်ပြသည့် ဒေသနာတစ်ခုလည်း ရှိသည်။ ယင်းကား မင်္ဂလသုတ်တရားတော် ဖြစ်သည်။ မင်္ဂလသုတ်သည် လူ့ဘဝတစ်ခုလုံးအတွက် ဆောင်ရန် ရှောင်ရန်များကို ဖော်ပြ ထား၏။ တရားတော်ကို အနှစ်ချုပ်လျှင် ၃၈-ပါးမျှ ရှိသည်။ ယင်းတို့မှာ အောက်ပါ အတိုင်းဖြစ်သည်။

(၁) လူမိုက်ကို မပေါင်းဖော်ခြင်း
(၂)ပညာရှိသူကို ဆည်းကပ်ခြင်း
(၃) ပူဇော်ထိုက်သူကို ပူဇော်ခြင်း
(၄) သင့်လျော်သောအရပ်ဒေသ၌ နေထိုင်ခြင်း
(၅) ရှေးကပြုသော ကောင်းမှုရှိခြင်း
(၆) မိမိကိုယ်ကို ကောင်းစွာ ထိန်းသိမ်းခြင်း
(၇) အကြားအမြင် ဗဟုသုတများခြင်း
(၈) စက်မှု လက်မှုစသော အပြစ်မဲ့ပညာကို တတ်မြောက်ခြင်း
(၉) ယဉ်ကျေးမှု အကျင့်သိက္ခာကို သင်ယူခြင်း

(၁၀) ကောင်းသောစကားကို ပြောဆိုခြင်း
(၁၁) မိဘနှစ်ပါးတို့အား လုပ်ကျွေးခြင်း
(၁၂) သား သားမယားတို့အား ပေးကမ်းထောက်ပံ့ခြင်း
(၁၃) မည်သူ့ကိုမျှ မထိခိုက်သောအလုပ်ကို လုပ်ခြင်း
(၁၄) ပေးကမ်းလှူဒါန်းခြင်း
(၁၅) မြတ်သောအကျင့်ကို ကျင့်ခြင်း
(၁၆) ဆွေမျိုးတို့ကို တတ်နိုင်သလောက် ထောက်ပံ့ခြင်း
(၁၇) အကုသိုလ်ကင်းသောအလုပ်ကို လုပ်ခြင်း
(၁၈) မကောင်းမှုကို စိတ်ဖြင့် ဝေးစွာရှောင်ခြင်း
(၁၉) မကောင်းမှုကို ကိုယ်နှုတ်နှစ်ပါးဖြင့် ရှောင်ခြင်း
(၂၀) သေရည် သေရက် မူးယစ်ဆေးဝါးတို့ကို ရှောင်ခြင်း
(၂၁) ကောင်းမှုတို့၌ မမေ့လျော့ခြင်း
(၂၂) ရိုသေထိုက်သူကို ရိုသေခြင်း
(၂၃) မောက်မာမှုမရှိဘဲ နှိမ့်ချခြင်း
(၂၄) ရသမျှနှင့် ရောင့်ရဲတင်းတိမ်နိုင်ခြင်း
(၂၅) သူတစ်ပါး၏ကျေးဇူးကို သိတတ်ခြင်း
(၂၆) အခါအခွင့်သင့်တိုင်း တရားနာခြင်း
(၂၇) သည်းခံတတ်ခြင်း
(၂၈) ဆိုဆုံးမ လွယ်ကူသူ ဖြစ်ခြင်း
(၂၉) အရိယာ သံဃာတို့ကို ဖူးတွေ့ခြင်း
(၃၀) သင့်လျော်သော အခါ၌ တရားဆွေးနွေးခြင်း
(၃၁) ခြိုးခြံစွာ ကျင့်ခြင်း
(၃၂) မြတ်သောအကျင့်ရှိရခြင်း
(၃၃) အရိယသစ္စာတရားကို သိမြင်ရခြင်း
(၃၄) နိဗ္ဗာန်ချမ်းသာကို မျက်မှောက်ပြုနိုင်ခြင်း
(၃၅) လောကဓံတရားတို့ကို ခံနိုင်ရည်ရှိခြင်း
(၃၆) စိုးရိမ်ကြောင့်ကြမှု မရှိခြင်း
(၃၇) ပြင်းပြသော အလိုရမ္မက်ကင်းခြင်း
(၃၈) ကြောက်ရွံ့မှု မရှိခြင်း။

## ကြီးပွားချမ်းသာ ဒေသနာ

လူသားတို့သည် ဘဝတစ်ခု ဖြစ်တည်လာပြီဆိုလျှင် အဓိကကျသော လူ့ဘဝ လိုအင်များ မလွဲမသွေ ဖြစ်ပေါ်လာရသည်။ အရေး(၄)ပါးသည် လူ့ဘဝ၏ ပဓာန လိုအင်များဖြစ်၏။ ယင်းတို့မှာ-

(၁) စားသောက်ရေး

(၂) ဝတ်ဆင်ရေး

(၃) နေထိုင်ရေး

(၄) စိတ်ဖြေရေး တို့ဖြစ်ပေသည်။

သမိုင်းစဉ်ဆက် လူသားတို့သည် ဤအရေး (၄)ပါး ပြည့်ဝရေးအတွက် လှုပ်ရှားခဲ့ကြရသည်။ ရုန်းကန်ခဲ့ကြရသည်။ လူ့သမိုင်းကြီး တည်ရှိနေသမျှ နည်းဟန် အမျိုးမျိုးဖြင့် လှုပ်ရှားနေကြရမည်သာ ဖြစ်သည်။ ဤသို့ လှုပ်ရှားနေမှသာလျှင် ဘဝလိုအင်များ ပြည့်စုံလာမည်။ လိုအင်များပြည့်ဝရေးအတွက် စီးပွားဥစ္စာတို့ကို ရှာဖွေကြရသည်။ စီးပွားဥစ္စာပြည့်စုံမှသာလျှင် အရေး(၄)ပါးကို လွယ်ကူစွာ ဖြေရှင်း နိုင်ကြ၏။

ဗုဒ္ဓဘုရားသည် လူမှုဘဝဖူလုံရေး၊ စီးပွားဥစ္စာဖြစ်ထွန်းရေးအတွက်လည်း ဒေသနာများဖြင့် ဟောကြားခဲ့သည်။ သဗ္ဗညုတ ဉာဏ်အမြင်ဖြင့် ဘက်စုံ ထောင့်စုံမှ ဟောပြခဲ့သည်။

ဗုဒ္ဓဘုရားရှင်သည် ပက္ကရပတ္တမည်သော နိဂုံး၌ သီတင်းသုံးနေစဉ် ဗျဂ္ဃပဇ္ဇ ခေါ်သော ဒါယကာတစ်ယောက်က လူမှုဘဝ ဖူလုံရေးအတွက် စီးပွားဖြစ်ကြောင်း တရားတို့ကို မေးလျှောက်ခဲ့သည်။

ထိုအခါ ဘုရားရှင်က လောကချမ်းသာ ရကြောင်းရှာ၍ သမ္ပဒါတရား ၄-ပါးကို ဟောပြတော်မူသည်။

(၁) ဥဋ္ဌာန သမ္ပဒါ - မပျင်းမရိ ထကြွလုံ့လ ဝီရိယရှိမှုနှင့် ပြည့်စုံခြင်း

(၂) အာရက္ခသမ္ပဒါ - ရရှိလာသည့် ပစ္စည်းဥစ္စာတို့ကို လိမ္မာကျွမ်းကျင်စွာ စောင့်ရှောက်ထိန်းသိမ်းတတ်မှုနှင့် ပြည့်စုံခြင်း

(၃) ကလျာဏမိတ္တသမ္ပဒါ - မှီခို ကိုးစား အားထားလောက်သည့် မိတ်ဆွေကောင်း ရှိမှုနှင့် ပြည့်စုံခြင်း

(၄) သမဇီဝိတသမ္ပဒါ - စနစ်တကျ မျှတစွာ အသက်မွေးသုံးစွဲနေထိုင်တတ်မှုနှင့် ပြည့်စုံခြင်း

ထို့ပြင် ကြီးပွားချမ်းသာခြင်း၊ အောင်မြင်ကျော်ကြားခြင်းစသော အကျိုးကောင်းများ ရရှိရေးအတွက် သမ္ပတ္တိစက်ခေါ်သော စက် ၄-မျိုးနှင့်လည်း ပြည့်စုံရန် လိုအပ်သည်။

(၁) ပဋိရူပ ဒေသဝါသ - စီးပွားရေး၊ ဘာသာရေးစသည့် အောင်မြင်တိုးတက်နိုင်သော အရပ်၌ အခြေချနေထိုင်ရခြင်း

(၂) သပ္ပုရိသူပနိဿယ - သူတော်ကောင်းများနှင့် ပညာရှိမိတ်ဆွေကောင်း အပေါင်းအသင်းများ ရှိရခြင်း

(၃) အတ္တသမာ ပဏိဓိ - မိမိကိုယ်ကို လူတော်လူကောင်းဖြစ်အောင် ပြုပြင်ပေးရခြင်း

(၄) ပုဗ္ဗေစ ကတပုညတာ - ရှေးပိုင်းကာလ ရှေးဘဝက ဖြည့်ကျင့်ဆည်းပူးခဲ့သော ကောင်းသောလုပ်ဆောင်မှု ရှိရခြင်း

လောကီ လောကုတ္တရာ ဘက်စုံဖွံ့ဖြိုးတိုးတက်ရေးကို ရယူလိုသော ပုဂ္ဂိုလ်သည် အထက်ပါ ဒေသနာတရားအတိုင်း လိုက်နာကျင့်သုံးအပ်ပေသည်။ ဤဒေသနာတော်လာ ကြီးပွားချမ်းသာကြောင်း တရားများသည် လက်ငင်းဘဝအတွက် စေန်ကြီးပွားနိုင်သော ဥပဒေသများဖြစ်သည်။ လက်တွေ့ကျသော တရားဓမ္မလည်း ဖြစ်သည်။

"ဦးဖွ မန်းလျှင် အရမ်းကြီးပွားမည်" ဟူသော မန္တရဒေသနာ၊ စိတ်ကူးယဉ်ဂါထာမျိုးလည်းမဟုတ်။

"တကယ်လုပ်မှ အဟုတ်ကြီးပွားမည်"ဟူသော လက်တွေ့ဒေသနာဆောင်ပုဒ် စာများ ဖြစ်ချေသည်။

လူတို့သည် သမ္ပဒါ ၄-ပါးနှင့်အညီ ကြိုးစားအားထုတ်သဖြင့် ဘဝနှင့်ဘဝစည်းစိမ်များကို ရရှိနိုင်ကြသည်။ ထိုရရှိလာသော ဘဝအခြေအနေကို မပျက်မယွင်းအောင် မိမိ၏ဘဝကို ထိန်းသိမ်းနေတတ်ဖို့လည်း လိုအပ်သည်။ အကယ်၍ မိမိက အနေအထိုင်မတတ်ခဲ့လျှင်လည်း ရရှိပြီးသော ဘဝစည်းစိမ်များ ပျက်စီးသွားရမည် ဖြစ်သည်။

ဘဝစည်းစိမ်ဥစ္စာ ပျက်စီးဆုတ်ယုတ်ကြောင်း တရားများကို ဤသို့ ဖော်ပြထား၏။

(၁) သေရည်သေရက်စသော မူးယစ်ပစ္စည်းများကို သုံးစွဲလေ့ရှိခြင်း

(၂) အချိန်အခါမဲ့ ခရီးသွားလာလေ့ရှိခြင်း

(၃) ပျော်ပွဲသဘင်တို့၌ သွားလာ ကြည့်ရှုလေ့ရှိခြင်း
(၄) လောင်းကစားစသည်၌ ဝါသနာထုံခြင်း
(၅) မကောင်းသော အဆွေခင်ပွန်းတို့နှင့် ပေါင်းသင်းခြင်း
(၆) ပျင်းရိလေ့ရှိခြင်း

ဗုဒ္ဓစာပေ၌ သိင်္ဂါလောဝါဒသုတ် ဒေသနာတော်သည် လူမှုဒုက္ခဖြေ ရှင်းရေး၊ လူတန်းစားအချင်းချင်း ပြေလည်စွာဆက်ဆံရေး စသော လူမှုရေးကထာ စည်းမျဉ်းအဖြာဖြာတို့ကို ဖော်ပြထားသော တရားတော်ဖြစ်သည်။ ဗုဒ္ဓတရားတော်များသည် လူသားတို့၏ အရေး ၄-ပါးအတွက် လက်တွေ့ရရှိနိုင်သော ဓမ္မဒေသနာများဖြစ်သည်။

ဗုဒ္ဓဘုရား၏ ဒေသနာတို့တွင် လိုရင်းကိုနုတ်၍ အကျဉ်းချုပ်ထားသော ဒေသနာ တစ်ပုဒ်ရှိသည်။ ယင်းဒေသနာမှာ-

(၁) မကောင်းမှုကို မပြုရ
(၂) ကောင်းမှုကို ပြုရမည်
(၃) စိတ်ကိုဖြူစင်စေရမည်

ဟူ၍ ဖြစ်ပေသည်။

အထက်ပါ ၃-ချက်သည် ဗုဒ္ဓဘုရားရှင်၏ ဓမ္မဒေသနာတော်အနှစ်ချုပ် ဖြစ်သတည်း။

## ဗုဒ္ဓ၏ ဒဿနတရားတော်

ဗုဒ္ဓဘုရားရှင်သည် အမှန်တရားကို ရှာဖွေရာတွင် သဘာဝတရား ပေါ်၌ ချဉ်းကပ်၍ရှာဖွေခဲ့သည်။ လောကသဘာဝကို အခြေခံကျစွာ သုံးသပ်ရှုကြည့်ခဲ့သည်။ ထိုအခါ လောကသဘာဝ၌ တကယ်တမ်းရှိနေသောတရား၄-မျိုးကို တွေ့မြင်လာခဲ့သည်။

(၁) အာရုံကို သိတတ်သော စိတ်သဘာဝတရား
(၂) စိတ်ကို အမှီပြု၍ ဖြစ်ပေါ်တတ်သော စေတသိက်သဘာဝတရား
(၃) ဖောက်ပြန်ပြောင်းလဲနေသော ရုပ်သဘာဝတရား
(၄) စွဲလမ်းမှုများမှ လွတ်မြောက်သော နိဗ္ဗာန်သဘာဝတရား

ဖော်ပြပါ သဘာဝတရား ၄-ပါးတို့သည် တကယ်တမ်းရှိနေသော တရားများဖြစ်သည်။

ထိုအရှိတရား ၄- ပါးတို့တွင် နိဗ္ဗာန်ဟူသော သဘာဝတရားမှာ ဗုဒ္ဓကိုယ်တိုင် ရှာဖွေတွေ့ရှိခဲ့သော ဓာတ်သဘာဝတစ်ခုဖြစ်သည်။ နိဗ္ဗာနဓာတ်သည် လူသားတို့၏ငြိမ်းချမ်းမှုကို အစဉ်ထာဝရ ပေးနေသော ဓာတ်သဘာဝလည်းဖြစ်၏။ ဗုဒ္ဓဘာသာတို့၏ အထွတ်အထိပ်ဖြစ်သော ဓာတ်လည်း ဖြစ်သည်။ နိဗ္ဗာနဓာတ်၏ အနှစ်သာရ သဘာဝကို ရရှိနိုင်ရန်အတွက် ဗုဒ္ဓဘာသာဝင်တိုင်း အပတ်တကုတ် ကြိုးစားအားထုတ်နေကြလေသည်။

ဗုဒ္ဓဘုရားရှင်သည် နိဗ္ဗာနဓာတ်သဘာဝကို သိမြင်ခံစားနိုင်ရန်အတွက် ဒေသနာ အစားစားဖြင့် ဟောကြားပြခဲ့သည်။ နိဗ္ဗာနဓာတ်ကို သိမြင်ရန်အတွက် အားထုတ်ကြရာ၌ ရှောင်ကြဉ်ရမည့် ကိစ္စတို့ကို ရှေးဦးစွာဟောပြထားသည်။

- ကာမဂုဏ် အာရုံနောက်သို့ ရမ္မက်ကြီးစွာလိုက်၍ ခံစားနေသဖြင့် နိဗ္ဗာနဓာတ်ကို မသိနိုင်။
- မိမိခန္ဓာကိုယ်ကို အဆင်းရဲခံ၍ ပင်ပန်းကြီးစွာ ကျင့်နေသဖြင့် နိဗ္ဗာနဓာတ်ကို မသိနိုင်။

မှန်ပေသည်။ နိဗ္ဗာန ဓာတ်သဘောကို ဉာဏ်စက္ခုဖြင့်သာ သိရှိနိုင်၏။ ခန္ဓာကိုယ်ကို အပင်ပန်းခံ၍ကျင့်ကြံခြင်းဖြင့် ဉာဏ်လမ်းကြောင်းပေါ်သို့ မရောက်နိုင်ပေ။

ဗုဒ္ဓဘုရားရှင်ကိုယ်တိုင် ၆- နှစ်ကြာမျှ ခန္ဓာကိုယ်ကို အပင်ပန်းခံ၍ ကျင့်ကြံခဲ့ဖူးသည်။ အပင်ပန်းခံလျှင် အမြင်မှန် ရလိမ့်မည်ဟုလည်း ယုံကြည်ခဲ့သည်။ ထိုအချိန်က အိန္ဒိယနိုင်ငံရှိ ရိုးရာကျင့်ထုံးများမှာ အများအားဖြင့် ခန္ဓာကိုယ်ကို ညှဉ်းပန်းရသော ကျင့်ထုံးများဖြစ်သည်။

ဗုဒ္ဓလောင်းလျာ လိုချင်သည်ကား ဘဝငြိမ်းချမ်းမှုဖြစ်၏။ငြိမ်းချမ်းမှုရရှိရန် အတွက် ခန္ဓာကိုယ်ကို ညှဉ်းပန်းကျင့်ရသည်။ ခန္ဓာကိုညှဉ်းဆဲသဖြင့် ခန္ဓာဒုက္ခသာ ရခဲ့သည်။ဘဝငြိမ်းချမ်းမှုကို မရခဲ့ပေ။ ထို့ကြောင့် ရိုးရာကျင့်ထုံးများကို လက်လွှတ်ပြီး ဘဝငြိမ်းချမ်းမှုကို မဇ္ဈိမပဋိပဒါခေါ် အလယ်အလတ် လမ်းစဉ်ဖြင့် ရှာဖွေခဲ့သည်၊ ထိုအခါမှ ငြိမ်းချမ်းသော နိဗ္ဗာနဓာတ်ကို တွေ့သိရသည်။ ဗုဒ္ဓဘုရားရှင်သည်-

(၁) ဆင်းရဲခြင်း တရားကိုလည်းကောင်း
(၂) ဆင်းရဲခြင်း အကြောင်းတရားကိုလည်းကောင်း
(၃) ငြိမ်းချမ်းမှုတရား ကိုလည်းကောင်း

(၄) ငြိမ်းချမ်းခြင်း အကြောင်းတရားကိုလည်းကောင်း ကိုယ်ပိုင်ဉာဏ်ဖြင့် တွေ့မြင်လာသည်။ ထို ၄-မျိုးကို သစ္စာ (အမှန်တရား) လေးပါးဟု ခေါ်ဆို၏။ယင်း ၄-ပါး၏အဓိပ္ပာယ်မှာ အောက်ပါအတိုင်းဖြစ်သည်။

(၁) ဆင်းရဲခြင်းတရား။ ။ ပဋိသန္ဓေနေရခြင်း၊ အိုမင်းရခြင်း၊ နာဖျားရခြင်း၊ သေဆုံးရခြင်း၊ မချစ်သူနှင့် ပေါင်းရခြင်း၊ ချစ်သူနှင့်ခွဲရခြင်း၊ အလိုရှိသောအာရုံကို မရခြင်း၊ အကျဉ်းအားဖြင့် စွဲလမ်းမှုအာရုံဖြစ်သော ရုပ်နာမ် အစုတို့သည် ဆင်းရဲခြင်းတရားမည်၏။

(၂) ဆင်းရဲကြောင်းတရား။ ။ပြင်းပြသောလိုချင်မှုလောဘ (ဝါ) တဏှာသည် ဘဝသစ်ကို မျှော်လင့်ဖြစ်ပေါ်လေ့ရှိ၏။ ထိုတဏှာသည်ကာမကို စွဲလမ်းခြင်း၊ ဘဝကို စွဲလမ်းခြင်း၊ ဝိဘဝကို စွဲလမ်းခြင်းများဖြစ်ပေါ်စေသည်။ ထိုအစွဲအလမ်းများသည် ဆင်းရဲကြောင်းတရားများ ဖြစ်သည်။

(၃) ငြိမ်းချမ်းမှုတရား။ ။ စွဲလမ်းမှုတရား၏ ကင်းရာ၊ ချုပ်ငြိမ်းရာ၊ တဏှာ၏ ကပ်ငြိခြင်းကင်းရာ နိဗ္ဗာန်သည်ရှိ၏။ ထိုနိဗ္ဗာန်ဟူသော သဘောတရားသည် ဆင်းရဲ၏ ချုပ်ငြိမ်းရာ ငြိမ်းချမ်းမှုအမှန်ဖြစ်၏။

(၄) ငြိမ်းချမ်းခြင်းအကြောင်းတရား။ ။နိဗ္ဗာနဓာတ်သဘောကို သိရှိနိုင်ရန်အတွက် အခြေခံတရား ၈-ပါးရှိသည်။ ထို ၈-ပါးကို မဇ္ဈိမပဋိပဒါ လမ်းစဉ်ဟုခေါ်၏။ မဂ္ဂင် ၈-ပါးဟုလည်း ခေါ်၏။

## မဂ္ဂင်ရှစ်ပါး မြတ်တရား

(၁) သမ္မာဒိဋ္ဌိ။ ။ မှန်ကန်သော အသိအမြင်ကို ခေါ်သည်။
ဒုက္ခသစ္စာကို သိမြင်ခြင်း၊ ဒုက္ခသစ္စာ ဖြစ်ကြောင်း သမုဒယသစ္စာကို သိမြင်ခြင်း၊ ဒုက္ခချုပ်ငြိမ်းရာ နိရောဓသစ္စာကို သိမြင်ခြင်း၊ ဒုက္ခချုပ်ရာ နိဗ္ဗာန်သို့ရောက်ကြောင်း အကျင့်ကိုသိမြင်ခြင်း။

(၂) သမ္မာသင်္ကပ္ပ။ ။ မှန်ကန်သော အကြံအစည်ကို ခေါ်သည်။
ကာမဂုဏ် အစွဲမှ ထွက်မြောက်ရာကို ကြံစည်ခြင်းတို့အတွက် ကောင်းစားရေး ချမ်းသာရေးကို ကြံစည်ခြင်း၊ သနားရှေးရှု၍ သတ္တဝါတို့၏ ချမ်းသာရေးကို ကြံစည်ခြင်း။

(၃) သမ္မာဝါစာ။ ။ မှန်ကန်သောစကား ပြောဆိုခြင်းကို ခေါ်သည်။

မဟုတ်မမှန်ပြောခြင်း၊ ကုန်းတိုက်စကားပြောခြင်း၊ ရုန့်ရင်းကြမ်းတမ်းသော စကားကို ပြောခြင်း၊ အကျိုးမရှိ ပြိန်ဖျင်းသော စကားကို ပြောဆိုခြင်းတို့မှ ရှောင်ကြဉ်ခြင်း။

(၄) သမ္မာကမ္မန္တ။ ။ မှန်ကန်သောအမှု ပြုခြင်းကို ခေါ်သည်။
သူ့အသက်သတ်ခြင်း၊ သူ့ဥစ္စာကို ခိုးယူခြင်း၊ ဝတ္ထု ကာမဂုဏ်တို့၌ မှားယွင်းစွာကျင့်ခြင်းတို့မှ ရှောင်ကြဉ်ခြင်း။

(၅) သမ္မာအာဇီဝ။ ။ မှန်ကန်သောအသက်မွေးမှုပြုခြင်းကိုခေါ်သည်။
အသက်မွေးမှုလုပ်ငန်းကို ပြုလုပ်သောအခါ နှုတ်မှုစရိုက်ဆိုး ၄-ပါး၊ ကိုယ်မှုစရိုက်ဆိုး ၃-ပါးတို့မှ ရှောင်ကြဉ်ခြင်း။

(၆) သမ္မာဝါယမ။ ။ မှန်ကန်သော အားထုတ်မှုကို ခေါ်သည်။
မဖြစ်သေးသော အကုသိုလ်တရားတို့ကို မဖြစ်စေရန် အားထုတ်ခြင်း၊ ဖြစ်ပြီးသော အကုသိုလ်တရားတို့ကို ဆက်လက်မဖြစ်ပေါ်စေရန်အားထုတ်ခြင်း၊ မဖြစ်သေးသော ကုသိုလ်တရားတို့ကို ဖြစ်ပေါ်စေရန် အားထုတ်ခြင်း၊ ဖြစ်ပြီးသော ကုသိုလ်တရားတို့ကို ထပ်မံပြန့်ပွားစေရန် အားထုတ်ခြင်း။

(၇) သမ္မာသတိ ။ ။ ကာယ၊ ဝေဒနာ၊ စိတ်၊ ဓမ္မဟူသော ရုပ်နာမ်သဘာဝတို့၌ အကြိမ်ကြိမ် လေ့လာအောက်မေ့ခြင်း။

(၈) သမ္မာသမာဓိ။ ။ မှန်ကန်သော တည်ကြည်မှုကို ခေါ်သည်။
ရုပ်နာမ်သဘာဝတို့ကို ရှုမြင်ဆင်ခြင်ရာ၌ စိတ်ကို တည်ငြိမ်စွာ ထားရှိရခြင်း။

အထက်ဖော်ပြပါ မဂ္ဂင်ရှစ်ရပ် တရားမြတ်ကို အုပ်စုအမျိုးအစား ခွဲခြားရာ၌ -

-သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပတို့ကို 'ပညာမဂ္ဂင်' ၌လည်းကောင်း၊
-သမ္မာဝါစာ၊ သမ္မာကမ္မန္တ၊ သမ္မာအာဇီဝတို့ကို 'သီလမဂ္ဂင်'၌ လည်းကောင်း၊
-သမ္မာဝါယမ၊ သမ္မာသတိ၊ သမ္မာသမာဓိတို့ကို 'သမာဓိမဂ္ဂင်'၌လည်းကောင်း ထည့်သွင်းဖွဲ့စည်းထားလေသည်။

ဤမဂ္ဂင်ရှစ်ပါးသည် သစ္စာခေါ် အမှန်တရားကို သိမြင်နိုင်သော အကြောင်းတရားများဖြစ်သည်။ နိဗ္ဗာနဓာတ်ကို တွေ့မြင်နိုင်သောတရားများဖြစ်သည်။ နိဗ္ဗာန

ဓာတ်၏ သဘာဝကို တွေ့မြင်သိရှိသော သူသည် ဗုဒ္ဓဘာသာ၏ အထွတ်အထိပ်ဖြစ်သော တရားဓမ္မကို ရရှိသူ မည်လေတော့သည်။

ဗုဒ္ဓဘုရားသည် မြင့်မြတ်သော အမှန်တရား (သစ္စာ) ၄-ပါးကို မိဂဒါဝုန်တောဝနာ ၌ အစောဆုံးဟောကြားခဲ့၏။ ဒေသနာတော်၏ အမည်ကို 'ဓမ္မစက္ကပဝတ္တနသုတ်' ဟုခေါ်သည်။ ထိုသုတ်၌ ဟောထားသော ဒေသနာထဲတွင် အဓိပ္ပာယ်ဖော်ယူရန် ခက်ခဲသော အကြောင်းအရာများလည်း ပါရှိသည်။ အဓိပ္ပာယ်အယူအဆများလည်း ကွဲပြားနိုင်သည်။

ဤသုတ်တော်၌သာမဟုတ်၊ ဗုဒ္ဓဘုရားရှင် ဟောကြားသော အခြားဒေသနာများ၌လည်း အဓိပ္ပာယ်ဖော်ယူရန် လျှို့ဝှက်နက်ရှိုင်းသော၊ ခက်ခဲသိမ်မွေ့သော အကြောင်းရပ်များကို တွေ့ရှိကြရသည်။ လွန်ခဲ့သော နှစ်ပေါင်း ၂၆၀၀-နီးပါးက ဟောကြားခဲ့သော ဒေသနာစကား ဝေါဟာရများမှ ရည်ညွှန်းချက်တို့ကို ယနေ့ခေတ်အမြင်နှင့် အဓိပ္ပာယ်ဖော်ယူရန် ခက်ခဲသည်မှာ အဆန်းမဟုတ်ပေ။ ထို့ပြင် ဗုဒ္ဓဟောကြားသော ဘာသာစကားကလည်း မြန်မာဘာသာမဟုတ်။

လွန်ခဲ့သော နှစ်ပေါင်း ၉၀၀-ဝန်းကျင်က ပုဂံခေတ်ထိုး မြန်မာဘာသာရေးကျောက်စာများကိုပင် မြန်မာတို့ အဓိပ္ပာယ်ဖွင့်ဆိုချက်များ၊ ကောက်ယူဆုံးဖြတ်ချက်များ ကွဲပြားခြားနားခဲ့ကြသည် မဟုတ်ပါလော။

မည်သို့ရှိစေ ဓမ္မစက္ကပဝတ္တနသုတ်၌ ဟောကြားသော ဒေသနာတော်၏ လိုရင်းအချက်ကိုမူ သိနိုင်ကြပါသည်။ သတ္တဝါတို့ ဆင်းရဲဖြစ်ပေါ်နေရသည်မှာ တဏှာဟူသော စွဲလမ်းမှုကြောင့် ဖြစ်၏။ တဏှာကို ဖြတ်တောက်နိုင်လျှင် စိတ်ပိုင်းဆိုင်ရာ ဆင်းရဲဒုက္ခလည်း ပြတ်ကင်းသွားမည်။ ဆင်းရဲကင်းရာ နိဗ္ဗာနဓာတ်ကိုလည်း တွေ့မြင်နိုင်မည် ဖြစ်လေသည်။

## နိဗ္ဗာန်သဘောတရား

နိဗ္ဗာန်ဆိုသည်မှာ နိပုဒ်၊ ဝါနပုဒ်တို့ကို ပေါင်းစပ်ထားသော ဝေါဟာရဖြစ်သည်။

နိ = မရှိခြင်း၊ ဝါန = စွဲလမ်းတပ်မက်မှု -

ဟူ၍ အဓိပ္ပာယ်ရှိသည်။ စွဲလမ်းမှုမရှိခြင်းသည်ပင် နိဗ္ဗာနဓာတ်၏ အဓိပ္ပာယ်ဖြစ်သည်။ ဤဝေါဟာရကို မြန်မာနိုင်ငံ ဗုဒ္ဓဘာသာဝင်တို့က 'နိဗ္ဗာန်' ဟူ၍ ပါဠိသက်ဝေါဟာရဖြင့် ခေါ်ဆိုနေကြသည်။

နိဗ္ဗာန်၏ ဂုဏ်ပုဒ်ကို ဖွင့်ဆိုရေးသားကြသော စာပေများ အလွန်များပြားလှသည်။ နိဗ္ဗာန်သည် အလွန်တရာ မြင့်မြတ်သည်။ အစဉ်ထာဝရ တည်မြဲနေသောတရားဖြစ်၏။ ဖျက်ဆီး၍ မရသော တရားလည်းဖြစ်၏။ မြေ၊ ရေ၊ လေ၊ မီးဟူသောဓာတ်ကြီး ၄-ပါးတို့ဖြင့် တည်ဆောက်ထားသော အရာလည်းမဟုတ်။ ဆင်းရဲမှုကိုကျော်လွန်၏။ ဆင်းရဲမှု၏ အဆုံးလည်းဖြစ်၏။ မည်သူမျှ ဖန်ဆင်းထားသော အရာလည်း မဟုတ်။ တဏှာ ဥပါဒါန်တို့ကို အခြေခံ၍ ဖြစ်ပေါ်လာသော ခံစားမှုဝေဒနာမျိုးလည်း မရှိပေ။

နိဗ္ဗာန်၌ ဖြစ်ခြင်းသဘောတရားလည်းမရှိ။ ပျက်ခြင်းသဘောတရားလည်းမရှိ။ သဘာဝအလျောက် ထာဝရငြိမ်းချမ်းမှုရှိနေ၏။ နိဗ္ဗာန်၏ တည်ရာကို ညွှန်ပြ၍လည်းမဖြစ်။ အချိန်မရွေး၊ နေရာမရွေး သွေးနှင့်ကိုယ် သားနှင့်ကိုယ်ပင် နိဗ္ဗာန်ချမ်းသာကို ရရှိနိုင်ကြသည်။ နိဗ္ဗာန်ချမ်းသာကို တစ်ကြိမ်မျှ တွေ့ရှိခံစားဖူးသူသည် နိဗ္ဗာန်၏ အရသာကို ထပ်မံဆုံးရှုံးသည်ဟု မရှိတော့ပေ။ အချိန်မရွေး နိဗ္ဗာန်အရသာကိုခံစားနိုင်ကြလေသည်။

နိဗ္ဗာန်သည် အထည်ကိုယ်ဒြပ်ဟူ၍ ထင်ရှားမရှိဘဲ သဘာဝအားဖြင့် ချုပ်ငြိမ်းနေသည့် သုညတလက္ခဏာရှိသည်။ ထိုငြိမ်းချမ်းမှုသည် ထာဝရတည်ရှိနေသော သဘာဝတရားဖြစ်သည်။ ထာဝရငြိမ်းချမ်းနေသော သဘာဝသည် ထာဝရ ဝိညာဉ်တော်နှင့် မည်သို့မျှ မပတ်သက်ချေ။

နိဗ္ဗာန်သည် ကာလမဲ့ သဘောတရားလည်းဖြစ်သည်။ အဖြစ်တရားမရှိဘဲ တည်တံ့နေ၏။ ထို့ကြောင့် နိဗ္ဗာန်ကို 'အဖြစ်မဲ့ အရှိတရား' ဟူ၍ ခေါ်ဆိုအပ်ပေသည်။ ထိုအဖြစ်မဲ့ အရှိတရားအာရုံပေါ်၌ စိတ်ဝိညာဉ်ကို တည်ထားနိုင်သူသည် လွတ်မြောက်မှုကို ရရှိသွားတော့၏။ နိဗ္ဗာန်၏ ငြိမ်းချမ်းမှု သဘောကို တွေ့မြင်သူဖြစ်ပေတော့သည်။

နိဗ္ဗာန်ကို မြင်သိနိုင်သော၊ နိဗ္ဗာန်၏အရသာကို ခံစားနိုင်သော ပုဂ္ဂိုလ်တို့ကို ဗုဒ္ဓဒေသနာ၌-

(၁) သောတာပန် အဆင့်

(၂) သကဒါဂါမိ အဆင့်

(၃) အနာဂါမိ အဆင့်

(၄) ရဟန္တာအဆင့် ဟူ၍ ၄-မျိုး ခွဲခြားထား၏။

ဤသို့ ၄-မျိုးခွဲခြားထားခြင်းမှာ စွဲလမ်းမှုတရားများကို ပယ်ခွာနိုင်သော စိတ်

စွမ်းအားကို ကြည့်၍ အဆင့်ပြုလုပ်ထားခြင်း ဖြစ်သည်။ အဆင့် ၄-မျိုးလုံးပင် နိဗ္ဗာန် ကိုသိမြင်နိုင်သူများဖြစ်သည်။ ထိုပုဂ္ဂိုလ်များကို'အရိယာပုဂ္ဂိုလ်'ဟူ၍ ခေါ်ဆိုထားလေသည်။

# အခန်း (၆)

## ထေရဝါဒနှင့် မြန်မာနိုင်ငံ

### ဗုဒ္ဓဘုရားနှင့် မြန်မာနိုင်ငံ

ဗုဒ္ဓဘုရားရှင်သည် သက်တော် ထင်ရှား ရှိစဉ်ကပင် မြန်မာနိုင်ငံသို့ ကြွရောက်ခဲ့ကြောင်း အချို့မှတ်တမ်းများ၌ ဖော်ပြကြသည်။

ဘုရားရှင်သည် ဂဝံပတိရဟန္တာမထေရ်၏ ပင့်လျှောက်ချက်အရ နောက်ပါ ရဟန္တာ ၅၀၀-နှင့်အတူ သုဝဏ္ဏဘူမိမြို့သို့ ကြွလာတော်မူ၏။ ဘုရားရှင်သည် ပင်လယ်ပြင်ထက် ကောင်းကင်ပြင်မှ ကြွလာတော်မူစဉ် ပင်လယ်ရေပြင်အတွင်း ဟင်္သာတစ်ဝပ် စာမျှ ပေါ်နေသော သဲပြင်ပေါ်၌ ဟင်္သာဖိုကအောက်၊ ဟင်္သာမက ထပ်၍ဝပ်နေသည်ကို မြင်ရသည်။ ထိုဖြစ်ရပ်ကိုကြည့်၍ ဘုရားရှင် ပြုံးတော်မူ၏။ ရှင်အာနန္ဒာက ထိုအကြောင်းကို မေးလျှောက်ရာ "နောင်သောအခါ ဤနေရာမှာ ဟံသာဝတီအမည်ရှိသော ပြည်ကြီးဖြစ်လိမ့်မည်" ဟု ဗျာဒိတ်ကြားတော်မူသည်။

သုဝဏ္ဏဘူမိပြည်နှင့် ဥက္ကလာပပြည်၌ သာသနာတော် တည်ထွန်းမည့် အကြောင်းကိုလည်း ဗျာဒိတ်ပေးခဲ့သည်။ ယင်းဗျာဒိတ်စကားအရ ဟံသာဝတီပြည်၊ သုဝဏ္ဏဘူမိပြည်၊ ဥက္ကလာပပြည်တို့မှာ သာသနာထွန်းကားရာ ပြည်များဖြစ်ခဲ့ ကြသည်။

အလားတူပင် အရိမဒ္ဒနခေါ် ပုဂံပြည်ကြီး တည်မည့်အကြောင်းနှင့် သာသနာတော် ထွန်းကားမည့်အကြောင်းကိုလည်း ဘုရားရှင်သည် တန့်ကြည့် တောင်မှ ဗျာဒိတ်ပေးတော်မူသည်။ သုနာပရန္တ၊ အပရန္တခေါ် မင်းဘူး လယ်ကိုင်း ကျောင်းတော်ရာသို့လည်း ကြွရောက်သည်။ စက်တော်ရာများကိုလည်း ချထား တော်မူလေသည်။

ထိုမျှမကသေး၊ မြန်မာနိုင်ငံ စေတီပုထိုး အမျိုးမျိုးနှင့် မြို့တော်တည်ရာ

အဖြာဖြာတို့ကိုလည်း ဘုရားရှင်၏ ဗျာဒိတ်တော်အရ ဖြစ်ပေါ်လာရကြောင်း သမိုင်းအစောင်စောင်တို့၌ ရေးသားဖော်ပြထားကြသည်။ ယင်းသို့ ရေးသားထားကြသည်မှာ သဒ္ဓါတရားကို အခြေခံ၍ ပေါ်ပေါက်လာသော စာပေများ ဖြစ်ပါသည်။

ဗုဒ္ဓဘုရားနှင့် ဆက်စပ်၍ ဖော်ပြနေကြသည်မှာ မြန်မာနိုင်ငံသာမဟုတ်၊ သီရိလင်္ကာခေါ် သီဟိုဠ်နိုင်ငံကလည်း ဗုဒ္ဓဘုရားသည် သီဟိုဠ်ကျွန်းသို့ ကြွရောက်တော်မူလာကြောင်း သီဟိုဠ်ဗုဒ္ဓဘာသာဝင်တို့ လက်ခံယုံကြည်နေခဲ့ကြသည်။

အချို့သုတေသီတို့က မြန်မာနိုင်ငံသို့ ဘုရားရှင်ကြွလာတော်မူကြောင်း အဠကထာစကားဖြင့် ကိုးကားပြကြသည်။ ဤကိုးကားချက်တို့မှာလည်း မငြင်းသာသော ကိုးကားချက်များဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် မြန်မာနိုင်ငံအတွင်းရှိ သာသနိက အထိမ်းအမှတ်အချို့မှာ ထိုကျမ်းများနှင့် ကိုက်ညီနေသောကြောင့်တည်း။ ဤသို့ကိုက်ညီနေသည်မှာလည်း ရှေးခေတ်မြန်မာတို့သည် သာသနာတော်ကျမ်းလာ ဖြစ်စဉ်တို့ကို အတုလိုက်၍ ပြုလုပ်ထားသောကြောင့် ဖြစ်ပေသည်။

ရှင်းပါဦးမည်။ မြန်မာနိုင်ငံသည် ရာစုနှစ် အစောပိုင်းကပင် အိန္ဒိယလူမျိုးများနှင့် ဆက်ဆံခဲ့ကြသည်။ အိန္ဒိယယဉ်ကျေးမှုများကို လက်ခံခဲ့ကြသည်။ ထို့နောက် ဗုဒ္ဓဘာသာရောက်ရှိလာသည်။



မြန်မာတို့သည် ဗုဒ္ဓဘာသာကို လက်ခံပြီးနောက် ဗုဒ္ဓစာပေများကို လေ့လာကြသည်။ ကြည်ညိုသဒ္ဓါ ပွားကြသည်။ ဗုဒ္ဓဘာသာစာပေထဲက အမည်နာမများကို မြတ်နိုးသဖြင့် အတုယူ၍ မှည့်ခေါ်ကြသည်။

နောက်ပိုင်းတွင် ဗုဒ္ဓဘာသာဝင်တို့သည် ထိုအမည်တို့ကို အခြေခံ၍ ဗုဒ္ဓသာသနိက အထိမ်းအမှတ်ပစ္စည်းများကို တည်ဆောက်ခဲ့ကြသည်။ ထိုပစ္စည်းများကို ကျမ်းဂန်များဖြင့် ပြန်လည်ကိုးကား၍ သမိုင်းပြုကြပြန်ရာ မြန်မာနိုင်ငံသို့ ဘုရားရှင်ကြွရောက်ပါသည်- ဟူသော အယူအဆများ အငြင်းပွားစရာ ဖြစ်နေရလေသည်။

ကျမ်းဂန်လာစကားအရ သာသနိကလက်ရာ ပစ္စည်းများစွာကို တည်ထားပြုစုကြသည်။သမိုင်းများကို ရေးသားကြသည်။ ဤသို့ ရေးသားရာမှ ဒွိဟဖြစ်စရာများ ပေါ်ပေါက်လာရခြင်း ဖြစ်လေသည်။

အမှန်မူ ဗုဒ္ဓဘုရားရှင်သည် မြန်မာနိုင်ငံသို့ ရောက်ခြင်း၊ မရောက်ခြင်းမှာ ပြဿနာကြီးတစ်ရပ်မဟုတ်ပါ။ အဓိကမှာ ဗုဒ္ဓ၏ ဓမ္မဒေသနာတော်များ ရောက်ရှိလာခြင်းသာ ပဓာနဖြစ်ပေသည်။ ဗုဒ္ဓဒေသနာတော်များ ရောက်ရှိနေသဖြင့် တရားတော်၏ အနှစ်သာရကို ရရှိနေကြသည်။ ကျင့်သုံးနေကြရသည်။

ဤသို့ တရားဓမ္မတို့ကို တွေ့သိကျင့်ပွားနေရသည်ပင် ဗုဒ္ဓဘုရားကို တွေ့သိဖူးမြင်နေရခြင်း ဖြစ်ပါသည်။ ဗုဒ္ဓတရားတော်တို့ကို မခံယူရလျှင် ဗုဒ္ဓ ရောက်ရှိခဲ့သော်လည်း အကျိုးတရား ထူးခြားမည်မဟုတ်ပေ။

ဗုဒ္ဓဘုရားရှင်ကိုယ်တိုင်ကလည်း တရားတော်၏ အနှစ်သာရကိုမမြင်လျှင် ငါဘုရားကို ဖူးမြင်ရသည် မမည်ကြောင်း၊ တရားတော်ကို မြင်မှသာ ငါဘုရားကို မြင်သိနိုင်မည်ဖြစ်ကြောင်း ဝက္ကလိရဟန်းအား ဟောကြားခဲ့ပါသည်။

ယခုဆိုလျှင် ဗုဒ္ဓပွင့်ရာ မဇ္ဈိမဒေသ၌ သာသနာတော် အားနည်းမှေးမှိန်နေရပြီ။ သာသနာဆိုသည်မှာ အဆုံးအမတရားတော်ဖြစ်သည်။ တရားဒေသနာတော် ကွယ်ပျောက်လျှင်လည်းကောင်း၊ လူသားတို့က ယုံကြည်မှုမရှိလျှင်သော်လည်းကောင်း သာသနာကွယ်ပရမည်သာဖြစ်သည်။ ဤသို့ယုံကြည်မှုကို လက်ဆင့်ကမ်း၍ မထိန်းသိမ်းနိုင်သဖြင့် ဆံချီထူပါ၊ ဗောဓိရောဖူးဒွား၊ အင်ကောဝပ် စသော စေတီပုထိုးတို့မှာ ကိုးကွယ်သူမရှိဘဲ ရှေးဟောင်းပစ္စည်းများအဖြစ် အထီးကျန် ဖြစ်နေရလေသည်။



ယခုအခါ မြန်မာနိုင်ငံသည် လက်ဆင့်ကမ်းသယ်ဆောင်နိုင်ခဲ့သဖြင့် ထေရဝါဒ ဗုဒ္ဓဘာသာ ပွင့်လင်းရာ အဓိကနိုင်ငံတော်တစ်ခုအဖြစ် ရပ်တည်နေနိုင်ခဲ့ပါသည်။ ထေရဝါဒ ၅-နိုင်ငံ၏ ဦးဆောင်နိုင်ငံလည်းဖြစ်နေ၏။ ထေရဝါဒ ဗုဒ္ဓဘာသာသည် မြန်မာနိုင်ငံသို့ မည်သည့်ကာလမှစ၍ ဝင်ရောက်လာခဲ့လေသနည်း။

## သာသနာအစ တပုဿနှင့် ဘလ္လိက

မြန်မာနိုင်ငံသို့ ဗုဒ္ဓဘာသာကို စတင်သယ်ဆောင်လာသူများမှာ ဥက္ကလာပမြို့သား တပုဿနှင့် ဘလ္လိကညီနောင်တို့ဖြစ်ကြောင်း သမိုင်းဟောင်းများ၌ ဖော်ပြကြသည်။ ဤအထောက်အထားကို မဟာဝါပါဠိတော်မှယူ၍ တင်ပြခဲ့ခြင်းဖြစ်သည်။

တပုဿနှင့် ဘလ္လိကညီနောင်တို့၏ အမည်ကို ယင်းကျမ်း၌ 'တပဿု' နှင့် ဘလ္လိကဟု ခေါ်ဆိုထားသည်။ တပုဿနှင့် ဘလ္လိကညီနောင်တို့၏ မူရင်းဇာတိနေရပ်ဟောင်းမှာ အိန္ဒိယနိုင်ငံရှိ ဥက္ကလတိုင်း ဖြစ်သည်။

ကုန်သည်ညီနောင်တို့၏ မျိုးရိုးသည် ဗုဒ္ဓမပွင့်မီ နှစ်ပေါင်း ၁၀၀-ကျော်လောက်ကပင် မြန်မာပြည်အောက်ပိုင်း ရာမညတိုင်း၌ အခြေချခဲ့သူများ ဖြစ်သည်။ ကုန်သည်ညီနောင်တို့သည် မြန်မာပြည် ဥက္ကလာပနှင့် အိန္ဒိယပြည် ဥက္ကလတို့အကြား၌ ကုန်ကူးသန်းနေသူများ ဖြစ်သည်။

ကုန်သည်ညီနောင်တို့သည် မိမိတို့၏ ဇာတိ ဥက္ကလတိုင်းမှတစ်ဆင့်

မန္တိမဒေသသို့ ကုန်ရောင်းသွားကြသည်။ ပဏ္ဍုတိုင်း၊ လာဠတိုင်းတို့ကိုကျော်၍ ဥရုဝေလတောစခန်းသို့ ရောက်သွားရာ ဗုဒ္ဓဘုရားရှင်နှင့် တွေ့ကြရသည်။

ထိုအချိန်တွင် ဗုဒ္ဓဘုရားရှင်သည် သံဃာ့အဖွဲ့အစည်းကို မထူထောင်ရသေးပေ။ ပွင့်တော်မူပြီးစ ကာလဖြစ်သည်။ ထို့ကြောင့် ညီနောင်တို့သည် သရဏဂုံ ၂-ပါးကိုသာ ခံယူကြရသည်။ ထို့နောက် ဘုရားရှင်သည် ညီနောင်တို့အား ဆံတော်ဓာတ်များကို ချီးမြှောက်ခဲ့သည်။

ကုန်သည်ညီနောင်တို့သည် ဆံတော်ဓာတ်ကို ပင့်ဆောင်ပြီးနောက် ဇာတိ ဥက္ကလတိုင်းမှ ပဝတ္တိဌာန မြန်မာပြည် ဥက္ကလာပမြို့သို့ ပြန်ရောက်လာကြသည်။ ဥက္ကလာပသို့ ပြန်ရောက်သောအခါ ဗုဒ္ဓဘုရားရှင်၏ ဆံတော်ဓာတ်တို့ကို ဌာပနာ၍ တိကုံ (ရွှေတိဂုံ) စေတီတော်ကို တည်ထားပူဇော်ကြသည်။

ထိုအချိန်မှစ၍ မြန်မာနိုင်ငံ၌ ဗုဒ္ဓသာသနာ ရောက်ရှိခဲ့သည်ဟု မှတ်ယူနိုင်သည်။ ဤဆုံးဖြတ်ချက်အရဆိုလျှင် ဗုဒ္ဓဘာသာနှင့် ပတ်သက်သော စေတီပုထိုးတို့တွင် မြန်မာနိုင်ငံရှိ ရွှေတိဂုံစေတီတော်သည် ကမ္ဘာပေါ်တွင် ရှေးအကျဆုံးစေတီတော်ဟု ဆိုရမည်။

" စေတီအစ ရွှေတိဂုံက" ဟူ၍ ဆောင်ပုဒ်မှတ်တမ်းပြု၍ လက်ခံရပေတော့မည်။

## ဒုတိယမြောက် သာသနာရောက်ခြင်း

အသောကမင်းလက်ထက် တတိယသံဂါယနာတင်ပြီးနောက် တိုင်းဒေသကြီး ၉-ခုသို့ သာသနာပြုမထေရ်များကို စေလွှတ်ခဲ့သည်။ ထိုအထဲတွင် အရှင်သောဏနှင့် အရှင်ဥတ္တရမထေရ်တို့ အမှူးပြုသော သာသနာပြုအဖွဲ့သည် သုဝဏ္ဏဘူမိသို့ ကြွရောက်၍ သာသနာပြုကြရသည်။

ထိုအချိန်တွင် သုဝဏ္ဏဘူမိ၌ ရက္ခိုသ်ဘီလူးများ ရှိနေသည်။ လူတို့သည် ဘီလူးတို့ဝင်၍ နှောင့်ယှက်နေသောကြောင့် အန္တရာယ်နှင့် ရင်ဆိုင်နေကြရသည်။ ရဟန္တာ ၂-ပါးတို့သည် ဘီလူးတို့၏အန္တရာယ်ကို ကာကွယ်ပေးနိုင်သဖြင့် လူတို့က အားထားလာကြသည်။ ကိုးကွယ်လာကြသည်။

အရှင်သောဏနှင့် အရှင်ဥတ္တရမထေရ်တို့သည် လူတို့အား ဗြဟ္မဇာလသုတ်တော်ကို ဟောကြားကြ၏။ သရဏဂုံ သီလတို့၌ တည်စေ၏။ မထေရ်တို့၏ ဟောပြောမှုကြောင့် ဗုဒ္ဓဘာသာဝင်ပေါင်း ၆၀၀၀၀(ခြောက်သောင်း)မျှ ရရှိလာသည်။

ယောက်ျား၊ မိန်းမပေါင်း ၁၅၀၀-တို့ သာသနာ့ဘောင်ဝင်၍ ရဟန်းပြုခဲ့ကြလေ၏။

ဤတွင် သုဝဏ္ဏဘုမ္မိခေါ် သော ဒေသကို မြန်မာရာဇဝင်၊ သာသနာဝင်ကျမ်းများ၌ မွန်ပြည်နယ်အတွင်းရှိ သုဓမ္မပူရခေါ်သထုံမြို့ဟူ၍ ရေးသားဖော်ပြခဲ့ကြသည်။ ခေတ်သစ်သမိုင်းသုတေသီတို့ကမူ သုဝဏ္ဏဘုမ္မိဆိုသည်မှာ ဆုမတြားကျွန်းဆွယ်ကို သုဝဏ္ဏဘုမ္မိခေါ် ကြောင်း ကောက်ချက်ချ၍ ပြထားကြသည်။

ဆုမတြားဟူသောအမည်သည် ရှေးက သုမိတ္တခေါ် သော အိန္ဒိယတိုင်းသား ကုန်သည်တစ်ဦးက ရှေးဦးစွာ ဤကျွန်းသို့ လာရောက်အခြေချသောကြောင့် ထိုပုဂ္ဂိုလ်၏အမည်ကို စွဲ၍ ခေါ်ဆိုခြင်းဖြစ်သည် ဟုဆိုသည်။ ပါဠိဘာသာဖြင့် သုမိတ္တ၊ သက္ကတဘာသာဖြင့် ဆုမိတြမှ ဆုမတြားဟု ခေါ်ဆိုလာသည်ဟု ဆိုပေသည်။

ဆုမတြားကျွန်းဆွယ်ဒေသကိုပင် သုဝဏ္ဏဘုမ္မိဟု ခေါ်ဆိုလာကြသည် မှာ အိန္ဒိယသားများပင် ဖြစ်သည်။ ရှေးခေတ်က အိန္ဒိယတိုင်းသားများသည် ဤဒေသသို့ ကုန်ရောင်းကုန်ဝယ် လာရောက်ကြသည်။ ဤဒေသကိုမှီ၍ စီးပွားဖြစ်ထွန်းကြသည်။ မိမိတို့အတွက် ရွှေကဲ့သို့ အဖိုးတန်သော နယ်မြေဟု သတ်မှတ်လာကြ၏။ ထို့ကြောင့် ဆုမတြားကျွန်းဆွယ်ဒေသကို သုဝဏ္ဏဘုဒ္ဒိ(ရွှေမြေ)ဟူ၍ တင်စား ခေါ်ဆိုခဲ့ကြလေသည်။

ဤသုဝဏ္ဏဘုမ္မိခေါ် ရွှေမြေဒေသမှာ သထုံတစ်ဝိုက်အထိ ပါဝင်သည်ဟု ပညာရှင်တို့ လက်ခံခဲ့ကြ၏။ ဤအဆိုပြုချက်ကို ဆက်လက်လေ့လာသောအခါ ထောက်ခံနိုင်သော အကြောင်းများကို တွေ့ရှိရသည်။

အရှင်သောဏနှင့် အရှင်ဥတ္တရတို့ သာသနာပြုရောက်စဉ်က လူတို့မှာ ဘီလူးတို့ဘေးရန်များကို ခံစားနေကြရသည်။ ရှေးဟောင်းမွန်ရာဇဝင်ကျမ်းများ တွင်လည်းကောင်း၊ ဓမ္မစေတီမင်း၏ ကျောက်စာများတွင်လည်းကောင်း သထုံဒေသ ကို ရက္ခပူရ (ရေဘီလူးနိုင်ငံ)ဟု ရှေးဦးက ခေါ်ခဲ့ကြသည်။

ဤအထောက်အထားများအရ သထုံဒေသ၌ ဘီလူးများအုပ်စိုးခဲ့ကြောင်း သိရှိရ၏။ ထိုဘီလူးဆိုသော ပုဂ္ဂိုလ်များမှာလည်း နီဂရစ်တို အမျိုးအနွယ်များကိုပင် ခေါ်သည်ဟု မှတ်ယူနိုင်သည်။ မြန်မာနိုင်ငံ နယ်မြေအနှံ့အပြား၌ ရှေးဦးခေတ်က နီဂရစ်တိုအနွယ် လူမျိုးများ နေထိုင်သွားကြောင်း ရှေးဟောင်းသုတေသန လေ့လာ ချက်များအရလည်း သိရှိထားကြသည်။

မြန်မာနိုင်ငံ အရှေ့တောင်ပိုင်းသို့ မွန်ခမာအနွယ်ဝင် လူမျိုးများ ရောက်လာ

သောအခါတွင် ရှိရင်းစွဲ နီဂရစ်တိုအနွယ်တို့နှင့် ပဋိပက္ခဖြစ်ကြရသည်။ မွန်ခမာတို့က စစ်ပွဲများဆင်နွှဲ၍ နယ်မြေများကို သိမ်းပိုက်ကြသည်။ နီဂရစ်တိုတို့ နယ်မြေများကို စွန့်လွှတ်ကြရသည်။ ပင်လယ်ဘက်သို့ ပြောင်းရွှေ့ကုန်ကြရသည်။ ယခုတိုင် သံလွင်မြစ်ဝ မော်လမြိုင်အနီးတွင် ဘီလူးကျွန်းခေါ်သော ကျွန်းကြီးရှိနေခြင်းက သက်သေကောင်းတစ်ခု ဖြစ်သည်။

အရှင်သောဏတို့သာသနာပြုရောက်ချိန်တွင် မွန်လူမျိုးတို့နှင့် နီဂရစ်တို အနွယ်ဝင် ရေဘီလူးတို့ စစ်ပွဲများဖြစ်ပွားနေချိန်ဟူ၍ ကောက်ချက်ချနိုင်သည်။ မထေရ် ၂-ပါးတို့က ဘီလူးတို့၏ ရန်ကို ကာကွယ်ပေးခဲ့သည်မှာလည်း နီဂရစ်တို လူမျိုးတို့သာ ဖြစ်သည်ဟု နားလည်နိုင်ကြပေသည်။

စောစောပိုင်းက မွန်လူမျိုးတို့နှင့် ရေဘီလူးလူမျိုးတို့ အချင်းချင်း ဘက်ပြိုင် တိုက်ခိုက်နေခဲ့သော်လည်း နောက်ပိုင်းတွင် မွန်နှင့်ဘီလူးအချို့တို့မှာ အချင်းချင်း သင့်မြတ်အောင် နေထိုင်ခြင်း၊ ဗုဒ္ဓဘာသာတရားတော်ကို သက်ဝင်ယုံကြည်ခြင်းဖြင့် ငြိမ်းချမ်းစွာ ယှဉ်တွဲနေထိုင်ခဲ့သည်ဟု ဆိုနိုင်ပေသည်။ အဘယ့်ကြောင့်ဆိုသော် မွန်ပြည်နယ် ဘီးလင်းမြို့နယ်ရှိ ဇုတ်သုတ်ရွာ ထီးဆောင်းဘုရားကို ဘီလူးများက တည်ထားကိုးကွယ်ခဲ့ကြသောကြောင့်ပေတည်း။

သုဝဏ္ဏဘုမ္မိခေါ် သထုံမြို့ကို ဘီစီ ၁၇-ရာစုကပင် တည်ထောင်ခဲ့သည်ဟု မွန်မြန်မာရာဇဝင်တို့က ရေးဆိုကြ၏။ သို့ရာတွင် တိကျသော သမိုင်းအထောက် အထားကို မတွေ့ရသေးချေ။

သမိုင်းတင်ခေတ် ရောက်သောအခါ သုဝဏ္ဏဘုမ္မိနှင့်စပ်၍ ခေါ်မပထဝီ ပညာရှင် တော်လမီရေးသော ပထဝီကျမ်း၌ တွေ့ရှိရ၏။ တော်လမီက ဗေစင်ဂခေါ် မုတ္တမပင်လယ်ကွေ့ ကမ်းရိုးတန်းတစ်လျှောက်တွင် အရပ်ပု၍ ကြမ်းတမ်းသော၊ ကြံ့ခိုင်သော လူကြမ်းများ နေထိုင်ကြောင်း မှတ်တမ်းတင်ထားခဲ့သည်။ ထိုလူမျိုးစု များမှာ စာပေတို့၌ ဘီလူးဟုခေါ်သော လူမျိုးများဖြစ်သည်။ ထိုလူမျိုးစု အများ အပြားမှာ လူမျိုးသစ်များ ဝင်ရောက်လာသောအခါ၌ ပင်လယ်တွင်းရှိ ကျွန်းစုများ ပေါ်သို့ ပြောင်းရွှေ့သွားကြလေသည်။

အချို့ဘီလူးလူမျိုး အနည်းစုတို့မှာ လူယဉ်ကျေးတို့ မနေလိုသော တောင်ကုန်းတောင်တန်းများ၌ သောင်တင်နေခဲ့သူများလည်း ရှိပေသည်။ ပုံစံ အားဖြင့်ဆိုလျှင် မြန်မာရာဇဝင်မှ မဟာသမ္မတနှင့် စူဠသမ္မတဇာတ်လမ်း၌ ပါသော စစ်ကိုင်းတောင်တန်းနေ စဏ္ဍမုခိဘီလူးမသည် လည်းကောင်း၊ ပုပ္ပားတောင်မှ မဝဏ္ဏ

ခေါ်သော ပန်းရောင်းစားသည့် ဘီလူးမသည်လည်းကောင်း မြန်မာပြည်၌ သောင်တင်နေရစ်ခဲ့သော ဘီလူးအနွယ်ဝင်လူမျိုးစုများ ဖြစ်ပေသည်။

ဖော်ပြပါအကြောင်းရပ်တို့ကို ထောက်ဆ၍ ရှင်သောဏနှင့် ဥတ္တရမထေရ်တို့သည် သထုံတစ်ဝိုက်ရှိ လူမျိုးစု ၂-ခုလုံးကို ဗုဒ္ဓဘာသာသို့ သက်ဝင်ယုံကြည်စေရန် ဟောပြော စည်းရုံးနိုင်ခဲ့သည်ဟု မှတ်ယူနိုင်ကြပေသည်။

## ထေရဝါဒနှင့် သုတေသနအမြင်

မြန်မာနိုင်ငံတွင်းသို့ ဗုဒ္ဓဘာသာရောက်ရှိပုံကို ရှေးဟောင်းသုတေသနနည်းဖြင့် လေ့လာကြရာ၌ ပျူခေတ်ကပင် ဗုဒ္ဓဘာသာရောက်ရှိနေသည်ကို တွေ့ကြရသည်။

ဤတွင် မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက်အခြေချသော လူမျိုးကြီးများကို အကျဉ်းချုပ် လေ့လာဖို့ လိုလာပြန်သည်။ မြန်မာနိုင်ငံအတွင်း နီဂရစ်တိုအမျိုးအနွယ်များ အခြေချခဲ့ဖူးကြောင်း သမိုင်းသုတေသနအရ သိရပြီး ဖြစ်သည်။ ယင်းအနွယ်တို့ကို အရှေ့တောင်ပိုင်းဒေသ၌ မွန်တို့က ဝင်ရောက်တိုက်ခိုက်သဖြင့် ပျက်စီးခဲ့ကြောင်းကိုလည်း အထက်က ဆိုခဲ့ပြီ။ ထိုစစ်ပွဲများဖြစ်ပွားချိန်မှာ ဘီစီ ၃-ရာစုခန့်က ဖြစ်ပေသည်။

ထိုအချိန်မှာပင် မြန်မာပြည် အလယ်ပိုင်းဒေသ၌လည်း နီဂရစ်တိုတို့လက်မှ နယ်မြေများကို ပျူလူမျိုးတို့က တိုက်ခိုက်သိမ်းပိုက်နေပြီဟု ပြောနိုင်ပေသည်။ သို့ဖြစ်လျှင် ပျူလူမျိုးတို့သည် မည်သည့်ကာလက မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက်လာခဲ့ကြသနည်း။

ပျူလူမျိုးတို့သည် မြန်မာနိုင်ငံတွင်း၌ ဗိဿနိုးမြို့တော်ကို အေဒီ ၁- ရာစုတွင် တည်ဆောက်ခဲ့ကြသည်။ ထိုအချိန်တွင် ယဉ်ကျေးမှုအဆင့်လည်း မြင့်မားနေပြီဖြစ်သည်။ ပျူတို့သည် ၁-ရာစုတွင် မြို့ပြနိုင်ငံကို ထူထောင်နိုင်ကြသဖြင့် ထိုထက်စောသော ကာလကပင် မြန်မာမြေပေါ်သို့ ရောက်ရှိနေပြီဟုပြောနိုင်သည်။ ပျူတို့ ဝင်ရောက်လာချိန်ကို ဘီစီ ၃-ရာစုဟူ၍ ခန့်မှန်းနိုင်သည်။

ဤခန့်မှန်းချက်ကို ထောက်ခံနိုင်သော အထောက်အထားများလည်း ရှိပါသည်။ ချင်မြို့စားကြီး၏ စစ်တပ်တို့သည် ချိအင်လူမျိုးတို့ကို ဘီစီ ၃၅၀-တွင် အပြင်းအထန် တိုက်ခိုက်ခဲ့သည်။ ထိုအချိန်က လိုလိုအစုဝင်ဖြစ်သော ပျူလူမျိုးတို့သည် စစ်ဘေးအန္တရာယ်ကင်းရာသို့ ထွက်ပြေးတိမ်းရှောင်ကြရသည်။

ထိုစစ်ပြေးဒုက္ခသည်တို့သည် ဒေသအသီးသီးသို့ ပြေးရှောင်ကြသည်။ ထိုအထဲတွင် သံလွင်မြစ်ကြောင်းအတိုင်း လိုက်သူတို့သည် ယူနန်နယ်အနောက်ပိုင်း ရောက်သောအခါ တပိန်၊ ရွှေလီ မြစ်ကြောင်းအတိုင်းလိုက်၍ စုန်ဆင်းခဲ့ကြသည်။ သူတို့သည် မြန်မာပြည်မြေပြန့်ဒေသ၌ အခြေချနေကြသည်။ထိုလူမျိုးစုသည် အေဒီ ၁-ရာစုတွင် ဗိဿနိုးမြို့တော်ကို ထူထောင်ခဲ့သည်ဟု ဆိုနိုင်ပေသည်။

ဗိဿနိုးကို တည်ထောင်သော ပျူတို့သည် လူမှုဆက်ဆံရေးတွင် ယဉ်ကျေး သိမ်မွေ့သူများဖြစ်ကြ၏။ ယဉ်ကျေးမှုအတတ်ပညာများကို အိန္ဒိယမှပင် ယူခဲ့သည်။ အများစု ကိုးကွယ်သော ဘာသာမှာ ဗုဒ္ဓဘာသာဖြစ်သည်။ ဗုဒ္ဓဘာသာ သည် အိန္ဒိယမှပင် တိုက်ရိုက်ရရှိခဲ့သည်။

ဗိဿနိုးမြို့ဟောင်းကို တူးဖော်ရာတွင် 'သံယသီရိ' ဟူသော အမှတ်အသား ပါသည့် တံဆိပ်တစ်ခုကို တွေ့ကြရ၏။ ထိုအချက်ကိုထောက်၍ ဗိဿနိုးမြို့တော်၌ ဗုဒ္ဓဘာသာရဟန်းတော်များ သီတင်းသုံး၍ သာသနာပြုနေကြပြီဟု ဆိုနိုင်ပေသည်။

ဗိဿနိုးသို့ ရောက်ရှိလာသော သာသနာမှာ အိန္ဒိယတောင်ပိုင်း အန္ဓရဒေသ ၌ ထွန်းကားနေသော သာသနာမျိုးဖြစ်သည်။ ယင်းသာသနာမှာ ရုပ်ပွားဆင်းတုကို ကိုးကွယ်ခြင်းမပြုသော သာသနာဂိုဏ်းဖြစ်သည်ဟု သုတေသီတို့က ကောက်ချက်ချခဲ့ကြသည်။

အေဒီ ၄-ရာစု ခန့်တွင် အခြားပျူလူမျိုးတို့သည်လည်း မြို့ပြနိုင်ငံသစ်များကို တည်ထောင် အုပ်စိုးကြသည်။ ပြည်အနီး၌ သရေခေတ္တရာမြို့တော်၊ ကျောက်ဆည် ဒေသအနီး၌ မိုင်းမောဟု ခေါ်နေကြသော ပင်လယ်မြို့ဟောင်း၊ ရွှေဘိုဒေသ၌ ဟန်လင်းကြီးစသော မြို့ပြများမှာ သမိုင်းတွင် ထင်ရှားကြသည်။

အေဒီ ၅-ရာစုတွင် ဗိဿနိုးမြို့တော်သည် သရေခေတ္တရာ ပျူတို့က ဝင်ရောက်တိုက်ခိုက်သဖြင့် ပျက်သုဉ်းခဲ့ရလေသည်။

## သရေခေတ္တရာခေတ် ထေရဝါဒ

သရေခေတ္တရာခေတ်ကို တည်ထောင်သော ပျူလူမျိုးတို့သည်လည်း ဗုဒ္ဓဘာသာကို ကိုးကွယ်ကြသည်။ သရေခေတ္တရာခေတ်တွင် ထေရဝါဒ ဗုဒ္ဓဘာသာနှင့်အတူ မဟာယာနဂိုဏ်းမှ ကိုးကွယ်မှုအထိမ်းအမှတ် ပစ္စည်းများ ကိုလည်း တွေ့ရှိကြရသည်။

သရေခေတ္တရာ ခင်ဘကုန်းမှ တူးဖော်ရရှိသော ရွှေပေချပ် ၂၀-တွင်

အိန္ဒိယပြည် တောင်ပိုင်း ရှေးဟောင်း တေလဂူ ကနာဒ်ရှိအက္ခရာဖြင့် ထေရဝါဒ ပိဋကတ်တော် ကောက်နုတ်ချက်များကို တွေ့ရှိရ၏။

ကန်ဝက်ခေါ်ကုန်းမှ ရရှိသောမဏိတော်အကျိုး ဗုဒ္ဓရုပ်ပွားတော်တစ်ဆူ၏ ပလ္လင်ပတ်လည် မျက်နှာလေးဘက်လုံး၌ ပျူ၊ သက္ကတတို့ဖြင့် မှတ်တမ်းရေးထား သည်ကို တွေ့ရသည်။

သရေခေတ္တရာမြို့ဟောင်းတွင် ဗုဒ္ဓဘာသာနှင့် ပတ်သက်သော အခြား အထောက်အထားများစွာကိုလည်း တွေ့ရှိရသည်။ အထောက်အထားများစွာတို့ မှာ ထေရဝါဒနှင့်ပတ်သက်သော အမှတ်အသားများက ပိုမိုနေ၏။ ထို့ကြောင့် သရေ ခေတ္တရာခေတ် ဗုဒ္ဓဘာသာမှာ ထေရဝါဒဗုဒ္ဓဘာသာဖြစ်ကြောင်း ခိုင်မာစွာ သိရှိကြ ရပေသည်။

သရေခေတ္တရာ ပျူတို့သည် ဗုဒ္ဓဘာသာတရားတော်ထဲမှ အဘိဓမ္မာ ပိဋက တော်ကို ပို၍အရေးထားကာ လေးစားခဲ့ကြသည်ဟု ဆိုနိုင်၏။ ဗုဒ္ဓဘုရား၏ ဒဿနဒေသနာကို အခြေပြုသည့် ယေဓမ္မာ- အစရှိ ဂါထာမှာ ပျူလူမျိုးတို့ အကြိုက် ဆုံးဂါထာ ဖြစ်ဟန်တူသည်။ ဤဂါထာကို ပျူနယ်မြေများစွာ၌ မကြာခဏ တွေ့ကြ ရသည်။ ဂါထာမှာ ဤသို့ဖြစ်၏ -

> ယေဓမ္မာ ဟေတုပ္ပဘဝါ
> တေသံ ဟေတုံ တထာဂတော အာဟ
> တေသဉ္စ ယော နိရောဓော
> ဧဝံ ဝါဒီ မဟာသမဏော။

(မြန်မာပြန်) ။ ။ "အကြင်(ဒုက္ခ)တရားတို့သည် အကြောင်း(သမုဒယ) ကြောင့် ဖြစ်ကုန်၏။ ထို(ဒုက္ခ)တရားတို့၏ အကြောင်း (သမုဒယ)ဖြစ်သော တရားကိုလည်းကောင်း၊ ထိုအကျိုး (ဒုက္ခ)၊ အကြောင်း(သမုဒယ)တရားတို့၏ ချုပ်ငြိမ်းရာ (နိရောဓ)၊ ချုပ်ငြိမ်းကြောင်း (မဂ္ဂ)တရားကိုလည်းကောင်း မြတ်စွာဘုရားသည် ဟောတော်မူ၏။ ရဟန်းမြတ်သည် ဤသို့ အယူရှိပါ၏။" (ဆဋ္ဌသံဂါယနာမူ)

သရေခေတ္တရာ ပျူတို့၏ ဗုဒ္ဓဘာသာယုံကြည်မှုအကြောင်းကို အေဒီ ၈၀၀- ခန့်က ရေးသားသော တရုတ်မှတ်တမ်းတို့၌လည်း တွေ့ရှိရသည်။ ယင်းမှတ်တမ်းမှ ဗုဒ္ဓဘာသာနှင့် ပတ်သက်သော အကြောင်းအရာတို့ကို ရွေးနုတ်ဖော်ပြပါမည်။

"မြို့တော်တွင် တံခါးဝပေါင်း ၁၂-ခုရှိသည်။ မြို့လေးထောင့်တွင် တစ်ထောင့်လျှင် ဘုရားတစ်ဆူ တည်ထားသည်။ ဘုရင်မင်းမြတ်စံမြန်းရာ နန်းတော် ရှေ့ တံခါးဝကို မျက်နှာပြုကာ ဉာဏ်တော်ပေ ၁၀၀-ထက်မြင့်၍ နှင်းပွင့်ကဲ့သို့ ဖြူဖွေးသောအသွေးရှိသည့် ထိုင်တော်မူ ဗုဒ္ဓရုပ်ပွားတော်တစ်ဆူကို တည်ထားသည်။

တရားတဘောင်ဖြစ်ကြသူနှစ်ဦးကို ဘုရင်မင်းမြတ်က ထိုရုပ်ပွားတော်မြတ်ရှေ့တွင် အမွှေးတိုင်များ ထွန်းညှိစေပြီး မိမိတို့၏ ပြစ်မှုများကို ပြန်လည်စဉ်းစားစေခြင်းဖြင့် တရားဖြစ်ကြသူနှစ်ဦးတို့ မကြာမီ သင့်မြတ်သွားကြသည်။ မြို့ရွာဒေသများတွင် ဘေးအန္တရာယ်များ၊ ကပ်ဆိုးကြီးများဆိုက်ရောက်လာလျှင် ဘုရင်မင်းမြတ် သည် ရုပ်ပွားတော် ရှေ့မှောက်တွင် အမွှေးနံ့သာ ထွန်းညှိပူဇော်၍ ပြည်သူပြည်သား တို့ကို တရားနှင့်အညီ အုပ်စိုးပါမည်ဟု သစ္စာအဓိဋ္ဌာန် ပြုရသည်။

ပျူတို့ဒေသတွင် ဘုန်းကြီးကျောင်းပေါင်း ၁၀၀-ကျော်မျှမက ရှိသည်။ ဘုန်းကြီးကျောင်းများတွင် ရွှေငွေတို့ဖြင့် စီခြယ်၍ ဟင်္သပြဒါးနှင့် တောက်ပသော အရောင်များ သုတ်လိမ်းထားသည့် ခန်းမကြီး အသွယ်သွယ်ရှိသည်။ ကြမ်းပြင်များကိုလည်း အနီရောင်ဆိုး၍ ပန်းပွင့်များ ထိုးထားသော ကော်ဇောများ ခင်းထားသည်။ ဘုန်းကြီးကျောင်းများ၏ အမိုးများကို နန်းတော်ခေါင်မိုးကဲ့သို့ပင် စဉ့်သုတ်ထားသော အုတ်ကြွပ်များဖြင့် မိုးထားသည်။

ပျူလူမျိုး ယောကျ်ားလေး၊ မိန်းကလေးအသီးသီးတို့သည် အသက် ၇-နှစ် အရွယ်ရောက်လျှင် ဆံပင်များကို ပယ်ဖြတ်၍ ဘုန်းကြီးကျောင်းသို့ သွားကာ သာသနာ့ဘောင်တွင်းသို့ ဝင်ရောက်လေ့ရှိကြသည်။ အသက် ၂၀-သို့ ရောက်သောအခါ ဗုဒ္ဓ၏ကျင့်ဝတ်သိက္ခာတို့ကို ဆက်လက်လိုက်နာခြင်းမရှိလျှင် လူထွက်၍ ဆံပင်များကို ပြန်လည် အရှည်ထားကြလေသည်။"

ဖော်ပြပါ အထောက်အထားများအရ ပျူတို့သည် မိမိတို့၏ လူနေမှုဘဝကို ဗုဒ္ဓဘာသာ ယဉ်ကျေးမှုဖြင့် တည်ဆောက်ထားကြောင်း သိရှိရသည်။ ပျူတို့၏ လူနေမှုဘဝကို ဗုဒ္ဓဒေသနာက လွှမ်းခြုံထားသည်ဟု ဆိုရပေလိမ့်မည်။

ပျူလူမျိုးတို့သည် မိမိတို့၏ဗုဒ္ဓဘာသာကို အမွှမ်းတင်ဂုဏ်ယူလေ့ရှိကြသည်။

အခြားလူမျိုးများနှင့် တွေ့ကြုံလျှင်လည်း ဗုဒ္ဓဘာသာကိုပင် အမွှမ်းတင် ပြောကြားကြသည်။ ဗုဒ္ဓ၏ ဓမ္မတေးများကို သီကုံးကြသည်။

အေဒီ ၈၀၀-၈၀၂ ခုနှစ်တွင် ပျူယဉ်ကျေးမှု တေးဂီတအဖွဲ့သည် တရုတ်နိုင်ငံသို့ သွားရောက်ခဲ့ကြ၏။ ထန်တရုတ်ဘုရင်၏ နန်းတော်၌ ဖျော်ဖြေကြရသည်။ ထိုဖျော်ဖြေပွဲတွင် ဗုဒ္ဓဘာသာ၏ဂုဏ်ကို ဖွဲ့ဆိုသော မြတ်ဗုဒ္ဓ၏ တံဆိပ်တော်၊ ရှာန်၏ ငြိမ်းချမ်းမှုစသော ဗုဒ္ဓဝင်တေးများဖြင့် ဖျော်ဖြေခဲ့ကြသည်။

အချုပ်အားဖြင့်ဆိုရလျှင် ပျူလူမျိုးတို့၏ ဘဝဓလေ့သည် ထေရဝါဒဗုဒ္ဓဘာသာ ယဉ်ကျေးမှုဓလေ့ဖြစ်သည်။ ပျူတို့သည် ဗုဒ္ဓဘာသာလောင်းရိပ်ကို ခိုလှုံလျက် မိမိတို့၏ ဘဝကို ထိန်းကျောင်း နေထိုင်ခဲ့ကြလေသည်။

## မြန်မာတို့ ဝင်ရောက်လာခြင်း

ဗိဿနိုး၊ သရေခေတ္တရာစသော မြို့ပြများကို တည်ထောင်ချိန်က မြန်မာလူမျိုးတို့သည် မြန်မာနိုင်ငံအတွင်းသို့ မရောက်လာကြသေးပေ။ မြန်မာဟု ခေါ်တွင်မည့် လူမျိုးများကား နောက်မှရောက်ရှိလာသူများ ဖြစ်သည်။ မြန်မာလူမျိုးတို့သည် မြန်မာနိုင်ငံတွင်းသို့ မည်သည့်ကာလက ရောက်ရှိလာကြသနည်း။

ရှေးဟောင်းရာဇဝင်တို့အဆိုအရ မြန်မာတို့သည် ဘီစီ ၆-ရာစု သို့မဟုတ် ၉-ရာစုကပင် ရောက်ရှိနေပြီဟု ဆိုကြသည်။ ဤအဆိုမှာ မြန်မာလူမျိုးတို့ကို ရည်ညွှန်းခြင်းမဟုတ်ပေ။ အိန္ဒိယမှ သကျအနွယ်တို့ ရောက်ရှိလာချိန်ကို ရေးဆိုထားခြင်းဖြစ်သည်။

အချို့သုတေသီတို့ကမူ အေဒီ၉-ရာစုရောက်မှ ဝင်ရောက်လာကြသည်ဟု ဆို၏။ ဤအဆိုကို စတင်ဖော်ထုတ်သူမှာ အင်္ဂလိပ်လူမျိုး ပါမောက္ခလုစ် ဖြစ်သည်။ မစ္စတာလုစ်သည် တရုတ်တို့ရေးသော မန်ရှူးကျမ်းကို ကိုးကား၍ ရေးသားခဲ့သည်။ ၎င်းက မြန်မာတို့သည် အေဒီ ၉-ရာစုတွင် နတ်ထိပ်တောင်ကြားလမ်းမှ ဝင်လာပြီး ကျောက်ဆည်လွင်ပြင်၌ အခြေချနေခဲ့ကြသည်ဟု ဆို၏။ "မြန်မာအစ ကျောက်ဆည်က" ဟူသော သမိုင်းသစ်အဆိုကို ကြွေးကြော်ခဲ့သည်။ ထိုအဆိုကို သူ၏တပည့်များက ကျယ်ပြန့်အောင် ဆောင်ရွက်ခဲ့ကြသဖြင့် နောင်အချိန်တွင် ကျောင်းသုံးစာအုပ်များနှင့် မြန်မာ့စွယ်စုံကျမ်းများအထိ ကျယ်ပြန့်သွားလေသည်။

အထက်ပါအဆိုကို လက်ခံနိုင်ဖွယ်ရာမရှိပါ။ ၉-ရာစုတွင် ရောက်ရှိလာသူများမှာ 'မင်းအစုဝင်များ' သာ ဖြစ်ပါသည်။ မစ္စတာလုစ်သည် 'မင်အစု'နှင့်

'မြန်မာအစု' ကို ခွဲခြားမလေ့လာမိသောကြောင့် အဆိုများ တိမ်းယိမ်းခဲ့ရသည်။

မြန်မာဟု ခေါ်တွင်မည့် အစုဝင်များသည် အေဒီ ၅-ရာစုလောက်ကပင် မြန်မာပြည် မြေပြန့်ဒေသသို့ အခြေချခဲ့ပြီဟု ဆိုနိုင်ပေသည်။

ရှေးဦးမြန်မာတို့သည် အေဒီ ၅-ရာစုခန့်တွင် အထွေထွေအကြောင်းများကြောင့် ရေကြည်ရာ မြက်နုရာသို့ ဆင်းလာကြသည်။ အချို့သည် ရခိုင်တောင်တန်းဆီသို့ ရောက်သွားကြသည်။ သူတို့သည် ရခိုင်ဒေသ၌ 'ကမ်းယံ'အမည်ဖြင့် အခြေချနေထိုင်ကြသည်။ အချို့သည် ပုံတောင်ပုံညာဒေသသို့ တက်သွားကြသည်။ သူတို့ကို 'ယော' (ယဝ်)ဟု ခေါ်သည်။

အချို့မြန်မာတို့သည် ဧရာဝတီနှင့် ချင်းတွင်း မြစ်နှစ်သွယ်စပ်ကြား၌ နေရာသစ်ကို ရှာဖွေကြသည်။ ထိုအချိန်တွင် မြန်မာတို့အတွက် အခြေချစရာ နေရာကောင်းများ ရှားပါးနေပြီ။ မြေကောင်းမြေပြန့်ဒေသများမှာ ပျူလူမျိုးတို့၏ လက်အောက်၌ ရှိနေကြပြီ။

ရွှေဘိုဝန်းကျင်သည် ဟန်လင်းပျူတို့၏ လက်အောက်၌ ရှိနေ၏။ လယ်တွင်းဒေသ၊ ကျောက်ဆည်လွင်ပြင်မှာလည်း မိုင်းမောဟု ခေါ်နေကြသော ပင်လယ်ပျူတို့၏ လက်အောက်၌ ရှိနေ၏။ အောက်ပိုင်းဒေသမှာ သရေခေတ္တရာပျူတို့၏ နယ်မြေဖြစ်သည်။

မြန်မာတို့သည် နေရာသစ်ကို ရှာဖွေကြရာ၌ မြစ်ဝှမ်းဒေသကိုလည်း လိုချင်ကြသည်။ သို့ရာတွင် မြစ်ဝှမ်းဒေသ၌ နေရာကောင်းများ ရှားပါးနေပြီ။ ပျူလူမျိုးတို့ မက်မောခြင်းမရှိသော ဒေသတစ်ခု၌ အခြေချနေကြရသည်။ ထိုဒေသကား နောင်အခါတွင် အရိမဒ္ဒနခေါ် ပုဂံမြို့တော်ကြီး ဖြစ်လာမည့် ဧရာဝတီ မြစ်ကွေ့ ဒေသပင်တည်း။

ဧရာဝတီမြစ်ကွေ့ရှိ တုရင်တောင်ခြေဒေသသည် မြစ်နှင့်နီးသော်လည်း စိုက်ခင်းပျိုးကွက် လုပ်ချက်မကောင်းပေ။ မိုးနည်းဒေသလည်းဖြစ်သည်။ ရာသီဥတု ပူပြင်းသည်။ ထို့ကြောင့် ကျွန်စစ်သားကျောက်စာများ၌ ပုဂံဒေသကို 'တတ္တဒေသ' (လောလောပူသောအရပ်) ဟု ဆိုခဲ့၏။ မြေနီသဲဝှမ်းများဖြစ်သောကြောင့် 'တမ္ဗဒီပ' (ကြေးနီရောင်ဒေသ) ဟူ၍လည်း ရှင်ဒိသာပါမောက်ကျောက်စာ၌ ရေးထိုးထားခဲ့လေသည်။

အေဒီ ၆-ရာစုလောက်တွင် မြန်မာတို့ အင်အားစုစည်းမိလာပြီ။ မိမိတို့၏ ကိုယ်ပိုင်ယဉ်ကျေးမှုကို ထူထောင်ကြပြီ။ အေဒီ ၆၃၈-ခုနှစ်တွင် မြန်မာတို့က

ကိုယ်ပိုင်သင်္ကေတရာဇ်ကို အသုံးပြုကြသည်။

အေဒီ ၉-ရာစုကျော်လောက်တွင် နန်ချောင်(နန်စော)ဒေသ၌ ကွဲကွာနေရစ်သော မြန်မာလူမျိုးတို့နှင့် တစ်နွယ်တည်းဖြစ်သည့် 'မင်အစု'ဝင်တို့လည်း မြန်မာပြည်အတွင်းသို့ ရောက်ရှိလာကြသည်။ ထိုအချိန်တွင် မြန်မာတို့ အင်အားစုကြီးထွားလာပြီး ပုဂံကို ဗဟိုပြု၍ နိုင်ငံတော်သစ်ကို ထူထောင်ကြသည်။

ထိုအချိန်၌ ပျူလူမျိုးတို့လည်း ဝါးအစည်းပြေသလို ဖြစ်နေကြပြီ။ သရေခေတ္တရာသည် လူမျိုးစုချင်း ပဋိပက္ခဖြစ်ခြင်း၊ ကိုးကွယ်မှုချင်း မပြေမလည်ဖြစ်ခြင်း စသော အကြောင်းတို့ကြောင့် စိတ်ဝမ်းကွဲနေကြပြီဖြစ်၍ အုပ်ချုပ်ရေးအာဏာလည်း မတည်တံ့တော့။ အာဏာလုတိုက်ပွဲများ ဖြစ်ပေါ်ရာမှ နေပြည်တော် ပျက်စီးခဲ့ရသည်။

မြောက်ပိုင်းရှိ ဟန်လင်းမြို့တော်မှာလည်း အေဒီ ၈၃၂-ခုနှစ်တွင် နန်ချောင်တို့ တိုက်ခိုက်သောကြောင့် ပျက်စီးရသည်။ တစ်ဖန် ၈၃၅-ခုနှစ်တွင် လယ်တွင်းဒေသ၊ ပန်လောင်မြစ်အနီးရှိ မိုင်းမောဟုခေါ်နေကြသော ပထမပင်လယ်မြို့(တရုတ်အခေါ် မိချဲင်း-စပါးမြို့) ကိုလည်း နန်ချောင်တို့က ဆက်လက်တိုက်ခိုက် ဖျက်ဆီးခဲ့ပြန်သည်။ ဤသို့ဖြင့် ပျူဒေသအုပ်ချုပ်ရေးများ ပျက်စီးခဲ့ရသည်။

ထိုအချိန်တွင် ပုဂံဒေသ၌ရှိသော မြန်မာတို့သည် နိုင်ငံတော်အင်အားကို ချဲ့ထွင်နိုင်ကြသည်။ ပျူနယ်မြေများကိုပါ အုပ်စိုးလာနိုင်ကြသည်။ တဖြည်းဖြည်းနှင့် ပျူလူမျိုးတို့သည် မြန်မာတို့၏ အုပ်ချုပ်မှုကို ခံယူရသော လူမျိုးများဖြစ်လာသည်။ နောက်ပိုင်းရာစုနှစ်များတွင် ပျူတို့သည် မြန်မာတို့နှင့် သွေးနှောကာ "ပျူလည်း မြန်မာ၊ မြန်မာလည်း ပျူ" ဟူသော အဆင့်သို့ ရောက်ရှိလာခဲ့လေသည်။

## ထေရဝါဒ သာသနာ့နိုင်ငံတော်

အေဒီ ၈-ရာစုဝန်းကျင်တွင် ပျူတို့၏ မြို့ပြနိုင်ငံငယ်များ၌ ဘာသာအယူဝါဒများ ရှုပ်ထွေးနေ၏။ မဟာယာန၊ တန္တရ၊ ဗြာဟ္မဏဝါဒ၊ နတ်ကိုးကွယ်မှု၊ နဂါးကိုးကွယ်မှု- စသော အယူဝါဒမျိုးစုံကို လက်ခံကျင့်သုံးနေကြသည်။

ဤအယူဝါဒမျိုးစုံသည် မြန်မာနိုင်ငံတော်သစ်ကို ထူထောင်သောအခါ၌ ပုဂံမြို့တော်သို့ ကူးရောက်လာကြသည်။ ထို့ကြောင့်ပင် ပုဂံခေတ်ဦး၌ အယူဝါဒမျိုးစုံကို တွေ့ရှိနေကြရသည်။ ထိုအယူဝါဒများထဲတွင် သမထီးအရည်းကြီးတို့၏ တန္တရဂိုဏ်းမှာ အကျယ်ပြန့်ဆုံးဟု ဆိုနိုင်သည်။ ပုဂံခေတ်ဦးတွင် အရည်းကြီးခေါင်းဆောင်

တန္တရရဟန်းကြီး ၃-ကျိပ်နှင့်တပည့်ပေါင်း ၆၀၀၀၀(ခြောက်သောင်း)မျှ ရှိနေလေသည်။

အနော်ရထာမင်း နန်းတက်လာသောအခါ၌ အယူဝါဒမျိုးစုံတို့မှာ ကိုယ့်နည်းကိုယ့်ဟန်နှင့် အားပြိုင်နေကြသည်။ အနော်ရထာမင်းသည် ကိုးကွယ်မှုသန့်စင်ရေးကို ဆောင်ရွက်လိုသောဆန္ဒ ပြင်းပြလျက်ရှိသည်။ သို့သော်လည်း မည်သို့ဆောင်ရွက်မည်ဟု မသိနိုင်ဘဲ ဖြစ်နေရလေသည်။

ထိုအချိန်တွင် သထုံမှ အရှင်အရဟံမထေရ်နှင့် တွေ့ကြုံခဲ့ရသည်။ ဗုဒ္ဓ၏ ထေရဝါဒ ဒေသနာတော်ကို နာကြားခဲ့ရသည်။အနော်ရထာမင်းသည် အရှင်အရဟံ၏ ဒေသနာတို့ကို သဘောကျသွား၏။ ကြည်ညိုသဒ္ဓါပွားသွားသည်။ မိမိ၏ ပုဂံနေပြည်တော်၌ ထေရဝါဒဗုဒ္ဓဘာသာ ထွန်းပြန့်စေရမည်ဟု ဆုံးဖြတ်လိုက်သည်။

ထို့နောက် အရှင်အရဟံမထေရ်ကို ဆရာပြု၍ ကိုးကွယ်မှုသန့်စင်ရေးကို ဆောင်ရွက်လေတော့သည်။ ယခင်က ပြည်သူတို့ ကိုးကွယ်နေသော အယူဝါဒများကို ချေဖျက်ပစ်သည်။ တန္တရ မန္တရတို့ဖြင့် ပုဂံပြည်သူတို့ကို လှည့်စားနေသော အရည်းကြီးတို့အား လူဝတ်လဲစေသည်။ ထို့နောက် အရည်းကြီးလူထွက်များကို အဲမောင်းလှံကိုင် ဆင်ချေးကျုံး မြင်းချေးကျုံးအလုပ်တို့ကို စေခိုင်းသည်။

တောင်သူကြီးမင်း လက်ထက်က အားပေးသဖြင့် ထွန်းကားခဲ့သော နဂါးကိုးကွယ်မှုကိုလည်း မင်းမိန့်ဖြင့် တားဆီးပစ်သည်။

ထိုအချိန်မှ၍ ပုဂံပြည်၌ ထေရဝါဒဗုဒ္ဓဘာသာ ထွန်းကားလာလေသည်။ နိုင်ငံအုပ်ချုပ်သောမင်းက အားပေးသဖြင့် နိုင်ငံသားတို့ကလည်း ထေရဝါဒ ဗုဒ္ဓဘာသာကို ကိုးကွယ်ဆည်းကပ်လာကြသည်။ နောက်ပိုင်းတွင် မြန်မာနိုင်ငံသည် ထေရဝါဒ သာသနာ့နိုင်ငံတော် ဖြစ်လာခဲ့လေသည်။

## မြန်မာမင်းများလက်ထက် ဗုဒ္ဓဘာသာ

အနော်ရထာမင်းကြီး ပြုစုခဲ့သော ထေရဝါဒ ဗုဒ္ဓဘာသာမှာ အခြေခိုင်သလောက် ရှိနေပြီးမှ စောလူးမင်းလက်ထက်တွင် အားနည်းသလို ဖြစ်သွားရပြန်သည်။

စောလူးမင်းသည် အရည်အချင်း ချည့်နဲ့သော မင်းတစ်ပါးဖြစ်သည်။ စွမ်းရည်ရှိသူတို့ကို မနှီးမြှောက်တတ်။ မိမိကို အန္တရာယ်ပြုမည့်သူအား နန်းတွင်း၌ ထား၍ မြှောက်စားသည်။ ကျန်စစ်သားကဲ့သို့ သစ္စာစောင့်သိသော လူစွမ်းကောင်းကိုပင် ပုဂံနေပြည်တော်မှ ပယ်ထုတ်ထားသည်။

ဤအခွင့်ကောင်းကိုယူ၍ ပဲခူးစား ငရမန်က ပုန်ကန်သည်။ ငရမန်သည် စောလူးမင်း မွေးစားထားသော မြို့စားတစ်ဦး ဖြစ်သည်။ ငရမန်သည် စစ်အင်အားကို စုစည်း၍ ပုဂံနေပြည်တော်ကို သိမ်းပိုက်ရန် ချီတက်လာလေသည်။

စောလူးမင်းသည် ပဲခူးစား ငရမန်၏ စစ်ဦးကို ကိုယ်တိုင်ချီတက်၍ တိုက်ခိုက်သည်။ ငရမန်၏ စစ်ပရိယာယ်ကို နားမလည်သောကြောင့် စောလူးမင်း အဖမ်းခံရသည်။ ထိုစဉ် ကျန်စစ်သားက သွားရောက်ကယ်တင်သေးသည်။ သို့သော်လည်း ကျန်စစ်သားကို အထင်လွဲသဖြင့် အကယ်မခံခဲ့၊ နောက်ဆုံးတွင် စောလူးမင်းသည် ငရမန်လက်ချက်ဖြင့် အသက်သေရသည်။

ငရမန်၏ ထိုးစစ်ဆင်လာမှုကြောင့် ပုဂံပြည်သူတို့သည် ကြောက်ရွံ့ထိတ်လန့်နေကြ၏။ စောလူးမင်းကျဆုံး၍ ပုဂံတပ်ပျက်သောအခါ မြို့တော်နေ ပြည်သူများနှင့် ရဟန်းသံဃာတို့သည် မြို့တော်နှင့် ဝေးရာသို့ ပြေးရှောင်ကုန်ကြသည်။ ပုဂံပြည်၌ ရှတ်တရက် လူဦးရေလျော့ပါးသွားပြီး စည်ဝေစ ရဟန်းသံဃာများလည်း ပါးရှားသွားတော့သည်။

နောက်ပိုင်းတွင် ကျန်စစ်သားဦးဆောင်၍ ငရမန်၏ ပုန်ကန်မှုကြီးကို နှိမ်နင်းနိုင်ခဲ့သည်။ ကျန်စစ်သားအောင်နိုင်သောကြောင့် ပုဂံပြည်သူတို့က ကျန်စစ်သားအား ပုဂံထီးနန်းကို လွှဲအပ်ကြ၏။

ကျန်စစ်သားမင်းသည် ပုဂံပြည်ကို ပြန်လည်စည်ပွားအောင် ဆောင်ရွက်ရသည်။ ပြေးရှောင်နေကြသော ပုဂံပြည်သူတို့ကိုပြန်၍ ခေါ်ဆောင်ရ သည်။ ရဟန်းတော်တို့ကို ပြန်လည်ပင့်ဆောင်ရသည်။ ဤသို့ ပြန်လည်စည်းရုံးနိုင် သဖြင့် ပုဂံပြည် ဗုဒ္ဓသာသနာလည်း ဆက်လက်ဖွံ့ဖြိုးလာခဲ့လေသည်။

ထို့နောက် ပုဂံခေတ်တစ်လျှောက် စိုးအုပ်သွားကြသော မင်းတို့သည် ထေရဝါဒ ဗုဒ္ဓဘာသာကိုပင် ဆက်လက်ကိုးကွယ်ခဲ့ကြသည်။ အားပေးချီးမြှောက်ခဲ့ကြသည်။

ပင်းယ၊ အင်းဝစသော ခေတ်အဆက်ဆက် မင်းတို့သည်လည်း ထေရဝါဒ ဗုဒ္ဓဘာသာကိုပင် လက်ဆင့်ကမ်း ကိုးကွယ်ခဲ့ကြ၏။ အားပေးပူဇော်ခဲ့ကြပေသည်။

မြန်မာမင်းစဉ် တစ်လျှောက်လုံးတွင် ဗုဒ္ဓဘာသာကို အလေးမထားဘဲ မလေးမစားလုပ်သော မင်းဟူ၍ အလွန်နည်းပါးလှသည်။ ပုဂံခေတ် နရသူမင်းသည် ရဟန်းတော်တို့ကို အနှောင့်အယှက် ပေးခဲ့ဖူးသည်။

အင်းဝခေတ်တွင် ဗုဒ္ဓဘာသာကို မယုံကြည်သောကြောင့် ရဟန်းတော်တို့ကို

သတ်ဖြတ်သော သိုဟန်ဘွားကဲ့သို့ မင်းတစ်ဦးကိုလည်း တွေ့ရသည်။ သိုဟန်ဘွားသည် ဗုဒ္ဓဘာသာဝင်မဟုတ်သောကြောင့် သာသနာ့ဝန်ထမ်းတို့ကို နှိပ်စက်ခဲ့ခြင်းဖြစ်သည်။

စောစောပိုင်းက ဗုဒ္ဓဘာသာဝင်ဖြစ်ပါလျက် နောက်ပိုင်းတွင် မိမိဘာသာကို သစ္စာဖောက်ကာ အခြားဘာသာသို့ ကူးပြောင်းသွားသော မင်းတစ်ပါးကိုလည်း ရှားရှားပါးပါး တွေ့ရသေးသည်။ ထိုမင်းကား ရတုဘုရင်ဟု ခေါ်တွင်နေကြသော တောင်ငူဘုရင် နတ်ရှင်နောင် ဖြစ်ပေသည်။

မြန်မာ့သမိုင်းစဉ် ရာဇဝင်တစ်လျှောက်တွင် ဗုဒ္ဓဘာသာကို အမည်းကွက်ထင်အောင် ပြုလုပ်ခဲ့သူတို့မှာ ထိုမင်း ၃-ဦးသာလျှင် ရှိလေသည်။

# အခန်း (၇)

## ထေရဝါဒဂိုဏ်းကွဲများ

### ပုဂံခေတ်ဂိုဏ်းကွဲများ

အိန္ဒိယနိုင်ငံနှင့် သီရိလင်္ကာနိုင်ငံတို့တွင် ဗုဒ္ဓသာသနာဂိုဏ်းကွဲများ ပေါ်ပေါက်သကဲ့သို့ မြန်မာနိုင်ငံ၌လည်း သာသနာဂိုဏ်းကွဲများ ပေါ်ပေါက်ခဲ့၏။ သို့ရာတွင် အိန္ဒိယဂိုဏ်းကွဲများမှာ အဝတ်အဆင်၊ အကျင့်အကြံ၊ စာပေမှစ၍ အလွန်ကွဲပြားကြသည်။ မြန်မာနိုင်ငံ၌ ကွဲပြားသောဂိုဏ်းများမှာမူ ဤမျှခြားနားခြင်း မရှိပေ။ ထေရဝါဒလောင်းရိပ်မှပင် ကွဲပြားခဲ့ကြခြင်းဖြစ်သည်။

မြန်မာနိုင်ငံ သာသနာဂိုဏ်းကွဲများကိုလေ့လာလျှင် အချို့မှာ မာနကို အခြေခံ၍ ကွဲပြား၏။ အချို့မှာ အနည်းငယ်သော အယူအဆကို အခြေခံ၍ ကွဲပြား၏။ အနည်းငယ်သော ကျင့်ကြံမှုကို အခြေခံ၍ ကွဲပြား၏။ ကိုးကွယ်သူ ဘုရင်အားကိုး ဖြင့် ကွဲပြားသည်။ ဆရာစွဲ၊ အတ္တစွဲကို အခြေခံ၍ကွဲပြားသည်။

ပုဂံခေတ်တွင် မူလက သထုံမှလာသော အရှင်အရဟံ ဦးဆောင်ပြုစုခဲ့သည့် သံဃာ့အဖွဲ့အစည်းတစ်ခုတည်းသာ ရှိသည်။ နရပတိစည်သူလက်ထက်ရောက်သောအခါ သီဟိုဠ်ပြန် သံဃာ့အဖွဲ့က ဆရာစွဲဖြင့် သံဃာ့ကံကို သီးခြားပြုကြရာမှ ဂိုဏ်းတစ်ဂိုဏ်း ထပ်ပွားလာသည်။ ထိုအချိန်မှစ၍ ပုဂံပြည်၌ သံဃာဂိုဏ်း ၂-ဂိုဏ်း ဖြစ်လာသည်။ ယင်းတို့မှာ-

(၁) ပုရိမသံဃာဂိုဏ်း

(၂) ပစ္ဆာသံဃာဂိုဏ်း တို့ဖြစ်ပေသည်။

(၁) ပုရိမသံဃာဂိုဏ်းမှာ ရှင်အရဟံ ထူထောင်ခဲ့သည့် ရှေးဦးသံဃာဂိုဏ်း ဖြစ်သည်။

(၂) ပစ္ဆာသံဃာဂိုဏ်းမှာ အရှင်ဆပဒမထေရ် ထူထောင်သောဂိုဏ်း

ဖြစ်သည်။ ဆပဒသည် သီဟိုဠ်သို့သွား၍ စာပေသင်ကြားရာမှ အပြန်တွင် အရှင်သီဝလိ၊ အရှင်တာမလိန္ဒ၊ အရှင်အာနန္ဒာနှင့် အရှင်ရာဟုလာမထေရ်တို့ကို ပင့်လာခဲ့သည်။ မြန်မာပြည်ရောက်သောအခါ ၎င်းတို့က မိမိတို့ဘာသာ သီးခြားသံဃာ့ကံကို ပြုလုပ်ကြသည်။ နရပတိစည်သူမင်းကလည်း ထိုရဟန်းအဖွဲ့ကို အားပေးသည်။ ထိုဂိုဏ်းမှာ နောက်မှပေါ်ပေါက်လာသဖြင့် 'ပစ္ဆာသံဃာဂိုဏ်း' ဟု ခေါ်ကြသည်။

ထိုဂိုဏ်းထဲမှ အရှင်ရာဟုလာမှာ လူထွက်ပြီး မာလာယုသို့ ထွက်သွားသည်။ မကြာမီ အရှင်ဆပဒလည်း ပျံလွန်တော်မူ၏။ ခေါင်းဆောင်မထေရ် ၃-ပါးသာ ကျန်တော့သည်။

ထိုမထေရ် ၃-ပါးတို့လည်း နောက်ပိုင်းတွင် လာဘ်လာဘနှင့် စပ်၍ သဘောထား မညီညွတ်သဖြင့် ကွဲပြားကုန်ကြသည်။ ဂိုဏ်းတစ်ခုစီ ထူထောင်ကြသည်။ ထိုအချိန်တွင် ပုဂံပြည်၌-

(၁) ပုရိမ သံဃာဂိုဏ်း

ပစ္ဆာသံဃာ(သီဟိုဠ်ပြန်)ဂိုဏ်းမှ-

(၂) အရှင်သီဝလိ အနွယ်ဂိုဏ်း

(၃) အရှင်တာမလိန္ဒ အနွယ်ဂိုဏ်း

(၄) အရှင်အာနန္ဒာ အနွယ်ဂိုဏ်း

ဟူ၍ ၄-ဂိုဏ်း ပေါ်ပေါက်ခဲ့လေသည်။

## ရာမည သံဃာဂိုဏ်းများ

ပုဂံခေတ်နောက်ပိုင်းတွင် ရာမညတိုင်းခေါ် အောက်ပိုင်းဒေသ၌လည်း သံဃာဂိုဏ်းကွဲများ ပေါ်ပေါက်ခဲ့၏။ ထိုဂိုဏ်းထဲမှ အချို့ဂိုဏ်းများမှာ ပုဂံသာသနာ ဂိုဏ်းကွဲများမှ ပြန့်ပွားနေသော ဂိုဏ်းများဖြစ်ပေသည်။

ရာမညတိုင်း ဟံသာဝတီကို အုပ်စိုးသော ဓမ္မစေတီမင်းလက်ထက်၌ သံဃာဂိုဏ်းကြီး ၆-ဂိုဏ်းမျှ ရှိနေသည်။

(၁) ကမ္ဘောဇဂိုဏ်း။ ။ အသောကမင်းလက်ထက်က အရှင်သောဏနှင့် အရှင်ဥတ္တရမထေရ်တို့ အဆက်အနွယ်ဂိုဏ်းဖြစ်သည်။ ယင်းဂိုဏ်းကို 'အရိယာသံဃာဂိုဏ်း' ဟုလည်းခေါ်သည်။ ထိုဂိုဏ်းမှ မထေရ်တစ်ပါးသည် စာပေပရိယတ် ပြည့်စုံသောကြောင့် ထင်ရှားသည်။ ထိုမထေရ်သည် လက္ခိုယမြို့ ပဂိချောင်းအနီး၌ သီတင်းသုံးသည်။ ထိုကျောင်း

နှင့် မနီးမဝေး၌ အိမ်ဈေးကြီးလည်းရှိသည်။ ထိုအိမ်ဈေးပတ်ဝန်းကျင်တွင် ကမ္ဗောဇတိုင်းသား သံ့ပန်းတို့ကို နေစေသည်။ ထိုဈေးကိုလည်း ကမ္ဗောဇဈေးဟု ခေါ်သည်။ နောက်ပိုင်းတွင်ကား ကျောင်းကိုလည်း ကမ္ဗောဇဈေးကျောင်းဟု ခေါ်သည်။

တစ်ရံသောအခါ ဒလမြို့မှ သီရိစည်သူအမည်ရှိ ဒါယကာက ကမ္ဗောဇဈေးကျောင်းမထေရ်အား ကျောင်းကြီးဆောက်၍ တင်လှူကိုးကွယ်သည်။ ထိုမထေရ်မှ ဆင်းသက်လာသော သံဃာတို့ကို 'ကမ္ဗောဇဂိုဏ်း'သံဃာဟု ခေါ်ဆိုကြသည်။

(၂) ရှင်သီဝလိဂိုဏ်း။ ။ ထိုဂိုဏ်းမှာ ပုဂံပြည် အရှင်သီဝလိမထေရ်ဂိုဏ်းမှ ကူးစက်လာသော ဂိုဏ်းဖြစ်သည်။

(၃) ရှင်တာမလိန္ဒဂိုဏ်း ။ ။ ပုဂံမှပင် ရောက်လာသည်။

(၄) ရှင်အာနန္ဒာဂိုဏ်း ။ ။ ပုဂံမှပင် ရောက်လာသည်။

(၅) ရှင်ဗုဒ္ဓဝံသဂိုဏ်း ။ ။ မုတ္တမမြို့သား အရှင်ဗုဒ္ဓဝံသသည် သီဟိုဠ်သို့ သွား၍ ပဥ္စင်းခံပြီး ပြန်လာသည်။ မိဖုရားက ကိုးကွယ်သဖြင့် မိဖုရားဆရာတော်ဟု ခေါ်သည်။ ထိုဆရာတော်ကလည်း ဂိုဏ်းတည်ထောင်၍ သံဃာ့ကံကို သီးခြားပြုလေသည်။

(၆) ရှင်မဟာနာဂဂိုဏ်း။ ။ ထိုမထေရ်မှာလည်း မုတ္တမမြို့သားပင်ဖြစ်သည်။ သီဟိုဠ်သွား၍ ပဥ္စင်းခံသည်။ ပြန်လာသောအခါ သီးခြားသံဃာ့ကံပြု၍ ဂိုဏ်းထောင်နေသူဖြစ်သည်။

အထက်ပါဂိုဏ်းကြီး ၆-ဂိုဏ်းတို့သည် တစ်ဂိုဏ်းနှင့် တစ်ဂိုဏ်း ပေါင်းသင်းခြင်း မပြုကြ။ မိမိတို့ဂိုဏ်းအချင်းချင်းသာ သံဃာ့ကံ ပြုနေကြသည်။ ဓမ္မစေတီမင်းနန်းတက်ချိန်အထိ ထိုအတိုင်းပင် ဆောင်ရွက်ပြုကျင့်နေကြသည်။

ဓမ္မစေတီမင်းသည် သာသနာတော် ထွန်းကားပြန့်ပွားရေးကို အထူးဆောင်ရွက် နေသည်။ သာသနိကအဆောက်အအုံများစွာကို ဆောက်လုပ်သည်။ သံဃာတော်တို့အား ပစ္စည်းလေးပါးဖြင့် ထောက်ပံ့ပူဇော်သည်။ သို့သော်လည်း သံဃာတို့မှာ ဂိုဏ်းအချင်းချင်း ပေါင်းသင်းမှုမပြုကြသဖြင့် စိတ်ကျေနပ်ဟန်မတူပေ။ သံဃာချင်း စည်းလုံးညီညွတ်စေချင်သည်။ သို့သော်လည်း ရှေးအထက်ကပင် ကွဲပြားလာခဲ့သဖြင့် စည်းလုံးပေးရန် မလွယ်လှချေ။

ဓမ္မစေတီမင်းသည် သံဃာဂိုဏ်းများကို စည်းရုံးရန် မဖြစ်နိုင်သောကြောင့်

သီးခြားသာသနာကို ထူထောင်ရန် ဆုံးဖြတ်လိုက်သည်။ ဤကိစ္စဆောင်ရွက်နိုင်ရန် အတွက် သိမ်သံသယကို အကြောင်းပြသည်။

ဓမ္မစေတီမင်းသည် လက်ရှိသိမ်များမှာ သံသယဖြစ်ဖွယ်ရာရှိသည်ဟုဆိုကာ ရဟန်တော်များကို သီဟိုဠ်သို့ စေလွှတ်၍ သိက္ခာသစ်တင်စေသည်။ ပြန်ရောက်လျှင် သီဟိုဠ်ပြန် ဆရာတော်များဖြင့် ကလျာဏီ သိမ်တော်ကြီးကို သမုတ်သည်။ ထိုသိမ် တော်ကြီး၌ ပဥ္စင်းသစ်အမြောက်အမြားကို ခံယူစေသည်။ အခြားရဟန်းတော်များ ကိုလည်း သိက္ခာသစ် တင်ယူစေသည်။ ဓမ္မစေတီမင်းသည် ကလျာဏီသိမ်ထွက် ရဟန်းတို့ကို ဦးစားပေးသည်။ အခြားသိမ်များမှ ရဟန်းပြုထားသူများကို အလေး မထားတော့ပေ။

ဓမ္မစေတီမင်း၏ ဆောင်ရွက်ချက်သည် အောင်မြင်သည်ဟု ဆိုရပါမည်။ နောက်ပိုင်းတွင် အထက်ပါဂိုဏ်း ၆-ဂိုဏ်းမှ ရဟန်းတို့လည်း ကလျာဏီသိမ်တော်၌ သိက္ခာသစ်ကို တင်ယူကြသည်။ ပူးပေါင်းညီညွတ်သွားကြသည်။

ဓမ္မစေတီခေတ်နောက်ပိုင်းတွင် သံယာဂိုဏ်းကွဲများလည်း မှေးမှိန်သွား၏။ ပျောက်ကွယ်သွား၏။ ဓမ္မစေတီမင်း၏ ဂိုဏ်းပေါင်းစည်းရေးဆောင်ရွက်ချက်မှာ ချီးကျူးဖွယ်ကောင်းလှ၏။

## သာသနာတော် သန့်ရှင်းစင်ကြယ်ရေး

ဓမ္မစေတီမင်းသည် သာသနာတော်သန့်စင်ရေးကိုလည်း အလေးထား၍ ဆောင်ရွက်သည်။ ထိုခေတ်တွင် သာသနာနှင့် မအပ်စပ်သော အလုပ်တို့ကို ကျင့်ဆောင်နေသူများရှိသည်။ ထိုရဟန်းမျိုးကို နိုင်နင်းစွာတားမြစ်ပါရန် ဆရာတော် တို့အား လျှောက်ထားခဲ့သည်။ မင်းကြီး၏ သာသနာတော်ရေး လျှောက်ထားချက် များမှ အောက်ပါအချက်တို့ကို ကြည့်လျှင် ထိုခေတ်၏ မသန့်စင်မှုများကို တွေ့ကြရ ပါမည်။

- ဆေးကုသောအမှုကို ပြုသောရဟန်း
- ဂဏန်း (ဗေဒင်) အတတ်၊ လက်သမားအတတ်၊ ဆင်စွယ်ပွတ်သမား အတတ်ကို ပြုသောရဟန်း
- မင်းနှင့် မင်းအမတ် အစရှိသော သူတို့၏ ကလေးသူငယ်တို့ကို ချီပိုး ထိန်းယခြင်းကို ပြုပေးသောရဟန်း
- ဥပ္ပါတသန္တိကျမ်း၊ နိမိတ်ဖတ်ကျမ်း၊ အိပ်မက်ဖတ်ကျမ်း ဖတ်ခြင်းကိုပြု

သဖြင့် ချမ်းသာဆင်းရဲကို ဟောပြောသောရဟန်း
- ပန်းချီဆေးရေးအမှု၊ ပန်းပုသမားအမှု၊ ပန်းထိမ်သမားအမှု၊ ဘုရားဆင်းတု လုပ်သော ပန်းရန်သမားအမှု စသည်တို့ကိုပြု၍ ကာမဂုဏ် စည်းစိမ်ကို ခံစားကုန်သော လူတို့ကဲ့သို့ အသက်မွေးသောရဟန်း
- ဝါခင်း၊ သလေးခင်း၊ ကောက်ခင်း၊ မုယောခင်း၊ ငရုတ်ခင်းစသည်တို့သို့ သွား၍ ရှည်စွာသော သီချင်းသံဖြင့် တရားဟောလျက် ဝါ၊ ကောက်စပါး၊ သလေးစပါး၊ မုယောစပါး၊ ငရုတ်သီးစသည်ကို ရသည်ရှိသော် ကုန်သွယ် ရောင်းချခြင်းပြုသောရဟန်း
- မလျော်သောလူတို့နှင့် ရောနှောခြင်းဖြင့် ရောနှောနေထိုင်သော ရဟန်း

ထိုအလုံးစုံသော ရဟန်းတို့သည် ယုတ်မာသော ရဟန်းတို့တည်း။ ထိုယုတ်မာသောရဟန်းတို့အား အရှင်ဘုရားတို့သည် မိမိအထံ၌ အမြဲ မပြတ် နေစိမ့်သောငှာ အခွင့်မပေးကြစေကုန်သတည်း။

ဓမ္မစေတီမင်းသည် ဤသို့ပင် သာသနာတော် သန့်စင်ရေး၊ အယူအမြင် မှန်ကန်ရေးကို ဦးစားပေး၍ ဆောင်ရွက်ခဲ့သော မင်းဖြစ်ပေသည်။

## အရည်းကြီးဂိုဏ်း

ပုဂံခေတ်နောက်ပိုင်းမှစ၍ မြန်မာပြည်တစ်ဝန်းတွင် ဂိုဏ်းကြီး ၂-ဂိုဏ်း ထွန်းကားခဲ့သည်။ ထိုဂိုဏ်းကြီးများမှာ 'အရည်းကြီးဂိုဏ်း' နှင့် 'ပွဲကျောင်းဂိုဏ်း' တို့ဖြစ်သည်။

ယခုဖော်ပြမည့် အရည်းကြီးဂိုဏ်းမှာ အနော်ရထာမတိုင်မီက ပေါ်ပေါက် ခဲ့သော အရည်းကြီးဂိုဏ်းမဟုတ်ပေ။ အနော်ရထာမတိုင်မီက အရည်းကြီးဂိုဏ်းမှာ မဟာယာနဂိုဏ်းမှ ပဲ့ပွားလာသော တန္တရဂိုဏ်းကွဲတစ်ခု ဖြစ်သည်။ ထိုဂိုဏ်းကို အနော်ရထာမင်းက တိုက်ဖျက်လိုက်သဖြင့် ၁၁-ရာစုကပင် ကွယ်ပျောက်သွားခဲ့ သည်။ ထိုဂိုဏ်းကို ပထမအရည်းကြီးဂိုဏ်းဟု ခေါ်နိုင်သည်။

ယခုဖော်ပြမည့် အရည်းကြီးဂိုဏ်းမှာ နရပတိစည်သူမင်း လက်ထက်မှစ၍ ပေါ်ပေါက်လာသော ဂိုဏ်းဖြစ်သည်။ ထိုဂိုဏ်းကို သာသနာဝင်ဆရာစဉ်တို့၌ ထည့်သွင်းထားခြင်းမရှိပေ။ သုတေသနပညာရှင်တို့က ကျောက်စာအကိုးအကား ဖြင့် ရှာဖွေတွေ့ရှိထားသော ဂိုဏ်းဖြစ်သည်။

အရည်းဆိုသည်မှာ အရညဟူသော ပါဠိဝေါဟာရကို နာမသတ်ပြု၍

ခေါ်ဆိုထားခြင်းဖြစ်သည်။ မြန်မာဘာသာဖြင့် 'တောကျောင်းဂိုဏ်း'ဟု အဓိပ္ပာယ်ရသည်။

တောကျောင်းဂိုဏ်းဝင် အရည်းကြီးတို့သည် တောကျောင်း၌ နေကြသော်လည်း တရားဘာဝနာကို ပွားများနေကြသူများ မဟုတ်ပေ။ သူတို့သည် လောကီအယူဝါဒတို့ကို လိုက်စားကြသည်။ တန္တရဂိုဏ်း၏ လုပ်ဆောင်ချက်တို့ကို အမွေခံ၍ လုပ်ကိုင်ကြ၏။ ဝိဇ္ဇာဖြစ်ရေး၊ သိဒ္ဓိပေါက်ရေးဆိုသော လုပ်ငန်းများကို ပြုလုပ်ကြသည်။

အရည်းကြီးဂိုဏ်းဝင်တို့မှာ အမဲအစာစားခြင်း၊ သေရည်အရက်သောက်သုံးခြင်း၊ ညဘက်တွင် အမဲသေရည် စသည် အလှူခံ၍ သုံးဆောင်ကြကြောင်း ကျောက်စာဟောင်းများ၌ တွေ့ကြရသည်။

ထိုဂိုဏ်းကို တည်ထောင်သူမှာ ရှင်ကဿပဖြစ်သည်။ ရှင်ကဿပသည် တောကျောင်း၌နေ၍ တန္တရဂိုဏ်းအလုပ်ကို တွင်ကျယ်အောင် ဖြန့်ဖြူးသည်။ မိမိကိုယ်တိုင်ကား ထေရဝါဒ ဗုဒ္ဓဘာသာရဟန်းတော်အဖြစ် ခံယူထား၏။ ထေရဝါဒ လောင်းရိပ်ကို ခိုလှုံ၍ လောကီတန္တရအလုပ်ကို ကြိုးကုတ်ဆောင်ရွက်နေသူဖြစ်သည်။

ထိုရှင်ကဿပ၏ အတ္ထုပ္ပတ္တိတွင် ကျားကိုစီး၍ ခရီးသွားနိုင်ခြင်း၊ မိကျောင်းကို စီး၍ ပင်လယ်ပြင်ကို ဖြတ်ကျော်နိုင်ခြင်း စသော အံ့ဘနန်းဇာတ်လမ်းများဖြင့် အဆန်းတကြယ် ဖော်ပြကြ၏။ ထိုပုဂ္ဂိုလ်ကြီးကို တန်ခိုးရှင်၊ သိဒ္ဓိရှင်၊ မဟိဒ္ဓိရှင်ကြီး အဖြစ် ဉာဏ်အားချည့်နဲ့သူတို့က ယုံကြည်ခဲ့ကြသည်။

ရှင်ကဿပသည် အနိမ့်တောကျောင်းဟုခေါ်သော အရပ်မှနေ၍ ဂိုဏ်းကြီးပွားအောင် ချဲ့ဖြန့်သည်။ ရှေးခေတ်က ကြိတူ(ကန့်တူ)ဟု ခေါ်သည်။ ယခုအခါ ရေစကြိုချင်းတွင်း မြစ်ကူးတံတားကြီး၏ အရှေ့ဘက်ကမ်းအနီး၌ ရှိသည်။ ရှင်ကဿပ၏ တောကျောင်းတိုက်ဟောင်းကြီးကို ယနေ့တိုင် တွေ့နိုင်ကြသေး၏။

ထိုမထေရ်သည် နရပတိစည်သူလက်ထက်တွင် ပုဂံပြည်သို့ ရောက်ရှိသွားသည်။ ပုဂံပြည်သူတို့သည် မထေရ်ကြီးကို ကြည်ညိုကြ၏။ တန္တရဆန်သော လုပ်ရပ်တို့ကို သဘောကျ၊ နှစ်ခြိုက်ကုန်ကြသည်။ မင်းမှူးမတ် အသိုင်းအဝိုင်းမှ ပုဂ္ဂိုလ်တို့သည် မထေရ်အတွက် ပုဂံပြည်၌ ကျောင်းကန်များကို တည်ဆောက်လှူဒါန်းကြသည်။ မြေယာများစွာကို လှူဒါန်းကြသည်။

ပုဂံပြည်သူတို့သည် အရည်းကြီးတို့၏ လုပ်ရပ်များဖြစ်သော တန္တရဆန်သည့်

အလုပ်တို့ကို စိတ်ဝင်စားလာကြသည်။ တန်ခိုးကဒ္ဓိပါဒ် ရရှိရေး၊ ဒေဝါဒေဝီတို့၏ ကူညီမှု ရရှိရေးကို မျှော်လင့်လာကြသည်။ "ကိုယ့်အားကိုယ်ကိုး" ဝါဒထက် "သူများအား ကိုယ်ကိုး" ဝါဒကို ခံယူမျှော်လင့်နေကြသည်။

အေဒီ ၁၃-ရာစုတွင် မွန်ဂိုတို့က ကျူးကျော်တိုက်ခိုက်လာကြသည်။ ထိုအချိန်တွင် အမျှော်လွန်ဝါဒနှင့် သဘာဝလွန်အာရုံတို့ကို ခုံမင်နေသော မြန်မာတို့မှာ အရှုံးနှင့် ရင်ဆိုင်ကြရသည်။ စစ်ရှုံးရခြင်းမှာ ဤအကြောင်းသည် အဓိကမဟုတ်သော်လည်း အကြောင်းတစ်ရပ်အနေဖြင့် ပါဝင်ကြောင်း မငြင်းဆိုနိုင်ကြပေ။

အိန္ဒိယနိုင်ငံတွင်လည်း ဤကဲ့သို့ စိတ်ကူးယဉ် အမျှော်လွန်ဝါဒကြောင့် နိုင်ငံခြားသားတို့လက်သို့ လွယ်ကူစွာ ကျရောက်ခဲ့ရသည်။ ဗုဒ္ဓဘာသာလည်း ကွယ်ပခဲ့ရသည် မဟုတ်လော။

ပုဂံခေတ် ကုန်လုနီးကာလတွင် တောကျောင်းဂိုဏ်းကြီးမှာ အထွတ်အထိပ်သို့ ရောက်ခဲ့သည်။ ရှင်ကဿပမရှိသည့်နောက်၌လည်း သူ့တပည့်များက အရည်းဂိုဏ်း လုပ်ငန်းများကို ဆက်လက်ဆောင်ရွက်ခဲ့ကြသည်။

ထိုအချိန်တွင် မင်းစဉ်မင်းဆက် သမားရိုးကျ သာသနာပြုခဲ့ကြသော ဂါမဝါသီ ပရိယတ္တိသင်ကြားရေးဂိုဏ်းများကို အရည်းကြီးဂိုဏ်းလောက် လူကြိုက်များဟန် မတူတော့ပေ။ အချို့ဂါမဝါသီ ဆရာတော်တို့သည် ဤကဲ့သို့ စိတ်ကူးယဉ်လမ်းကြောင်းကို လိုက်နေကြလျှင် သာသနာတော်လည်း ကျဆုံးမည်။ နိုင်ငံတော်လည်း နစ်နာတော့မည်ဟု သဘောပေါက်လာခဲ့ကြသည်။

ပင်းယခေတ်ရောက်သောအခါ ပရိယတ္တိသာသနာကို ဖြန့်ဝေနေသော ဂါမဝါသီ ရဟန်းတော်တို့သည် လက်တွေ့ကျသော အတတ်ပညာများကို အခြေပြုသည့် "ပွဲကျောင်းဂိုဏ်း" ကို ထူထောင်ခဲ့ကြ၏။ ပွဲကျောင်းဂိုဏ်းကြီး စည်ဝေတိုးတက်လာသောအခါ အရည်းကြီးဂိုဏ်းမှာ တဖြည်းဖြည်း အားနည်းသွားရသည်။ ၁၅-ရာစုလောက်တွင် အရည်းကြီးဂိုဏ်းခေါ် တောကျောင်းဂိုဏ်းကြီး ပျောက်ကွယ်သွားရသည်ဟု သမိုင်းသုတေသီတို့ ခန့်မှန်းကြသည်။

အရည်းကြီးဂိုဏ်းကြီး ပျောက်ကွယ်သွားသော်လည်း အရည်းကြီးတို့၏ လုပ်ရပ်များကို ဆက်လက်အမွေခံ ကျင့်သုံးသော ထေရဝါဒအမည်ခံ ဘုန်းကြီးများကို ဆက်လက်တွေ့ရှိကြရပါသည်။

ဗားမဲ့ဆရာတော်၊ ဗားတမေ့ဆရာတော်၊ ငရနဲဆရာတော် စသော ပုဂ္ဂိုလ်တို့သည် နောက်ခေတ်တွင် အရည်းကြီးတို့၏ လုပ်ရပ်များကို အမွေခံ၍ ကျော်ကြား

ခဲ့သော ပုဂ္ဂိုလ်များ ဖြစ်ပေသည်။

အရည်းကြီးတို့၏ စိတ္တဇဝေဒနာအလုပ်ကို ကြိုးကုတ်ဆောင်ရွက်ကြသော ထေရဝါဒ သံဃာ့အဖွဲ့အစည်းဝင်တို့မှာ ခေတ်အဆက်ဆက် ပျောက်ပျက်ရန် မလွယ်လှပေ။ လူသားတို့၏ အတွေးလွန်အာရုံနှင့် အမျှော်လွန်ရမ္မက်ထန်ပြင်းမှုကို အခြေခံ၍ ကေန်ရှိနေလိမ့်ဦးမည်။ ၂၀-ရာစုကုန်လုနီးဖြစ်သော ယနေ့အထိလည်း မြန်မာနိုင်ငံ တစ်နံတစ်လျားတွင် ကွက်တိကွက်ကျား ပေါ်ပေါက်လျက် တန်ခိုးတောက်နေကြဆဲတည်း။

## ပွဲကျောင်းဂိုဏ်း

ပွဲကျောင်းဂိုဏ်း၏ မြစ်ဖျားခံရာဗဟိုဌာနကား စကား ၇-ကျောင်းဖြစ်သည်၊ ဥစ္စနာမင်းသည် သက္ကရာဇ် ၆၈၄-ခုနှစ်တွင် ပင်းယ၌ မင်းပြု၏။ ဥစ္စနာမင်းသည် ပင်းကျားအရပ်၌ စကားသစ်ဖြင့် ကျောင်းကြီး ၇-ဆောင်ဆောက်လုပ်သည်။ သက္ကရာဇ် ၇၀၂-ခုနှစ်တွင် ကျောင်းတော်ကြီးများကို ပုဂံခေတ်က ထင်ရှားခဲ့သော ဂါမဝါသီဂိုဏ်းမှ မထေရ်တို့အား တင်လှူလေသည်။

ဥစ္စနာမင်းသည် မိမိ၏ ကျောင်းတော်ကြီးများကို ဂါမဝါသီဂိုဏ်းကြီး ၂-ခုမှ မထေရ်တို့ကို တင်လှူခဲ့သည်။ ပုဂံခေတ်က ဂါမဝါသီသံဃာတို့မှာ အရှင်အရဟံအနွယ် ပုရိမသံဃာဂိုဏ်းနှင့် အရှင်ဆပဒအနွယ် ပစ္ဆာသံဃာဂိုဏ်းဟု ၂-ဂိုဏ်းကွဲနေ၏။

ဥစ္စနာမင်းသည် ကျောင်းတော်ကြီးများကို ဂိုဏ်း ၂-ခုလုံးမှ မထေရ်တို့ကို ပူးတွဲတင်လှူခဲ့သည်မှာ ဂိုဏ်းအချင်းချင်း ပေါင်းသင်းညီညွတ်စေချင်သောကြောင့် ဖြစ်ဟန်တူပါသည်။ ဤဆန္ဒမျိုးရှိခဲ့ပါလျှင် ဥစ္စနာမင်း၏ဆန္ဒ ပြည့်ဝသည်ဟု ဆိုရပါမည်။ အဘယ့်ကြောင့်ဆိုသော် ဂါမဝါသီဂိုဏ်းကွဲများ ကွယ်ပျောက်သွားသောကြောင့် ဖြစ်ပါသည်။

စကားရ-ကျောင်းကို အလှူခံရသော သံဃာတို့သည် ပုဂံခေတ်က ကွဲပြားခဲ့သော ဂိုဏ်းဂဏစိတ်ဓာတ်ကို ချေဖျက်၍ စည်းရုံးရေးစိတ်ဓာတ်ကို မွေးမြူခဲ့ကြသည်။ နိုင်ငံတော်ရှေ့ရေးအတွက် လက်တွေ့ကျသော အတတ်ပညာများကို ပူးတွဲသင်ကြားပေးကြသည်။

စကားကျောင်းက သင်ကြားပေးသော လောကီအတတ်ပညာများမှာ ဓားခုတ်၊ လှံထိုး၊ မြင်းစီး၊ ဆင်စီး၊ စစ်ဆင်မှု၊ စက်သွင်းလှံထိုး၊ လက်ဝှေ့ထိုး စသော

ပညာရပ်များဖြစ်သည်။

ထိုခေတ်က ပြည်သူတို့သည် လောကီလောကုတ္တရာ စွယ်စုံပညာများကို သင်ကြားပေးသော ဂါမဝါသီကျောင်းများသို့ ကလေးများကို အပ်နှံ၍ အတတ်ပညာများ သင်ကြားစေသည်။ ထို့ကြောင့် ဂါမဝါသီကျောင်းများသည် ကလေးလူကြီးများစွာတို့ ဝင်ထွက်သွားလာရာ ဌာနကြီးဖြစ်လာသည်။ ဤသို့ လူဝင်လူထွက်များပြားလာမှုကို အကြောင်းပြု၍ ဂါမဝါသီကျောင်းများကို 'ပွဲကျောင်း' ဟူ၍ခေါ်ဆိုလာကြသည်။ နောက်ပိုင်းကာလတွင် ပွဲကျောင်းများ တိုးပွားလာရာ ပွဲကျောင်းအဖွဲ့ဝင် သံဃာတို့လည်း များပြားလာသည်။ ထိုသံဃာအင်အားစု ကြီးထွားလာရာမှ 'ပွဲကျောင်းဂိုဏ်း' ဟူ၍ ခေါ်တွင်ထင်ရှားလာလေသည်။

ပွဲကျောင်းဂိုဏ်းကြီး အင်အားကြီးထွားလာသည့်အလျောက် ပွဲကျောင်းကို လှူဒါန်းကြသော ဝတ္တုကံမြေယာများလည်း အမြောက်အမြား ဖြစ်လာသည်။ ပွဲကျောင်းသံဃာတို့သည် ဝတ္တုကံ မြေယာတို့ကို မြေလုပ်သားချထားရခြင်း၊ အခွန်ဘဏ္ဍာတောင်းခံရခြင်း၊ ဆော်ဩရခြင်း၊ စပါးများကို ခြင်တွယ်ယူရခြင်း၊ ကျွဲ၊ နွားရှာဖွေပေးရခြင်း၊ သူရင်းငှားတို့ အရှုပ်အထွေးကို ဖြေရှင်းပေးရခြင်းစသော တာဝန်များကို ဆောင်ရွက်ကြရသည်။ ပွဲကျောင်းသံဃာတို့သည် မြေမှုယာမှုစသော အမှုကိစ္စတို့ကို ဖြေရှင်းဆောင်ရွက်နေရသဖြင့် ပရိယတ်၊ ပဋိပတ် အလုပ်တို့ကို ကောင်းစွာ မဆောင်ရွက်နိုင်ကြ။ အချို့အမှုကိစ္စများမှာ သံဃာ့ဦးဆောင် ဆရာတော်ကြီးများကိုယ်တိုင် ဖြေရှင်းပေးကြရသည်။ သာသနာရေးဆိုင်ရာ မှုခင်းများကို ဘုရင့်ရုံးတော်ကလည်း ဝင်ရောက်စွက်ဖက်လေ့မရှိကြချေ။

သာသနာရေးဆိုင်ရာ မှုခင်းများကို သံဃာတော်များကသာ ဖြေရှင်းဆုံးဖြတ်နေရသည်။ အချို့ဆရာတော်ကြီးများမှာ သာသနာရေး မှုခင်းများတွင် ဘုရင်သဖွယ် အုပ်ချုပ်ဖြေရှင်းနေရသောကြောင့် ထိုအကြီးအမှူးရဟန်းတို့ကို 'သံဃရာဇာ'(သံဃာမင်း)ဟူ၍ ခေါ်ဆိုလာကြလေသည်။

မြန်မာမင်းတို့သည်လည်း ငယ်စဉ်ကလေးဘဝက ပွဲကျောင်းများ၌ စာပေသင်ကြားကြရသည်။ လောကီပညာများကို ဆည်းပူးကြရသည်။ သို့ဖြစ်၍ မင်းဖြစ်သောအခါတွင် မိမိတို့ဆရာ သံဃရာဇာတို့ကို ပစ္စည်း ၄-ပါးတို့ဖြင့် လှူဒါန်းပူဇော်ကြလေသည်။

သက္ကရာဇ် ၇၂၆-ခုနှစ်တွင် အင်းဝကို တည်ထောင်အုပ်စိုးသော သတိုးမင်းဖျားသည် ပတူးကြီးသံဃရာဇာကို ဆရာပြု၍ ကိုးကွယ်ဆည်းကပ်သည်။

သက္ကရာဇ် ၇၃၀-ခုနှစ်တွင် နန်းတက်သော မင်းကြီးစွာစော်ကဲလက်ထက်တွင် ရခိုင်ဆရာတော်ကို သံဃရာဇာဘွဲ့ဆက်ကပ်၍ ပူဇော်ကိုးကွယ်သည်။

သက္ကရာဇ် ၇၆၃-ခုနှစ်တွင် နန်းတက်သော ဘုရင်မင်းခေါင်ကြီးလက်ထက်တွင်လည်း ပွဲကျောင်းဂိုဏ်း သံဃရာဇာ ဆရာတော်တို့ကိုပင် ကိုးကွယ်ဆည်းကပ်ခဲ့သည်။ မြန်မာ့သမိုင်းတွင် ထင်ရှားသော လက်ဝှေ့ကျော် အောင်စည်းခုံ သံဃရာဇာသည် ထိုမင်းလက်ထက်မှာပင် ပေါ်ပေါက်ခဲ့ပေသည်။

ပွဲကျောင်းဂိုဏ်းကြီးသည် ခေတ်အဆက်ဆက် တိုးတက်လာခဲ့ပြီးနောက် ညောင်ရမ်းခေတ်နှောင်းတွင် အားနည်းသလို ဖြစ်လာရသည်။ ဤသို့ဖြစ်ရသည်မှာ မြန်မာပြည်၌ အခြားဂိုဏ်းသစ်များ ပေါ်ပေါက်လာသောကြောင့်လည်း တစ်ကြောင်းပါဝင်သည်။

ကုန်းဘောင်ခေတ် ဘိုးတော်ဗဒုံမင်းလက်ထက်ရောက်သောအခါ ပွဲကျောင်းဆရာတော်တို့ကို ကိုးကွယ်ခြင်းမပြုတော့ပေ။ နောက်ပိုင်းတွင် ပွဲကျောင်းဂိုဏ်းကို မင်းမိန့်ဖြင့် ဖျက်သိမ်းပစ်သည်။ ဗဒုံမင်းသည် ပွဲကျောင်းဂိုဏ်းက သင်ကြားသောပညာဖြင့် နိုင်ငံတော်ကို ပုန်ကန်နိုင်သည်ဟု အကြောင်းပြု၍ ဖျက်သိမ်းခဲ့သည်။

ပြည်သူနှင့် ရဟန်းသံဃာတို့သည် ပွဲကျောင်းများကို ဖျက်သိမ်းလိုက်သောကြောင့် မကျေနပ်မှုများ ပေါ်ပေါက်ခဲ့ရသည်။ ထိုအခြေအနေအရ ပွဲကျောင်းများကို ပြန်လည်ဖွင့်လှစ်နိုင်ကြောင်း ဗဒုံမင်းက အခွင့်ပြုပြန်သည်။ သို့သော်လည်း ပွဲကျောင်းအများအပြားမှာ ပျက်စီးခဲ့ပြီဖြစ်၍ တိုးတက်စည်ပင်ခြင်း မရှိတော့။ ပွဲကျောင်းအချို့လောက်သာ ပြန်လည်ဖွင့်လှစ်နိုင်တော့သည်။

ပွဲကျောင်းများ ပြန်လည်အားယူနေစဉ် မင်းတုန်းမင်း နန်းတက်လာသည်။ မင်းတုန်းမင်းသည် သက္ကရာဇ် ၁၂၁၇-ခုနှစ်တွင် ဂါမဝါသီပွဲကျောင်းများကို လုံးဝပိတ်ပစ်လိုက်သည်။ ထိုအချိန်မှစ၍ ပွဲကျောင်းဂိုဏ်းလည်း လုံးဝပျောက်ကွယ်သွားရတော့သည်။

ပွဲကျောင်းဂိုဏ်းကြီးသည် သက္ကရာဇ် ၇၀၂-ခုနှစ်မှ စတင်တည်ထောင်ခဲ့သည်။ သက္ကရာဇ် ၁၂၁၇-ခုနှစ်တွင် မင်းတုန်းမင်းက အပြီးအပိုင် ဖျက်သိမ်းလိုက်သည်။ ထို့ကြောင့် မြန်မာနိုင်ငံ သာသနာ့သမိုင်းတွင် ပွဲကျောင်းဂိုဏ်းကြီးသည် နှစ်ပေါင်း ၅၁၅-နှစ်မျှ သက်တမ်းရှည်ခဲ့သည်ဟု ဆိုနိုင်ပေသည်။

## အတင်ဂိုဏ်းနှင့် အရုံဂိုဏ်း

အတင်ဂိုဏ်းနှင့် အရုံဂိုဏ်းတို့မှာ သာသနာဝင်တွင် ထင်ရှားသော ဂိုဏ်းကြီးများဖြစ်သည်။ ချဲ့ကား၍လည်း ရေးသားခဲ့ကြသည်။

အတင်ဂိုဏ်းသည် သက္ကရာဇ်၁၀၆၀–ခုနှစ် နန်းတက်သော ရမည်းသင်းမင်းသားတော်စနေမင်း လက်ထက်တွင် ပေါ်ပေါက်လာခဲ့သည်။ ထိုမင်းလက်ထက်၌ သလ္လာဝတီ ချင်းတွင်းမြစ် အနောက်ဘက်ကမ်းမှ တုန်ရွာ ကျောင်းနေ အရှင်ဂုဏာလင်္ကာရမထေရ်သည် အတင်ဂိုဏ်းကို ထူထောင်ခဲ့သူ ဖြစ်သည်။ ဆရာတော်သည် သာမဏေတို့အား ရွာဝင် ရွာထွက်တို့၌ သင်္ကန်းကို မရုံစေဘဲ လက်ဝဲတစ်ဖက် ပခုံးထက်၌ တင်၍သာ ဝင်စေသည်။ ယပ်ကို ကိုင်စေသည်။ ဤသို့ သင်္ကန်းကိုတင်၍ ဝင်ရသောကြောင့် 'အတင်ဂိုဏ်း' ဟုခေါ်သည်။ တုန်ရွာဆရာတော် တည်ထောင်သော ဂိုဏ်းဖြစ်၍ 'တုန်ဂိုဏ်း' ဟုလည်းခေါ်ကြသည်။

ထိုအခါ တောင်ငူမြို့နေ အရှင်ဗုဒ္ဓင်္ကုရ၊ အရှင်စိတ္တ၊ ဒီပဲယင်းမြို့ ကျေးလက်နေ အရှင်သုနန္ဒ၊ တလုပ်မြို့ ငရံ့အိုရွာနေ အရှင်ကလျာဏတို့ကမူ သာမဏေတို့ ရွာတွင်း ဝင်ရောက်သောအခါ သင်္ကန်းရုံ၍ ယပ်ကိုကိုင်စေပြီးမှ ဝင်ရသည်။ ဤသို့ ရွာဝင်ရွာထွက် သင်္ကန်းရုံကြရသဖြင့် 'အရုံဂိုဏ်း' ဟု ခေါ်သည်။

သင်္ကန်းတင်မှု၊ ရုံမှုကိစ္စကို အကြောင်းပြု၍ ဂိုဏ်းကြီး ၂-ဂိုဏ်း ကွဲပြားသွားကြသည်။ နောက်ပိုင်းတွင် ဤဂိုဏ်းကြီးများ ကြီးပွားလာ၏။ အယူအဆငယ်တစ်ခုကို အကြောင်းပြု၍ ပဋိပက္ခများ ပေါ်ပေါက်လာ၏။ ဂိုဏ်းအချင်းချင်း ညီညွတ်ခြင်း မရှိကြပေ။

အရုံဂိုဏ်းဝင် ဆရာတော်တို့က တနင်္ဂနွေမင်းလက်ထက်တွင်လည်းကောင်း၊ ဟံသာဝတီရောက်မင်း လက်ထက်တွင်လည်းကောင်း မိမိတို့၏ အရုံဝါဒသာ မှန်ကန်ကြောင်း အဆိုပြုကြသဖြင့် အတင်-အရုံကိစ္စကို အဆို-အချေပြု၍ ပြောဆိုကြရသည်။ သို့သော်လည်း ပြဿနာမှာ ပြေလည်မှုမရခဲ့ချေ။

အလောင်းမင်းတရား နန်းတက်ချိန်တွင်မူ အတင်ဂိုဏ်းက ပို၍အားရှိလာသည်။ အလောင်းမင်းတရား ကိုယ်တိုင်က အတင်ဂိုဏ်းဆရာတော် အရှင်ယသကို သာသနာပိုင်ခန့်ထားသည်။ ထိုအချိန်တွင် အရုံဂိုဏ်းဆရာတော်တို့ အနိမ့်ခံကြရသည်။

ထို့နောက် စဉ့်ကူးမင်းနန်းတက်သောအခါတွင် အရုံဂိုဏ်းဝင်တို့က မိမိတို့၏ အရုံဝါဒသာ မှန်ကြောင်း အဆိုပြုကြပြန်သည်။ ထို့ကြောင့် အတင်၊ အရုံကိစ္စကို

အဆုံးအဖြတ် ယူကြရသည်။ ထိုအခါ အရုံဂိုဏ်းက အနိုင်ရသဖြင့် အတင်ဂိုဏ်းကြီး မှေးမှိန်သွားရသည်။

ဗဒုံမင်းလက်ထက်တွင် အတင်-အရုံပြဿနာ ထပ်မံဖြစ်ပွားလာပြန်သည်။ သို့သော်လည်း အရေးအရာ ကြီးထွားမလာတော့ပေ။ နောက်ပိုင်းတွင် အရုံဂိုဏ်းကသာ အင်အားကြီးထွားလာပြီး အတင်ဂိုဏ်းမှာ တဖြည်းဖြည်း မှေးမှိန် မြုပ်တိမ်ခဲ့ရလေတော့သည်။

## ယနေ့ခေတ်ဂိုဏ်းများ

ယနေ့ခေတ်တွင်လည်း မြန်မာနိုင်ငံ၌ အသိအမှတ်ပြုထားသောထေရဝါဒ ဂိုဏ်းကြီး ၉-ဂိုဏ်းရှိသည်။ ယင်းတို့မှာ-

(၁) သုဓမ္မာဂိုဏ်း
(၂) ရွှေကျင်ဂိုဏ်း
(၃) မဟာဒွါရဂိုဏ်း
(၄) မူလဒွါရဂိုဏ်း
(၅) အနောက်ချောင်းဒွါရဂိုဏ်း
(၆) ဝေဠုဝန်ဂိုဏ်း
(၇) ငှက်တွင်းဂိုဏ်း
(၈) ဂဏဝိမုတ်ဂိုဏ်း
(၉) မဟာရင်ဂိုဏ်းတို့ ဖြစ်ပေသည်။

ထိုဂိုဏ်းကြီးများအနက် သုဓမ္မာဂိုဏ်းမှာ ရှေးအကျဆုံးဂိုဏ်းကြီး ဖြစ်သကဲ့သို့ အင်အားအကြီးဆုံးလည်း ဖြစ်ပေသည်။

ယခုရှိနေသော ၉-ဂိုဏ်းလုံးမှာ ထေရဝါဒဘောင်အတွင်းမှပင် ကွဲပြားနေသော ဂိုဏ်းများဖြစ်သည်။ မဟာယာနဂိုဏ်းကဲ့သို့ ထေရဝါဒပိဋကတ်ကို ခြေကန်၍ တော်လှန်သော ဂိုဏ်းများ မဟုတ်ကြပေ။ အလေးမထားလောက်သော အသေးအမွှားအယူအဆကို အခြေခံထား၍ ကွဲပြားနေခြင်းမျှသာ ဖြစ်သည်။

မြန်မာနိုင်ငံအစိုးရသည် ကွဲပြားနေသော ဂိုဏ်းကြီးများကို ပေါင်းစည်းလိုသောဆန္ဒဖြင့် ဂိုဏ်းဆရာတော်ကြီးများနှင့် တွေ့ဆုံ၍ ဆွေးနွေးလျှောက်ထားခဲ့ကြသည်။ ထေရဝါဒအချင်းချင်း ညီညွတ်ပါရန် တောင်းပန်ခဲ့ကြသည်။

ထို့နောက် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးကို ကမ္ဘာအေးကုန်းမြေ

ရှိ ဆဋ္ဌသံဂါယနာ မဟာပါသာဏလိုဏ်ဂူတော်ကြီး၌ ၁၉၈၀-ပြည့်နှစ်၊ သက္ကရာဇ် ၁၃၄၂-ခု နယုန်လတွင် ကျင်းပနိုင်ခဲ့ပေသည်။

ထိုဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီးမှပင် ဂိုဏ်းပေါင်းစုံ သံဃာများ ပါဝင်သော သံဃနာယကအဖွဲ့ အဆင့်ဆင့်ကို ဖွဲ့စည်း၍ သာသနာရေးတာဝန်ကို ဆောင်ရွက်နေကြလေသည်။

## ဘာသာဝင်ဦးရေ နှိုင်းယှဉ်ချက်

မြန်မာနိုင်ငံသည် ခေတ်အဆက်ဆက်၌ ထေရဝါဒဗုဒ္ဓဘာသာကိုသာ လက်ဆင့်ကမ်းကိုးကွယ်ခဲ့ကြသည်။ လူဦးရေတိုးပွားလာသလောက် ဗုဒ္ဓဘာသာဝင် ဦးရေလည်း တိုးများလာခဲ့သည်။

မြန်မာမင်းများလက်ထက်၌ ရှိသော ဗုဒ္ဓဘာသာဝင်စာရင်းကို မတွေ့ရသော် လည်း အင်္ဂလိပ်တို့အုပ်ချုပ်သော ကိုလိုနီခေတ်တွင်မူ ဘာသာဝင် ဦးရေစာရင်းကို တိကျစွာ သိရသည်။

ကိုလိုနီခေတ် ၁၉၂၀-ပြည့်လောက်က မြန်မာနိုင်ငံတွင် လူဦးရေ ၁၃-သန်း ခန့်သာ ရှိသေးသည်။ထိုအချိန်က ဘာသာဝင် အသီးသီးတို့စာရင်းကို ဤသို့ တွေ့သိ ရသည်။

| ဘာသာ | ယောက်ျား + မိန်းမ | လူဦးရေ |
|---|---|---|
| ဗုဒ္ဓဘာသာ | ကျား | ၅၅၂၅၁၅၉ |
| ။ | မ | ၅၆၇၆၇၈၄ |
| နတ်ကိုးကွယ်သူ | ကျား | ၃၆၉၁၈၈ |
| ။ | မ | ၃၃၃၃၉၉ |
| ဟိန္ဒူဘာသာ | ကျား | ၃၇၈၁၇၇ |
| ။ | မ | ၁၀၆၂၅၅ |
| ပသီဘာသာ | ကျား | ၃၁၄၅၂၇ |
| ။ | မ | ၁၈၆၀၈၅ |
| ခရစ်ယာန်ဘာသာ | ကျား | ၁၃၂၄၉၉ |
| ။ | မ | ၁၂၄၆၀၈ |
| အရိယဘာသာ | ကျား | ၁၉၀ |
| ။ | မ | ၈၀ |

| ဘာသာ | ယောက်ျား+မိန်းမ | လူဦးရေ |
|---|---|---|
| ဗရာမိုဆမတ်ဘာသာ | ကျား | ၃၅၅ |
| ။ | မ | ၉၃ |
| ကွန်ဖြူးရှပ်ဘာသာ | ကျား | ၉၉၆၄ |
| ။ | မ | ၄၀၆၇ |
| ဂျိန်းဘာသာ | ကျား | ၈၆၆ |
| ။ | မ | ၂၆၉ |
| ရဟူဒီဘာသာ | ကျား | ၅၈၇ |
| ။ | မ | ၅၄၈ |
| ရှင်တိုဘာသာ | ကျား | ၃၁ |
| ။ | မ | ၁၄ |
| ဆစ်ဘာသာ | ကျား | ၃၇၀၄ |
| ။ | မ | ၁၁၃၉ |
| ဖာရဆီဘာသာ | ကျား | ၂၂၉ |
| ။ | မ | ၁၅၁ |
| သီအိုဆိုဖစ်ဘာသာ | ကျား | ၄၀ |
| ။ | မ | ၁၁ |
| ဘာသာမကိုးကွယ်တတ်သူ | ကျား | ၂၁၄၅၃ |
| ။ | မ | ၂၁၆၄၀ |

ထိုအချိန်က မြန်မာနိုင်ငံ၌ လူဦးရေပေါင်း တစ်ဆယ့်သုံးသန်း တစ်သိန်းခြောက်သောင်း ကိုးထောင် ကိုးဆယ့်ကိုးယောက် ရှိသည်။ ထိုလူဦးရေထဲတွင်-

| | |
|---|---|
| ရဟန်းသံဃာပေါင်း | ၁၀၆၄၂၉ ပါး |
| သီလရှင်ပေါင်း | ၄၇၃၄၂ ပါး |

ရှိလေသည်။

(နိုင်ငံရေး ဓမ္မကထိက နယဒီပနီမှ)

ခရစ်နှစ် ၁၉၈၆-ခုနှစ်ရောက်သောအခါ မြန်မာနိုင်ငံ၌ လူဦးရေ ၃၃-သန်း ရှိလာသည်။ ထိုအချိန်၌ ဗုဒ္ဓဘာသာဝင်ဦးရေများ တိုးတက်လာခဲ့သည်။ အခြားဘာသာဝင်များလည်း တိုးပွားလာသည်ကို တွေ့ရပါသည်။

| | |
|---|---|
| ဗုဒ္ဓဘာသာဝင် | ၃၀၀၀၀၀၀၀-ကျော် |
| ခရစ်ယာန်ဘာသာဝင် | ၁၆၀၀၀၀၀-ကျော် |
| အစ္စလာမ်ဘာသာဝင် | ၁၃၀၀၀၀၀ |
| နတ်ကိုးကွယ်သူ | ၃၉၀၀၀၀ |
| ဟိန္ဒူဘာသာဝင် | ၁၇၀၀၀၀ |
| အခြား | ၅၂၀၀၀ |

မြန်မာသက္ကရာဇ် ၁၃၅၆-ခုနှစ်တွင် မြန်မာနိုင်ငံ၌ လူဦးရေသန်းပေါင်း ၄၀-ကျော်ပြီဟု သိရသည်။ ထိုအထဲတွင် -

| | |
|---|---|
| ရဟန်းတော်ပေါင်း | ၁၆၂၀၉၈-ပါး |
| သာမဏေပေါင်း | ၂၃၃၈၄၀-ပါး |
| သီလရှင်ပေါင်း | ၂၇၀၂၂-ပါး |

ရှိနေလေသည်။

------ ဂိုဏ်းဆရာအချို့တို့သည် ဗုဒ္ဓဘာသာအရိပ်ကို ခိုလှုံ၍ ဂိုဏ်းလုပ်ငန်းကို ပြုလုပ်ကြသည်။ ဗုဒ္ဓ၏ ဓမ္မဒေသနာတို့ကို သိဒ္ဓိပေါက် လုပ်ငန်းထဲသို့ သွတ်သွင်းအသုံးချကြသည်။ ဖြူစင်သော ဗုဒ္ဓဘာသာကို ညစ်နွမ်းအောင် အရောင်လွှမ်းပေးနေကြသည်။

# ထေရဝါဒ ဗုဒ္ဓဘာသာ

## (ဒုတိယပိုင်း)

## အခန်း (၁)

## ထေရဝါဒ၌ ရောနှောလာသော ကိုးကွယ်မှုများ

မြန်မာနိုင်ငံတွင် နတ်ကိုးကွယ်သူဦးရေ သုံးသိန်း ကိုးသောင်းကျော်ရှိသည်ဟု နောက်ဆုံးစာရင်းအရ သိရှိရ၏။ ထိုလူဦးရေမှာ ဗုဒ္ဓဘာသာ မရောက်နိုင်သေးသော တောင်တန်းဒေသမှ တိုင်းရင်းသားများဖြစ်သည်။

အကယ်၍ ဗုဒ္ဓဘာသာနှင့်အတူ ရိုးရာနတ်ကိုပါ ကိုးကွယ်သူတို့စာရင်းကို ကောက်ယူမည်ဆိုလျှင် သန်း ၃၀-ကျော်ပင် ပြန်၍ ရရှိလာပါလိမ့်မည်။ အဘယ့်ကြောင့်ဆိုသော် ဗုဒ္ဓဘာသာကိုးကွယ်သူ ၉၀-ရာနှုန်းမှာ ရိုးရာနတ်တို့ကိုလည်း လက်မလွှတ်နိုင်ဘဲ ကိုးကွယ်နေကြသောကြောင့်ပေတည်း။

မှန်ပါသည်။ ယနေ့မြန်မာနိုင်ငံ ပြည်သူပြည်သားတို့သည် အဓိကအားဖြင့် ဗုဒ္ဓဘာသာကို ကိုးကွယ်ကြသည်။ သို့သော်လည်း ရိုးရာနတ်များကိုလည်း တစ်ဆင့်နိမ့်နေရာ၌ ထား၍ ကိုးကွယ်နေကြသည်။ ပူဇော်ပသနေကြသည်။ ဗုဒ္ဓဘာသာယုံကြည်မှုနှင့်အတူ နတ်ဝါဒယုံကြည်မှုကို တွဲဖက်ခံယူနေကြသည်။

နတ်ကိုးကွယ်သည့်အလုပ်မှာ မြန်မာပြည်၌သာမဟုတ်၊ အခြားနိုင်ငံများ၌လည်း မိမိတို့၏ရိုးရာနတ်များကို ကိုးကွယ်ပူဇော်နေကြသည်။ နတ်ကိုးကွယ်မှုသည် အလွန်အိုဟောင်းဆွေးမြေ့သော ခေတ်ကာလမှစ၍ယနေ့အထိတည်ရှိနေသော စိတ်ကူးယဉ် အယူဝါဒတစ်ခုဖြစ်သည်။

ရှေးဦးကမ္ဘာ့သမိုင်းကိုလေ့လာလျှင် ခေတ်အဆက်ဆက်၌ နတ်ဝါဒများ ကြီးစိုးလာခဲ့သည်ကို တွေ့ရ၏။ ရှေးခေတ်ဦး လူသားတို့သည် ကိုးကွယ်စရာ နတ်ရုပ်တု အဖြာဖြာတို့ကို စိတ်အတွေးဖြင့် ရှာဖွေဖော်ထုတ်ခဲ့ကြသည်။နတ်ဘာသာ

နတ်ဝါဒကို ဖော်ဆောင်ခဲ့ကြသည်။ ကမ္ဘာ့သမိုင်း၏ နတ်ဝါဒသမိုင်းချုပ်ကို ထုတ်နုတ်လေ့လာသင့်ပေသည်။

## ကိုးကွယ်မှု ထွန်းကားလာခြင်း

လွန်ခဲ့သောနှစ်ပေါင်း ၇၀၀၀(ဘီစီ-၅၀၀၀) ခန့်မှစ၍ လူသားတို့၏ ယဉ်ကျေးမှုများ တိုးတက်ပြောင်းလဲလာသည်။ စိုက်ပျိုးရေးလုပ်ငန်းများကို တွင်ကျယ်စွာ လုပ်ကိုင်လာကြသည်။ စိုက်ပျိုးရေးကိရိယာများကို တီထွင်ကြ သည်။ စိုက်ပျိုးရေးနှင့်ပတ်သက်၍လည်း အတွေးအမြင်များ ပေါ်ပေါက်လာသည်။

မြေကြီးသည် လူသားတို့၏ အာဟာရဖြည့်တင်းရေးအတွက် သီးနှံများကို ထုတ်လုပ်ပေးနေ၏။ ရေသည်လည်း သီးနှံဖြစ်ထွန်းမှုကို အားပေးနေ၏။ နေရောင်ခြည်သည်လည်း သီးနှံဖြစ်ထွန်းမှုကို အထောက်အကူပြုနေ၏။ ဤသဘောကို လူတို့ နားလည်လာကြသည်။ ထို့ကြောင့် သဘာဝပစ္စည်းများဖြစ်သော မြေ ရေ လေ နေစသော အရာဝတ္ထုတို့ကို လူသားတို့၏ ကျေးဇူးရှင်ကြီးများ ဟူ၍ သတ်မှတ်ခဲ့ကြသည်။

ကာလကြာသောအခါ မြေ ရေ စသော သဘာဝဓာတ်ကြီးများကို စွမ်းအားရှင်များ ဟူ၍ ယုံမှတ်လာကြသည်။ စွမ်းအားရှင်ကြီးများသည် လူတို့ အားထားရာ၊ ကိုးကွယ်ရာဟူ၍ ယုံကြည်လာကြသည်။ ဤသို့ဖြင့် မြေနတ်၊ ရေနတ်၊ လေနတ်၊ နေနတ်၊မီးနတ် စသော နတ်များ ပေါ်ပေါက်လာခဲ့သည်။ ထိုအချိန်က ကိုးကွယ်သောနတ်များမှာ သဘာဝရုပ်ပစ္စည်းများကို ကိုးကွယ်သောဘာသာဖြစ်၍ 'သဘာဝကိုးကွယ်မှုဘာသာ' (Nature Worship)ဟု ခေါ်သည်။

လူသားတို့သည် ကိုးကွယ်မှုခေတ်ဦး၌ သဘာဝရုပ်ပစ္စည်းများကိုအခြေခံ၍ ဘာသာဝါဒကို ထူထောင်ခဲ့ကြ၏။ ထိုမှတစ်ဆင့် သဘာဝလောကကို တွေးတောကြဆလာကြပြန်သည်။ ကမ္ဘာကြီးကိုလည်းကောင်း၊ ကမ္ဘာပေါ်ရှိ သက်ရှိသက်မဲ့ အရာမှန်သမျှကိုလည်းကောင်း တစ်စုံတစ်ဦးက ဖန်ဆင်းထားခြင်းဖြစ်မည်ဟု မမြင်မတွေ့နိုင်သော စွမ်းအားရှင်ကို ဖော်ထုတ်လာကြသည်။ ထိုစွမ်းအားရှင်၊ ဖန်ဆင်းရှင်သာလျှင် လူတို့၏ကျေးဇူးရှင်၊ လူတို့၏ကိုးကွယ်ရာဟူ၍ ယုံကြည်လာကြပြန်သည်။ ထိုဖန်ဆင်းရှင်သည် အစဉ်ထာဝရ တည်ရှိနေပြီး မပျက်စီးနိုင်သော အရာဖြစ်သည်ဟုလည်း ခံယူလာကြသည်။ ထိုအချိန်မှစ၍ လူ့ကမ္ဘာတွင် ဒြပ်မဲ့ အတွေးဖြင့် ဖန်တီးသော ဘာသာတစ်ရပ် ပေါ်ပေါက်လာပြန်လေသည်။

ဘီစီ ၃၀၀၀- ခန့်နောက်ပိုင်းတွင် လူ့ကမ္ဘာ၌ ဒြပ်ရှိ ဒြပ်မဲ့တို့ကို အခြေခံသော အတွေးဝါဒများ ထွန်းကားလာသည်။ အတွေးဝါဒကို အခြေခံ၍ အတွေးယဉ်ကျေးမှု

များ ထွန်းကားလာသည်။ အတွေးယဉ်ကျေးမှုကို အခြေခံသော အတတ်များ ပေါ်ပေါက်လာ၏။ အတွေးယဉ်ကျေးမှု မှတ်တိုင်ကြီးများအဖြစ် ကမ္ဘာကျော် နတ်ကွန်းကြီးများ ပေါ်ပေါက်လာလေသည်။

ခေတ်ဦးလူသားတို့သည် မိမိတို့၏ လူနေမှုစနစ်ကို နတ်ဘာသာရေးအမြင်ဖြင့် ဖန်တီးကြသည်။ အုပ်ချုပ်ရေးစနစ်ကိုလည်း နတ်ဝါဒဖြင့် ဖော်ဆောင်ကြသည်။ ထိုအခါ နတ်ဘာသာရေးဖြင့် အသက်မွေးသောဝန်ထမ်းများ ပေါ်ပေါက်လာသည်။ ထိုနတ်ဝန်ထမ်းတို့သည် မိမိတို့နတ်များ၏ တန်ခိုး က္ကန္ဒိပါဒ်တို့ကို ချဲ့မွမ်းပြောဟောကြသည်။ သဘာဝက ရှိနေသော ရုပ်ဝတ္ထုစွမ်းရည်တို့ကို နတ်က္ကန္ဒိပါဒ်အဖြစ် မြှင့်တင်ပေးကြသည်။

နတ်ကိုးကွယ်မှု ခေတ်စားလာချိန်တွင် စိတ်အတွေးဖြင့် မွေးထုတ်သော အတတ်ပညာများလည်း ထွန်းကားလာသည်။ မန္တန်အတတ်၊ ဗေဒင်အတတ်၊ နတ်ဟောအတတ်၊ မှော်အတတ်၊ယဇ်ပူဇော်ရေး စသည်တို့မှာ စိတ်အတွေးဖြင့် မွေးထုတ်ထားသော လုပ်ငန်းများဖြစ်သည်။

ကမ္ဘာ့သမိုင်းဦးက တီထွင်ထားသော နတ်များကို လေ့လာလျှင် သဘာဝ ရုပ်ပစ္စည်းများကိုသာ တွေ့ရမည်ဖြစ်၏။ ရုပ်ပစ္စည်းများသည် သဘာဝ အလျောက် ဖြစ်တည်နေသော အရာဝတ္ထုများသာဖြစ်၏။ အသက်ဝိညာဉ်ရှိသော သတ္တဝါများ မဟုတ်ပေ။

နောက်ပိုင်းခေတ်များတွင် သစ်ပင်၊ တော၊ တောင်၊ ကျောက်တုံး၊ မိုးကြိုး၊ မြစ်၊ ချောင်း စသော ရုပ်ဝတ္ထုအမြောက်အမြားကိုလည်း အသက်ဝိညာဉ်ရှိသည်ဟု ထင်မှတ်၍ ဆည်းကပ်ကိုးကွယ်လာကြသည်။

ကမ္ဘာ့သမိုင်းဦး ဘာသာဝါဒများကို လေ့လာသောအခါ-

(၁) ဒြပ်ရှိ ရုပ်ပစ္စည်းတို့ကို ကိုးကွယ်သောဝါဒ

(၂) ဒြပ်မဲ့ စိတ်ကူးယဉ်ဖန်ဆင်းရှင် ကိုးကွယ်သောဝါဒ

ဟူ၍ နှစ်မျိုးနှစ်စားကို တွေ့ကြရလေသည်။

ဤနှစ်မျိုးလုံးမှာ လူတို့၏ အာသာဆန္ဒအရ စိတ်အတွေးဖြင့် ဖန်တီးထားသော ကိုးကွယ်ရာဘာသာများဖြစ်သည်။

ကမ္ဘာ့သမိုင်းဦးတွင် ဤကဲ့သို့ စိတ်ကူးယဉ် အတွေးဘာသာတို့၏ မြစ်ဖျားခံရာ ဒေသတို့မှာ အီဂျစ်၊ မက်ဆိုပိုတေးမီးယားဒေသ၊ ဗေဗီလုန်နီးယား၊ အိန္ဒိယ၊ တရုတ်၊ ဂရိ၊ ရောမ စသည့် နိုင်ငံများဖြစ်သည်။

အထက်ပါဒေသများမှ ကိုးကွယ်မှုများမှာ နောင်အခါတွင် ကမ္ဘာတစ်ဝန်းသို့ ပျံ့နှံ့သွားသည်။ နိုင်ငံအချင်းချင်း ကူးသန်းရောင်းဝယ်ကြရာမှ ကိုးကွယ်မှု ဘာသာ

ယဉ်ကျေးမှုများလည်း ကူးရောက်သွားကြသည်။

ထိုကိုးကွယ်မှုများအနက် နတ်ကိုးကွယ်မှုများသည် မြန်မာနိုင်ငံသို့လည်း ကူးစက်ပျံ့နှံ့လာခဲ့သည်။ မြန်မာနိုင်ငံသို့ ရောက်ရှိလာသော နတ်များမှာ အများအားဖြင့် အိန္ဒိယနိုင်ငံမှ ဘင်သွင်းလာသော နတ်များဖြစ်ပေသည်။

## မြန်မာတို့ နတ်ကိုးကွယ်မှု

မြန်မာတို့သည် လွန်ခဲ့သောနှစ်ပေါင်း ၄၀၀၀(ဘီစီ ၂၀၀၀)ခန့်က မြန်မာနိုင်ငံတွင်းသို့ မရောက်လာကြသေး။ ထိုအချိန်က မြန်မာဟု ခေါ်တွင်လာမည့် လူမျိုးများသည် တရုတ်ပြည်အနောက်မြောက်ဒေသ၌ အခြေချနေကြသည်။ ထိုစဉ်က မြန်မာတို့၏ အမည်ကို 'ချံအဲန်'(Chang)ဟု ခေါ်သည်။

ချံအဲန်လူမျိုးတို့သည် အကြောင်းအမျိုးမျိုးကြောင့် ရွှေ့ပြောင်းလာခဲ့ကြရာ မြန်မာနိုင်ငံတွင်းသို့ အေဒီ ၅-ရာစု လောက်တွင် ဝင်ရောက်လာခဲ့ကြလေသည်။

ချံအဲန်တို့သည် မြန်မာနိုင်ငံ မြေပြန့်ဒေသသို့ မရောက်လာမီက နတ်ကိုးကွယ်မှု ဓလေ့များရှိခဲ့သည်ဟု သမိုင်းသုတေသီတို့က ဆိုကြ၏။ ချံအဲန်တို့ ကိုးကွယ်သော နတ်များမှာ အိမ်ထောင်စုနတ်၊ လယ်နတ်၊ တောင်ယာနတ်၊ တောနတ်၊ သစ်ပင်နတ်တို့ ဖြစ်သည်။ ထို့ပြင် သီးနှံဖွံ့ဖြိုးအောင် ပြုလုပ်သော နတ်များကို ယဇ်ပူဇော်သည့် အလေ့အထလည်း ရှိသည်ဟု ဆိုပါသည်။ မြန်မာတို့ ရှေးဦးကိုးကွယ်ခဲ့သော နတ်များမှာလည်း ရုပ်ပစ္စည်းတို့ကို ဝိညာဉ်ရှိသည် ထင်၍ ကိုးကွယ်ခြင်းများသာ ဖြစ်ပါသည်။

ချံအဲန်တို့သည် မြန်မာနိုင်ငံတွင်းသို့ ရောက်လာပြီးနောက် 'မြန်မာ' ဟူသော အမည်ကို ခံယူလိုက်ကြသည်။ မြန်မာတို့သည် မြေပြန့်ဒေသတွင် ပျူလူမျိုးတို့နှင့် ပေါင်းသင်းကြရသည်။ ပျူတို့ထံမှ ယဉ်ကျေးမှုများကို နည်းယူကြသည်။

ထိုအချိန်၌ ပျူလူမျိုးတို့သည် အဓိကအားဖြင့် ထေရဝါဒ ဗုဒ္ဓဘာသာကို ကိုးကွယ်ကြသော်လည်း ဟိန္ဒူဗြာဟ္မဏဘာသာ၊ မဟာယာနဘာသာ၊ နဂါးကိုးကွယ်မှုစသော အယူဝါဒများလည်း ရှိနေ၏။

မြန်မာတို့သည် ပျူနိုင်ငံတော်ကို လက်ပြောင်းအုပ်ချုပ်ကြရာတွင် ပျူလူမျိုးတို့ထံမှ ကိုးကွယ်ရာ ယဉ်ကျေးမှုများကိုလည်း ခံယူခဲ့ကြသည်။ ထိုအထဲတွင် နတ်ကိုးကွယ်မှုလည်း ပါဝင်လာခဲ့သည်။ ပျူတို့ထံမှ လက်ဆင့်ကမ်းကိုးကွယ်ကြသော နတ်များလည်း များပြားလှ၏။ ထိုအထဲတွင် သိကြားနတ်ကိုးကွယ်မှုသည် ရှေ့တန်းက ရှိနေလေသည်။

## သိကြားနတ် ကိုးကွယ်မှု

သိကြားနတ် ကိုးကွယ်မှုသည် အိန္ဒိယနိုင်ငံတွင် အထူးအရေးပါလှသည်။ သိကြားနတ်ကို သက္ကတဘာသာဖြင့် 'ဣန္ဒြ' ဟု ခေါ်၏။ ပါဠိဘာသာဖြင့် 'ဣန္ဒ' ဟု ခေါ်၏။ သို့သော်လည်း 'သက္က'ဟူသော ဝေါဟာရဖြင့် အသုံးများသည်။ သက္က ဝေါဟာကို မြန်မာတို့က 'သိကြား'ဟု ပြန်ဆိုခေါ်ဝေါ်ခဲ့ကြသည်။

ထိုသိကြားနတ်သည် ရှေးဟောင်းဗြာဟ္မဏကျမ်းများ၌သာမက ဗုဒ္ဓစာပေထဲ၌လည်း အခါမလပ်တွေ့ရှိနေရသော နတ်မင်းကြီးဖြစ်သည်။ ထိုနတ်ဖြစ်ပေါ်လာသော သမိုင်းကြောင်းကို လေ့လာသောအခါ အာရိယန်လူမျိုးတို့က စတင်ကိုးကွယ်လာကြောင်း တွေ့ရှိရ၏။ သိကြားမင်း ဖြစ်စဉ်ကား ဤသို့တည်း။

ဘီစီ ၂၀၀၀-ခန့်တွင် အရှေ့ဘက် အာရှတိုက်အလယ်ပိုင်းအထိ ကျယ်ပြန့်သော မြက်ခင်းဒေသများတွင် မယဉ်မရိုင်း လူမျိုးများ နေထိုင်ခဲ့ကြသည်။ ထိုလူမျိုးများသည် မူရင်းဒေသမှ အရပ်လေးမျက်နှာသို့ ခရီးဆန့်ကြရာ အချို့က အနောက်ဘက်၊ အချို့ကတောင်ဘက်၊ အချို့က အရှေ့ဘက်သို့ ဦးတည်လာခဲ့ကြ သည်။

အရှေ့ဘက်ဆီသို့ ဦးတည်လာခဲ့ကြသော လူမျိုးများသည် အိန္ဒိယနိုင်ငံ အနောက်မြောက်ဒေသရှိ ခိုင်ဘာတောင်ကြားလမ်းမှတစ်ဆင့် မြင်းရထားများဖြင့် ဝင်ရောက်လာကြသည်။ ထိုလူမျိုးများကို 'အာရိယန်'(Aryan) လူမျိုးဟု ခေါ်သည်။

အာရိယန်လူမျိုးတို့သည် အိန္ဒုမြစ်ဝှမ်းဒေသသို့ ရောက်ရှိလာပြီးနောက် ဒေသခံဖြစ်သော ဒရာဗိဒီယန်လူမျိုးတို့၏ နေရာများကို လုယက်တိုက်ခိုက်ကြသည်။ ဒရာဗိဒီယန်တို့သည် အာရိယန်တို့၏ တိုက်ခိုက်မှုကို တုံ့ပြန်တော်လှန်ခဲ့ကြသည်။ သို့သော်လည်း အာရိယန်တို့ကို မတွန်းလှန်နိုင်ကြ။ ထို့ကြောင့် အိန္ဒုမြစ်ဝှမ်းဒေသကို ပစ်ခွာ၍ ဂင်္ဂါမြစ်ဝှမ်းဒေသသို့ ပြောင်းရွှေ့သွားကြရသည်။ ဤတွင် အိန္ဒုမြစ်ဝှမ်းနယ်မြေကို အာရိယန်တို့က စိုးမိုးအုပ်ချုပ်ကြလေသည်။

အာရိယန်တို့သည် အိန္ဒုမြစ်ဝှမ်းသို့ မရောက်မီကပင် နတ်ကိုးကွယ်မှုများ ပါရှိလာခဲ့သည်။ ယင်းတို့၏ အဓိက ကိုးကွယ်ရာမှာ ဣန္ဒခေါ် သိကြားနတ်ဖြစ်သည်။ ဣန္ဒနတ်သည် ဝရဇိန်လက်နက်ခေါ် မိုးကြိုးလက်နက်ကို ကိုင်ဆောင်သူဖြစ်သည်။

ရှေးဦးအာရိယန်လူမျိုးတို့သည် မိုးကြိုးပစ်ခြင်းကို အလွန်ကြောက်ရွံ့သလို အလွန်လည်း အံ့သြကြသည်။ မိုးကြိုးပစ်ခြင်းသည် အလွန်စွမ်းရည်ပြင်းထန်သော နတ်ကြီး၏ တန်ခိုးအာနုဘော်ကြောင့် ဖြစ်သည်ဟု ယုံကြည်ကြ၏။ ထို့ကြောင့် မိုးကြိုးလက်နက် ပိုင်ရှင်ကြီးကို ဣန္ဒြ (ဣန္ဒ) သိကြားနတ်ဟူ၍ ခေါ်ဝေါ်လျက် ကိုးကွယ်ခဲ့ကြသည်။

အိန္ဒုမြစ်ဝှမ်းသို့ ရောက်ရှိလာသောအခါ မိုးကြိုးလက်နက်ပိုင်ရှင် သိကြားနတ်

ကြီးသည် နတ်အားလုံးတို့၏ ဘုရင်ဖြစ်လာသည်။ အခြားနတ်များထက် တန်ခိုးကြွဒ္ဓိပါဒ်ကို မြှင့်တင်ပေးကြသည်။ သိကြားဖြစ်ရပ် အတ္ထုပ္ပတ္တိကို ချဲ့မွမ်းရေးသားလာကြ၏။ ပါဠိ၊ အဘိဓာန်နှင့် ဋီကာကျမ်းတို့၌ သိကြားနတ်၏ ဂုဏ်ပုဒ်ကို ၃၇-ပုဒ်မျှ ထုတ်ပြထားသည်။

နောင်အခါ၌ အာရိယန်တို့သည် သိကြားနတ်ကို ဘာသာရေးလောကထဲသို့ သွတ်သွင်းပြီးလျှင် အဓိကနေရာ၌ ထားရှိကြသည်။ ဤကဲ့သို့ သိကြားနတ်သည် အာရိယန်လူမျိုးတို့ ကိုးကွယ်သော နတ်ကြီး ၃၃-ပါးတွင် အကြီးဆုံးသော နတ်ကြီးအဖြစ် ရှေ့တန်း၌ ထားရှိကြ၏။

အိန္ဒိယနိုင်ငံ၌ နတ်ကိုးကွယ်မှု ထွန်းကားလာချိန်တွင် လူတို့သည် မိမိတို့ကိုယ်ကို နတ်မျိုးနတ်နွယ်ဖြစ်သူ၊ နတ်ကိုးကွယ်သူအဖြစ် ဂုဏ်ယူပြောဆိုလာကြသည်။ နတ်တို့နှင့် ဆွေမျိုးစပ်လာကြသည်။ မိမိတို့ကိုယ်ကို နတ်ကမွေးဖွားလာသူ 'နတ်သား' (ဒေဝပုတ္တ)ဟူ၍ ဂုဏ်ယူပြောဆိုကြသည်။ နောင်အခါတွင် အိန္ဒိယနိုင်ငံ၌ အုပ်ချုပ်မင်းလုပ်သော ကနိသျှကမင်း သည် 'ဒေဝပုတ္တ' (နတ်သား) ဟူသော ဘွဲ့ကို ခံယူခဲ့ဖူးလေသည်။

ဗုဒ္ဓဘုရား၏ သာသနာ့ဝန်ထမ်း ရဟန်းတော်တို့ကို 'ဘုရားသားတော်' ဟု ဂုဏ်ယူ၍ ခေါ်ဆိုခဲ့ကြသည်။ နတ်ကိုးကွယ်သူတို့ကလည်း မိမိကိုယ်ကို 'နတ်သား' ဟု ခေါ်ကြသည်မှာ အဆန်းမဟုတ်တော့ချေ။

နတ်သမိုင်းထဲမှ သိကြားနတ်မင်း ဖြစ်စဉ်ကို လေ့လာရာ၌ ထိုနတ်သည်လည်း သမိုင်းဦးက ကိုးကွယ်ကြသော သဘာဝကိုးကွယ်မှုဘာသာမှ မွေးထုတ်ထားသော အယူအဆဖြစ်ကြောင်း တွေ့ရပြီ။ သိကြားနတ်မှာ လျှပ်စစ်ဓာတ်ကြောင့် မိုးကြိုးပစ်တတ်သော သဘာဝကို နတ်အဖြစ် ကိုးကွယ်ခဲ့ကြခြင်း ဖြစ်ပေသည်။

သိကြားနတ် ကိုးကွယ်မှုသည် မြန်မာနိုင်ငံသို့ သရေခေတ္တရာခေတ်ကပင် ကူးရောက်လာခဲ့သည်။ ပျူတို့လက်မှ မြန်မာတို့က လက်ဆင့်ကမ်းကိုးကွယ်ခဲ့ခြင်း ဖြစ်သည်။

မြန်မာ့ရှေးဦးရာဇဝင်တို့ကို လေ့လာလျှင်လည်း သိကြားမင်းကို နေရာခပ်များများ၌ တွေ့ရသည်။ သရေခေတ္တရာပြည် တည်ရာတွင်လည်း သိကြားမင်းပါသည်။ ပျူစောထီးမင်း နန်းတက်ရာတွင်လည်း သိကြားမင်းက လက်ဝဲလက်ကို မ ၍ နန်းတင်သည်ဟု ဆို၏။ ဤနေရာ၌ သိကြားမင်းဆိုသည်မှာ အမတ်တစ်ဦးက

သီကြားမင်း အဝတ်တန်ဆာတို့ကို ဝတ်ဆင်၍ နန်းတင်ခြင်းဖြစ်ကြောင်း ရာဇဝံသဇာလိနီကျမ်းဆရာက ကောက်ချက်ချပြထားရာ သဘာဝကျသော ရာဇဝင်ဟာသ တစ်ပုဒ် ဖြစ်ပါ၏။

## သူရဿတီနတ် ကိုးကွယ်မှု

ရှေးဦးအာရိယန်တို့သည် အိန္ဒိယအနောက်မြောက်ဒေသကို စိုးမိုးနေစဉ် ယဉ်ကျေးမှုအတွေးအမြင်သစ်များကို ဖော်ထုတ်ကြသည်။ ဘာသာရေး၏ အခြေခံဖြစ်လာမည့် ကိုးကွယ်မှုဆိုင်ရာ စာပေများကို ရေးသားပြုစုကြသည်။ ထိုစာပေများကို ဗေဒကျမ်းဟူ၍ ခေါ်ဆိုကြ၏။

ဗေဒကျမ်းများ ပေါ်ပေါက်ခဲ့ရာဒေသကား ဂျမ္ဗုနား (ယမုနာ)မြစ်နှင့် ဆတ္တလက်မြစ် အကြားရှိ ဆရဿတီမြစ်ညာဒေသဖြစ်သည်။ ဆရဿတီမြစ်သည် ရှေးဦးအာရိယန်တို့အတွက် အကျိုးရှိသော မြစ်ဖြစ်၏။ အာရိယန်တို့သည် ခေတ်ဦးဓလေ့အရ မိမိတို့အတွက် အကျိုးပြုနေသော ဆရဿတီမြစ်ကိုလည်း ကိုးကွယ်ရာအဖြစ် သတ်မှတ်ခဲ့ကြသည်။

မြန်မာနိုင်ငံသားတို့သည် ဧရာဝတီမြစ်ကို မိမိတို့အား ကျေးဇူးပြုနေသောကြောင့် 'အမိဧရာဝတီ' ဟု ခေါ်သကဲ့သို့ အာရိယန်တို့ကလည်း မိမိတို့၏မြစ်ကို 'အမိဆရဿတီ' ဟု တင်စား၍ ခေါ်ဆိုခဲ့ကြသည်။ထိုမှတစ်ဆင့် ကိုးကွယ်မှုအသွင်ပြောင်းလာသောအခါ၌လည်း ဆရဿတီသည် နတ်မိမယ်တစ်ဦး ဖြစ်လာရလေသည်။

ဟိန္ဒူတို့က ဂင်္ဂါမြစ်ကို အထွတ်အမြတ် ထားကြသကဲ့သို့ အာရိယန်တို့က ဆရဿတီမြစ်ကို အလေးအမြတ်ထား၍ ပူဇော်ကြ၏။ ဆရဿတီမြစ်ကမ်းနဖူး၌ ပူဇော်ပွဲများပြုလုပ်၍ ဂါထာဝဇ္ဇတို့ဖြင့် ဖွဲ့ဆိုပူဇော်ခြင်း၊ တေးသီချင်းများ သီကုံးရွတ်ဆိုခြင်း၊ လိုရာဆုကို တောင်းခြင်းစသော အခမ်းအနားများကို ပြုလုပ်ကြသည်။

ဝေဒခေတ်ရောက်လျှင် ဆရဿတီနတ်သမီးကို မြစ်နတ်သမီးအဖြစ်သာမကဘဲ နှုတ်ကိုစောင့်သော နတ်သမီး၊ ပီယဝါစာစကားကို ပြောဆိုတတ်သော နတ်သမီးအဖြစ် ယုံကြည်လာကြပြန်သည်။

ဆရဿတီနတ်သမီး တန်ခိုးကြီးလာသဖြင့် ယင်းနတ်နှင့်ပတ်သက်သော တန်ခိုးကို ဖွဲ့ဆိုသည့်စာပေများ အမြောက်အမြား ရှိလာသည်။ တန်ခိုးအမျိုးမျိုးကို မြှင့်တင်ဖွဲ့ဆိုကြသည်။

ရိဂ်ဝေဒကျမ်း၌ ဆရဿတီနတ်သမီးသည် နေ လ သမုဒ္ဒရာနှင့် လောကကြီး

တစ်ခုလုံးကို စောင့်ကြပ်သူဖြစ်သည်။ သူ့အား ကိုးကွယ်သူတို့ကို ဆင်းရဲကင်းအောင် ပြုသည်။ ချမ်းသာသွားအောင် စောင့်ရှောက်သည်။ ပညာဟူသမျှကို အစိုးရသူ ဖြစ်သည်။ အပူဇော်ခံသူ နတ်များတွင် အမြတ်ဆုံးဖြစ်သည်။ သတ္တဝါမှန်သမျှကို အမြဲစောင့်ကြပ်နေသဖြင့် နတ်တိုင်းက လေးစားရသူဖြစ်သည်ဟု ဆို၏။

ဆရဆွတီနတ်သမီးကိုးကွယ်မှုသည် နောင်အခါတွင် ဟိန္ဒူဘာသာတွင်းသို့ ဝင်ရောက်လာသည်။ ဟိန္ဒူတို့၏ လက်ထဲရောက်လာသောအခါ တန်ခိုးသစ်များကို ဖန်တီးပေးကြပြန်သည်။ နတ်သမီးသည် နှုတ်ထွက်စကားကိုသာမကဘဲ အတတ်ပညာအားလုံးကို စောင့်ကြပ်သောနတ်သမီး၊ တူရိယာ၊ ကဗျာနှင့် စာပေပညာကို အစိုးရသူ၊ သက္ကတဘာသာကို တီထွင်သူနတ်သမီးဟူ၍ ယုံကြည်လာကြပြန်သည်။ ယုံကြည်မှု တိုးများလာသလောက် ကိုးကွယ်သူလည်း များပြားလာသည်။ ရုပ်တု၊ ရုပ်ပွားများ ထုလုပ်ကိုးကွယ်လျှင် လိုရာသိဒ္ဓိပြီးမြောက်မည်ဟု အထင်ရှိ၍ ရုပ်တုများ ထုလုပ်၍ ကိုးကွယ်ခဲ့ကြသည်။

ဆရဆွတီကိုးကွယ်မှုသည် နောင်အခါတွင် ဗုဒ္ဓဘာသာတွင်းသို့လည်း ရောက်ရှိလာသည်။ ဗုဒ္ဓဘာသာဝင်တို့က ပါဠိဘာသာဖြင့် 'သူရဿတီ' ဟု ခေါ်ကြသည်။ ဗုဒ္ဓဘာသာထဲသို့ သူရဿတီကိုးကွယ်မှု ဝေဒနာ ရောက်ရှိလာသောအခါ၌ သူရဿတီဒေဝီမယ်သည် ပိဋကတ် ၃-ပုံကိုစောင့်ရှောက်သော နတ်သမီးဟူ၍ တန်ခိုးသစ်တစ်မျိုးကို တိုး၍ ဖန်တီး ပေးကြပြန်သည်။ ထို့ကြောင့် နတ်ရုပ်ပုံကို ထုလုပ်ရာတွင် လက်ထဲ၌ ပိဋကတ်စာအုပ်များကို ကိုင်ဆောင်၍ ထုလုပ်ကြသည်။

သူရဿတီသည် ဝေဒခေတ်မှ ဟိန္ဒူခေတ်၊ ဗုဒ္ဓဘာသာခေတ်အထိ တန်ခိုးကြီးသော၊ ဂုဏ်ကြီးသော နတ်မိမယ်တစ်ဦးဖြစ်နေသည်။ လောက၌ ဂုဏ်ကြီးသူတို့နှင့် ဆွေမျိုးတော်စပ်ရလျှင် ဂုဏ်ယူ၍ပြောကြသကဲ့သို့ ဂုဏ်ကြီး သော သူရဿတီနှင့် ဆွေမျိုးစပ်၍ ဂုဏ်ယူခဲ့ကြသော စာပေများလည်း ပေါ်ပေါက်လာသည်။ သူရဿတီနှင့် ဆွေမျိုးစပ်သော ပုံပြင်ဇာတ်လမ်းတို့ကို တီထွင်ရေးသားကြသည်။

သူရဿတီမယ်တော်သည် မဟာမုနိရသေ့ကြီးနှင့် သမုဒ္ဒနတ်မိဖုရားတို့က မွေးဖွားထားကြောင်း၊ ပထမတွင် သမုဒ္ဒရာ၌နေပြီး နောက်ပိုင်းတွင် သမုဒ္ဒရာမှတစ်ဆင့် ဟိမဝန္တာတောင်ထွတ်တစ်ခုဖြစ်သည့် ကေလာသတောင်သို့ ဟင်္သာယာဉ်စီး၍ ပြောင်းရွှေ့သွားကြောင်း၊ ဟင်္သာယာဉ်ဖြင့် စီးသွားစဉ် သူ့ကိုယ်မှ ကျလာသော ရေစက်ရေပေါက်များမှာ မြစ်တစ်မြစ်ဖြစ်သွားကြောင်း၊ ထိုမြစ်ကို သူရဿတီမြစ်ဟု ခေါ်ကြောင်း ရေးသားပြ

ကြသည်။ ဤဇာတ်လမ်းမှာ 'ရသေ့တို့လက်ရာ ပုံပြင်စာ'ဟု ဆိုနိုင်သည်။ ရသေ့တို့သည် သူရဿတီကို မွေးထုတ်ခဲ့သော ဖခင်အဖြစ် ဆွေမျိုးစပ်ထားခဲ့သည်။

ဗြာဟ္မဏပူရာဏ်ကျမ်းတွင်မူ ဗြဟ္မာကြီးသည် မိမိကိုယ်မှ စင်ကြယ်သော သွေးဖြင့် အမျိုးသမီးတစ်ဦးကို ဖန်ဆင်းခဲ့သည်။ ထိုအမျိုးသမီးမှာ သူရဿတီပင်ဖြစ်သည်။ သူရဿတီသည် အစပိုင်းက ဗြဟ္မာကြီး၏ သမီးဖြစ်သော်လည်း နောက်ပိုင်းတွင် ဗြဟ္မာကြီးကပင် ပြန်လည်သိမ်းပိုက်လိုက်သောကြောင့် ဗြဟ္မာ့ဇနီးဖြစ်သွားရပြန်သည်။ ဟိန္ဒူတို့သည် သူရဿတီအား နည်းအမျိုးမျိုးဖြင့် ဆွေမျိုးစပ်ကာ ဂုဏ်ယူဝင့်ကြွားခဲ့ကြလေသည်။

ဟိန္ဒူတို့ ယုံကြည်ကိုးကွယ်မှုဖြစ်သော သူရဿတီကိုးကွယ်မှုသည် ယခုချိန်တွင် နီပေါနိုင်ငံ၌လည်း ယုံကြည်ကိုးကွယ်လျက်ရှိကြ၏။ နီပေါတွင် နှစ်စဉ် သူရဿတီနတ်သမီးအား ပူဇော်သည့် ပွဲတော်ရက်ကို တစ်ရက် သတ်မှတ်ထားသည်။

မြန်မာနိုင်ငံသားတို့သည်လည်း သူရဿတီကိုးကွယ်မှုကို ဟိန္ဒူတို့ ယုံကြည်သည့်အတိုင်းပင် မိတ္တူကူး၍ လက်ခံယုံကြည်ကြသည်။ ပုံတော်ပုံရုပ်များ ထုလုပ်ရိုက်နှိပ်၍ ကိုးကွယ်ကြသည်။ ဂုဏ်ပုဒ်ဂါထာ အဖြာဖြာတို့ဖြင့် ရွတ်ပွားပူဇော်ကြသည်။ သူရဿတီကို မြန်မာနိုင်ငံသားတို့က အတွင်း ၃၇-မင်းခေါ် နတ်စာရင်း၌ ထည့်သွင်းထားကြသည်။

မြစ်တစ်မြစ်၏ နာမည်ကို နတ်အသွင် ယုံမှတ်၍ ဆည်းကပ်ကိုးကွယ်လာရာမှထင်ပေါ်ကျော်ကြားလာသော သူရဿတီနတ်သမီး၏ရုပ်ပုံလွှာများသည် မြန်မာပြည်ရှိ အချို့အိမ်များ၌ တန်ခိုးထွားကာ ဝင့်ကြွားနေလေသည်။

## ကွမ်ယင်မယ်တော် ကိုးကွယ်မှု

ကွမ်ယင်မယ်တော်သည် အတွင်း ၃၇-မင်း၊ အပြင် ၃၇-မင်းနတ်စာရင်း၌ မပါ။ ရှေးခေတ်က ကိုးကွယ်သော အပိုနတ်စာရင်းထဲ၌လည်း မရှိ၊ မကြာမီကပင် မြန်မာနိုင်ငံသို့ ရောက်ရှိလာသော တရုတ်ပြည်၏ သွင်းကုန်နတ်တစ်ဦး ဖြစ်သည်။

ကွမ်ယင် (Kwan Yin)ကို ဂျပန်ဘာသာဖြင့် ခမ်နွန်ဟု ခေါ်သည်။ ကွမ်ယင်မယ်တော်ဆိုသော နတ်သည် မဟာယာနဂိုဏ်းကြီးမှ အဓိကထား၍ ကိုးကွယ်သော အဝလောကိတေသရ ဘုရားလောင်းမှ ဆင့်ပွားယူထားသော နတ်ဖြစ်သည်။ အဝလောကိတေသရသည် မူလက ပုရိသလိင်ဖြစ်သော နတ်တစ်ပါးဖြစ်သည်။ အေဒီ ၈-ရာစုနောက်ပိုင်းရောက်မှ ဣတ္ထိလိင် အသွင်ပြောင်း၍ ကိုးကွယ်ကြခြင်းဖြစ်သည်ဟု အချို့က ဆို၏။

ကွမ်ယင်ဖြစ်ပေါ်လာပုံကို အမျိုးမျိုး ရေးသားပြောဆိုကြသည်။ မဟာယာန ဂိုဏ်းသားတို့သည် ဟိန္ဒူတန္တရဂိုဏ်းကို အတုယူ၍ မဟာယာနတန္တရဂိုဏ်းကို ထူထောင်ကြသည်။ ဟိန္ဒူတန္တရဂိုဏ်းတွင် ဒေဝီနတ်မယ် အသွယ်သွယ်ကို ဖန်တီးထားသကဲ့သို့ မဟာယာနတန္တရဂိုဏ်းကလည်း ဒေဝီနတ်ပွား အစားစားကို ဖန်တီးကြသည်။

မဟာယာနမှ အဝလောကိတေသရ ဘုရားလောင်းကိုလည်း ကြင်ရာတော်အဖြစ် ပညာပါရမိတာနတ်မယားကို မွေးဖွားပေးလိုက်သည်။ ဤနတ်သမီးမှာ ဘုန်းကြီးများသာ ကိုးကွယ်ခွင့်ရကြသည်။ ထို့ကြောင့် သာမန်လူဝတ်ကြောင်များ ကိုးကွယ်ရန် အတွက် မဟာစိန တာရာဒေဝီ နတ်သမီးကို တီထွင်ပေးကြရပြန်သည်။ ထိုစိနတာရာနတ်သမီးကို တရုတ်လို ကွမ်ယင်ဟု ခေါ်သော အဝလောကိတေသရ၏ မျက်ရည်မှဖြစ်သော ကြာပွင့်မှ ဖွားမြင်ခဲ့သည်ဟုလည်း အဆိုရှိ၏။ ထိုစိနတာရာ ဒေဝီကိုပင် ကွမ်ယင်မယ်တော်အဖြစ် ထုလုပ်ကိုးကွယ်ခဲ့ကြသည်ဟုလည်း ဆိုသည်။

အချို့ကလည်း ကွမ်ယင်ကို အဝလောကိတေသရအဖြစ် ပုရိသလိင်နှင့် ရှိစဉ်က အမျိုးသမီးများ ကိုးကွယ်ခွင့်မရခဲ့ကြ။ ထို့ကြောင့် အဝလောဟိတေသရကိုပင် ဣတ္ထိလိင်အသွင်ပြောင်း၍ ကိုးကွယ်ခဲ့ကြသည်ဟု ဆိုပြန်သည်။

ကွမ်ယင်မယ်တော်သည် လောကသားများအပေါ်၌ သားသမီးကဲ့သို့ မေတ္တာကရုဏာမျိုးဖြင့် ကယ်တင်စောင့်ရှောက်တတ်သည်ဟု အယူရှိကြသည်။ ကွမ်ယင်နှင့်ပတ်သက်၍ ဒဏ္ဍာရီဇာတ်လမ်း ခပ်ဆန်းဆန်းများလည်း များစွာရှိသည်။

ပညာပါရမိတာနတ်သမီး၊ စိနတာရာဒေဝီ၊ ကွမ်ယင်မယ်တော်စသော အမည်အမျိုးမျိုးတို့၏ အခြေခံမှာ အဝလောကိဘေသရ ဘုရားလောင်းပင်ဖြစ်သည်။ အဝလောကိတေသရမှ ပေါက်ပွားသော စိတ္တဇရုပ်ပွား ဒေဝီများသာတည်း။

အဝလောကိတေသရ ကိုးကွယ်မှုသည် မြန်မာနိုင်ငံသို့ သရေခေတ္တရာခေတ်ကပင် ရောက်ရှိခဲ့ဖူးပြီဖြစ်သည်။ ထိုစဉ်က အဝလောကိတေသရမှာ ပုဆိုးဝတ်ဖြင့် လာရောက်ကိုးကွယ်ခံခဲ့၏။ ကွမ်ယင်မယ်တော်ဆိုသူကား တရုတ်ပြည်ဘက်မှလှည့်၍ ထဘီဝတ်ဖြင့် ပြန်လည်ဝင်ရောက်လာခြင်းသာ ဖြစ်လေသည်။

## ဗြဟ်နတ် ကိုးကွယ်မှု

ဗြဟ်နတ်ကိုးကွယ်မှုသည် မြန်မာနိုင်ငံသို့ အိန္ဒိယမှပင် ရောက်ရှိလာခဲ့သည်။ ထိုဗြဟ်နတ်ကိုးကွယ်မှု၏ မြစ်ဖျားခံရာဒေသမှာ အိန္ဒိယနိုင်ငံမဟုတ်ပေ။ ကမ္ဘာ့

အစောဆုံး ဂြိုဟ်ကိုးကွယ်မှုကို ဗေဗီလုန်နီးယားခေတ်မှစ၍ တွေ့ရှိရသည်။

အနည်းငယ်ရှင်းပါဦးမည်။

မက်ဆိုပိုတေးမီးယားဒေသတွင် အခြေချနေကြသော ဆုမာရီယန်လူမျိုးတို့သည် အချင်းချင်းစစ်ပြိုင်တိုက်ခိုက်ကြသောကြောင့် ဘီစီ ၃၀၀၀-ခန့်မှ နောက်ပိုင်းတွင် တဖြည်းဖြည်း တိမ်ကောလာခဲ့သည်။

ထို့နောက် မက်ဆိုပိုတေးမီးယားဒေသသည် ဆီးမိုက်အနွယ်ဝင် မောရိတလူမျိုးတို့၏လက်အောက်သို့ ကျရောက်ခဲ့ရသည်။ ထိုလူမျိုးတို့သည် ဗေဗီလုန်နီးယားမြို့တော်ကို တည်ဆောက်ခဲ့ကြ၏။ ယင်းမြို့တော်ကို အစွဲပြု၍ ဗေဗီလုန်နီးယားလူမျိုးဟု ခေါ်တွင်လာကြသည်။

ဗေဗီလုန်လူမျိုးတို့သည် ဆူမာရီယန်ယဉ်ကျေးမှုမှ နတ်များကို ဆက်လက်ကိုးကွယ်ကြသည်။ ထိုလူမျိုးတို့သည် ကောင်းကင်မှ ဂြိုဟ်အနေအထားတို့ကိုကြည့်၍ အနာဂတ်ကို ဟောပြောကြသည်။ ကောင်းကင်ရှိ အင်္ဂါ၊ ဗုဒ္ဓဟူး၊ ကြာသပတေး၊ သောကြာ၊ စနေ ဟူသော ဂြိုဟ်ကြီး ၅-လုံးတို့သည် လူသားတို့၏ အနာဂတ်ကံကြမ္မာကို လွှမ်းမိုးနိုင်သည်ဟု ယူဆခဲ့ကြသည်။ ထို့ကြောင့် ဂြိုဟ်ကြီး ၅-လုံးကို ဘုရားကြီး ၅-ဆူအဖြစ် သတ်မှတ်၍ ပူဇော်ကိုးကွယ်ခဲ့ကြသည်။

ကမ္ဘာ့လူသားတို့ သုံးစွဲနေသော နေ့အမည်များမှာ ၎င်းတို့၏အယူအဆမှပင် ပေါက်ဖွားခဲ့ပေသည်။

ဖော်ပြပါ ဂြိုဟ်ကြီး ၅-လုံးထဲသို့ နေနှင့်လ နှစ်ပါးကို ပေါင်းထည့်သောအခါ ခုနစ်ပါးဖြစ်လာသည်။ ထိုခုနစ်ပါးကို ရှိခိုးပူဇော်သော အလေ့အထသည် ဆီးရီးယားသို့ ကူးရောက်သွားသောအခါ တစ်နေ့လျှင် ဘုရားတစ်ဆူကျ ကိုးကွယ်သောဓလေ့ပေါ် ပေါက်လာခဲ့သည်။

ထိုဘုရား ၇-ဆူကို ရှိခိုးရာတွင် ၇-ရက်စေ့တိုင်း တစ်ပတ်လည်သဖြင့် နောင်အခါ၌ ဂြိုဟ်နတ်အမည်များသည်ပင် နေ့နာမည်များ ဖြစ်လာ၏။ နေနတ်ဘုရား ပူဇော်သည့်နေ့ကို နေနေ့ (တနင်္ဂနွေနေ့)။ လ နတ်ဘုရား ပူဇော်သည့်နေ့ကို လနေ့ (တနင်္လာနေ့) စသည်ဖြင့် အသီးသီးခေါ်ဝေါ်ခဲ့ကြလေသည်။

ဤအယူအဆသည် အိန္ဒိယသို့ ရောက်ရှိပြန့်ပွားလာ၏။ အိန္ဒိယရောက်ချိန်တွင် ဂြိုဟ်တို့၏ ဗ္ဗဒ္ဒိပါဒ်ကို မြှင့်တင်ထားကြပြီ။ ဂြိုဟ်နတ်တို့ကို အရပ် ၈-မျက်နှာ၌ နေရာချထား၍ အပိုင်စားပေးထားကြသည်။ စိတ်ကူးယဉ် ဖြစ်စဉ်တို့ကို တီထွင်ထားကြသည်။

အိန္ဒိယက ပြုပြင်ထုတ်လုပ်လိုက်သော ဂြိုဟ်နတ်များမှာ ၉-ခုမျှရှိသည်။ တနင်္ဂနွေဂြိုဟ်၊ တနင်္လာ၊ အင်္ဂါ၊ ဗုဒ္ဓဟူး၊ ကြာသပတေး၊ သောကြာ၊ စနေ၊ ရာဟု၊

ကိတ်ဂြိုဟ်တို့ ဖြစ်သည်။ ထိုအထဲတွင် ကိတ်ဂြိုဟ်ဆိုသည်မှာ အတိတ်နိမိတ်စွဲ လက္ခဏာကို ခေါ်ဆိုထားသော အမည်ဖြစ်သည်။ ယင်းကိတ်မှာ ၃-မျိုးပြား၏။

(၁) မြေပြင်ကိတ်။ ။ မြေပေါ်မှ အခိုးအလျှံထွက်ခြင်း၊ အရောင်အဝါပြခြင်း စသည်ကို ခေါ်သည်။

(၂) အန္တရကိတ် ။ ။ မြို့ပြ၊ဂူ၊ကျောင်း၊ စုလစ်မွမ်းချွန်၊သစ်ပင်တို့မှ ဖြစ်သော နိမိတ်ကို ခေါ်သည်။

(၃) ကောင်းကင်ကိတ်။ ။ ကောင်းကင်မှ ဥက္ကာကျခြင်း၊ လကြတ်ခြင်း၊ တိမ်တံခွန်-ကြယ်တံခွန် စသော နိမိတ်တို့ကို ခေါ်သည်။

ထိုအတိတ်နိမိတ်တို့ကလည်း လူသားတို့၏ ဘဝကြမ္မာအပြောင်းအလဲကို ဖြစ်စေတတ်သည်ဟု ယုံကြည်ထင်မှတ်ခဲ့ကြသည်။ လူတို့သည် ဂြိုဟ်နတ်များ ချစ်ခင်စေရန်၊ ကြမ္မာကောင်းများ ဖြစ်ပေါ်စေရန်အတွက် ဂြိုဟ်နတ် ၉-ဦးကို ပူဇော်ကြသည်။

ထိုဂြိုဟ်ကြီး ၉-လုံး ပူဇော်မှုအလေ့သည် အိန္ဒိယမှတစ်ဆင့် မြန်မာနိုင်ငံသို့ ရောက်ရှိခဲ့သည်။ မြန်မာတို့၏ ဂြိုဟ်ကြီး ၉-လုံးပူဇော်ပွဲတွင် ဘုရားနှင့် ရဟန္တာ ၈-ပါးတို့ကို ပူးတွဲထည့်သွင်းထားကြ၏။ ဗုဒ္ဓဘာသာနှင့် လိုက်ဖက်စေရန် ဖန်တီးထားခြင်း ဖြစ်သည်။ ထို့ကြောင့် မြန်မာတို့က 'ကိုးဆူဆွမ်းကပ်' ဟုလည်း ခေါ်ကြသည်။ အချို့က 'ဂြိုဟ်စာကျွေးပွဲ' ဟုလည်း ခေါ်ကြသည်။

ဤဘုရားကိုးဆူဆွမ်းကပ်ပွဲဓလေ့မှာ မြန်မာတို့က တီထွင်ထားခြင်းမဟုတ်၊ ထိုင်းနိုင်ငံ ဇင်းမယ်မှတစ်ဆင့် ကူးပြန့်လာသည်ဟု ဆိုလေသည်။

မြန်မာနိုင်ငံရှိ အချို့ဘုရားပုထိုးများတွင် ဘုရားနှင့်တွဲ၍လည်းကောင်း၊ ဘုရားဝင်းအတွင်း၌လည်းကောင်း ဂြိုဟ်ရုပ်၊ ဂြိုဟ်တိုင်များကို ပြုလုပ်လေ့ရှိကြသည်။ တစ်ချိန်ကဆိုလျှင် ဗုဒ္ဓဘာသာဂုဏ်ဆောင်၊ မြန်မာနိုင်ငံဂုဏ်ဆောင်ဖြစ်သော ရွှေတိဂုံစေတီတော်ကြီး ခြေတော်ရင်းမှာပင် ဂြိုဟ်ရုပ်ကြီးများကို တည်ထားခဲ့ကြဖူးသည်။ ဗုဒ္ဓဘာသာကို အကျည်းတန်စေသော သရုပ်ပြမြင်ကွင်းများ ဖြစ်ခဲ့ပေသည်။

ကောင်းကင်ရှိ ဂြိုဟ်များသည် လူ့ကမ္ဘာနှင့် လူသားတို့အား အဆိုးအကောင်းကို ပြုလုပ်ပေးနိုင်သလောဟူသော ပုစ္ဆာကို ယနေ့သိပ္ပံပညာရှင်တို့ လေ့လာနေကြဆဲဖြစ်သည်။

ရှေးခေတ်က ခံယူခဲ့သော ဂြိုဟ်နှင့်ပတ်သက်သည့် အယူအဆများမှာ အနုမာနအားဖြင့် ရမ်းဆကိုးကွယ်ခြင်းမျှသာ ဖြစ်ပါသည်။ ဂြိုဟ်နှင့်ပတ်သက်သော ယဉ်ကျေးမှုများမှာလည်း စိတ်အတွေးဖြင့် မွေးထုတ်ထားသော ဒဏ္ဍာရီသရုပ်များသာ ဖြစ်လေသည်။

## နတ်ကြီး ၅-ပါးနှင့် ဒေဝီ ၂၁-ပါး

မြန်မာပြည်တွင် အချို့ပုဂ္ဂိုလ်တို့သည် နတ်ကြီး ၅-ပါးနှင့် ဒေဝီ ၂၁-ပါး တို့ကိုလည်း ကိုးကွယ်ကြသည်။ ထိုနတ်များမှာလည်း အများအားဖြင့် အိန္ဒိယ ပြည်သား နတ်များဖြစ်သည်။

'ကိုးဆူဆွမ်းကပ်' ဟု ခေါ်သော ပြိုဟ်စာကျွေးပွဲတွင်လည်း နတ်ကြီး ၅-ပါး အတွက် ထမင်း ၅-ပွဲ ပြင်ကြရသည်။ မြန်မာလူမျိုးတို့၏ နှုတ်ဖျား၌ နတ်ကြီး ၅-ပါး ဟု အပြောများကြသော်လည်း နတ်စာရင်းကိုမူ အတိအကျပြောနိုင်သူ နည်းပါးလှသည်။ ဤသို့မပြောနိုင်ခြင်းမှာလည်း ရေတွက်ပုံများ ရှုပ်ထွေးနေ သောကြောင့် ဖြစ်၏။

အချို့က သိကြားမင်း၊ နေနတ်၊ မီးနတ်၊ မဟာပိန္နဲနတ်၊ဗိဿနိုးနတ်၊ ကတဲနတ်တို့ကို ကောက်ယူကြသည်။

အချို့က ပရမိဿွာနတ်၊ နေနတ်၊ မီးနတ်၊ ဗိဿနိုးနတ်၊ စဏ္ဍီနတ်တို့ကို ကောက်ယူကြသည်။

အချို့က ဓတရဋ္ဌ၊ ဝိရူပက္ခ၊ ဝိရုဠက၊ ကုဝေရ၊ ပရမိဿွာတို့ကို ကောက်ယူ ကြသည်။

အချို့က သူရဿတီ၊ စဏ္ဍီ၊ ပရမိဿွာ၊ မဟာပိန္နဲ၊ ယောရမန္တနတ်တို့ကို ကောက်ယူကြသည်။

အချို့က ပရမိဿွာ၊ မဟာပိန္နဲ၊ ဗိဿနိုး၊ စဏ္ဍီ၊ သူရဿတီနတ်တို့ကို ကောက်ယူကြသည်။

ယခုခေတ် ကိုးဆူဆရာတို့ကမူ သူရဿတီ၊ စဏ္ဍီ၊ ပရမိဿွာ၊ မဟာပိန္နဲ၊ ယောရမန္တနတ်တို့ကို အတည်ပြု၍ ပူဇော်နေကြသည်။ ထိုနတ်ကြီး ၅-ပါးဆိုသူတို့၏ သမိုင်းဖြစ်စဉ်ကို လေ့လာလျှင်လည်း ဟိန္ဒူဘာသာ၌ ပါဝင်သော နတ်များဖြစ် သည်ကို တွေ့ရ၏။ ဗုဒ္ဓဘာသာနှင့် မည်သို့မျှ ယှက်နွယ်မှုမရှိချေ။

နတ်ကိုးကွယ်သူတို့လောက၌ ဒေဝီ ၅-ပါး၊ ဒေဝီ ၉-ပါး၊ ဒေဝီ ၁၂-ပါး၊ဒေဝီ ၂၁-ပါး ဟူ၍ နတ်များကို အုပ်စုဖွဲ့၍ ကိုးကွယ်မှုများလည်း ရှိသည်။ ထိုအထဲတွင် ဒေဝီ ၂၁-ပါးခေါ် နတ်မိမယ်အုပ်စုသည် ဂိုဏ်းလောက၌ တွင်ကျယ်နေ၏။ ယင်း၂၁-ဦး ကို ဂိုဏ်းသမားတို့က ၃-အုပ်စု ခွဲခြားထားပါသည်။

အုပ်စု(၁)တွင် သူရဿတီဒေဝီ၊ စန္ဒာဒေဝီ၊ စန္ဒီဒေဝီ၊ စန္ဒေဒေဝီ၊ စန္ဒာဒေဝီ၊ မိန္ဒရာဒေဝီ၊ မဟာဒေဝီဟူ၍ (၇)ဦး။

အုပ်စု(၂)တွင် သူရဿတီဒေဝီ၊ သူဇာမယ်၊ ပန်းမြတ်မယ်၊ သဇင်မယ်၊ ဇာတိမယ်၊ မဏိမေခလာမယ်၊ ဣရန္ဒသီမယ် ဟူ၍ ၇-ဦး။

အုပ်စု(၃)တွင် မနောဟရိဒေဝီ၊ ဣရန္ဒသီဒေဝီ၊ နာဂရိဒေဝီ၊ ကိန္နရာဒေဝီ၊ သူရဿတီဒေဝီ၊ မဟိန္ဒရာဒေဝီ၊ ပိယာဒေဝီဟူ၍ ၇-ဦး ပါဝင်သည်။

ထို ၃-အုပ်စုထဲတွင် သူရဿတီသည် အုပ်စုအားလုံး၌ ပါဝင်နေသည်။ အခြား နတ်မယ်တို့လည်း ထပ်တူ ပါနေကြ၏။ ယင်းနတ်မိမယ်တို့၏ နာမည်များကို လေ့လာကြည့်လျှင် ဗုဒ္ဓဘာသာ၊ ဟိန္ဒူဘာသာ၊ မြန်မာဘာသာ နာမည်များကို တွေ့ရမည်။ အချို့ပါဠိနာမည်များလည်း မဖြစ်နိုင်သော အမည်များဖြစ်သည်။

ထိုနတ်မိမယ်အုပ်စုမှာ ခပ်ညံ့ညံ့ဂိုဏ်းသမားတို့က ကြားဖူးနားဝရှိသော နာမည်တို့ကို ပေါင်းစုကိုးကွယ်ခဲ့ကြသော ဗရုတ်ချွပ်ထွေး နတ်အုပ်စုတစ်ခု ဖြစ်လေသည်။

ထို ၂၁-ဦး ဒေဝီကော်မတီကို ပူဇော်ကိုးကွယ်လျှင် လာဘ်ပေါ်ခြင်း၊ စည်းစိမ်ဥစ္စာတည်တံ့ခြင်း၊ ဩဇာအာဏာရှိခြင်း၊ ရာထူးတိုးတက်ခြင်း၊ခွေရံသင်းပင်းပေါခြင်း၊ အကြားအမြင်ရခြင်း၊ အကြောင်းကိစ္စရှိလျှင် အကူအညီရခြင်းစသော အကျိုးထူးတရားများကို ရရှိစေနိုင်သည်ဟူ၍ လူပြိန်းကြိုက် မက်လုံးဖြင့် စည်းရုံးထားကြလေသည်။

## ပြည်တွင်းဖြစ်နတ်များ ကိုးကွယ်မှု

မြန်မာတို့သည် အိန္ဒိယနိုင်ငံဖြစ် နတ်များကို ကူးယူကိုးကွယ်ခဲ့ကြသကဲ့သို့ မိမိတို့ ပြည်တွင်း၌လည်း နတ်သစ်များကို မွေးထုတ်၍ ကိုးကွယ်ခဲ့ကြပါသည်။ မဟာဂိရိခေါ် အိမ်တွင်းနတ်နှင့် အပေါင်းပါ ၇-ဦး နတ်အုပ်စုသည် မြန်မာတို့ ရှေးဦးတီထွင်ကိုးကွယ်ခဲ့သော နတ်များဖြစ်သည်။

မြန်မာတို့သည် ပုဂံခေတ်တွင် နတ်သစ်များကို ဆက်လက်ဖော်ထုတ်ခဲ့ရာ ပုဂံခေတ်ကုန်ချိန်၌ နတ်ဦးရေ ၂၂- ဦးမျှ ရှိလာသည်။ ထို့နောက်လည်း နတ်သစ်များကို ဆက်လက်ဖော်ထုတ်ခဲ့ရာ ပင်းယခေတ်တွင် ၁-ဦး၊ အင်းဝခေတ်တွင် ၉-ဦး ၊ တောင်ငူခေတ်တွင် ၅-ဦး မွေးထုတ်ခဲ့ကြသည်။ နတ်ပေါင်း ၃၇-ဦးမျှ ရှိလာသည်။ ယင်းနတ်တို့ကို မြန်မာတို့က 'အပြင် ၃၇-မင်း' ဟု ခေါ်ကြသည်။

တောင်ငူခေတ်နောက်ပိုင်းတွင် နတ်တီထွင်မှုများ တိမ်မြုပ်သွား၏။ နတ်သရာတို့ကလည်း နတ်ဦးရေကို ၃၇-ဦးထက် ပိုစေချင်ဟန် မတူပေ။ ထို့ကြောင့်

တောင်ငူခေတ်ကုန်တွင် နတ်မှတ်ပုံတင်လုပ်ငန်းကို ပိတ်ထားလိုက်၏။

အပြင် ၃၇-မင်းခေါ်သော နတ်စာရင်းတွင် သိကြားနတ်မှ လွဲလျှင် အားလုံးမှာ ပြည်တွင်းဖြစ်နတ်များသာ ဖြစ်သည်။ မြန်မာနတ်နှင့် အိန္ဒိယနတ်တို့ကို လေ့လာလျှင် ခြားနားမှု ရှိသည်။ အိန္ဒိယမှလာသော နတ်များသည် သဘာဝကိုးကွယ်မှုမှ ဆင်းသက်လာသော နတ်များဖြစ်၍ အများအားဖြင့် ရုပ်ပစ္စည်းတို့ကို အသက်ဝိညာဉ်သွင်း၍ သက်ရှိအဖြစ် ကိုးကွယ်ခဲ့သော နတ်များဖြစ်သည်။

မြန်မာပြည်ဖြစ် နတ်တို့ကား မြန်မာ့သမိုင်းတွင်ရှိနေသော ရာဇဝင်ဇာတ်ကောင် အသီးသီးတို့က ဖြစ်သွားသော နတ်များဖြစ်သည်။ အများအားဖြင့် နတ်ဖြစ်သူတို့မှာ ရာဇဝင်ထဲက အစိမ်းသေပုဂ္ဂိုလ်များ ဖြစ်ပေသည်။

ထို့ပြင် မြန်မာတို့၏ နတ်လောက၌ 'အတွင်း ၃၇-မင်း' ခေါ်သော နတ်များလည်း ရှိသေးသည်။ ထိုနတ်များအနက် ၂၂-ဦးသော နတ်တို့မှာ မြန်မာအမည်များဖြင့် ခေါ်ဝေါ်ထားသောကြောင့် ပြည်တွင်းဖြစ် နတ်များပင် ဖြစ်နိုင်ပါသည်။

မြန်မာတို့က အတွင်း-အပြင် ခေါ်နေသော နတ်များမှာ ရွှေစည်းခုံဘုရားတံတိုင်းအတွင်းရှိ နတ်များကို 'အတွင်း ၃၇-မင်း' ဟု ခေါ်ခြင်းဖြစ်သည်။ တံတိုင်းအပြင်ဘက်၌ ထားသော နတ်ရုပ်များကို'အပြင် ၃၇-မင်း' ခေါ်နေခြင်း ဖြစ်ပေသည်။

မြန်မာနိုင်ငံတွင် ၃၇-မင်းနတ်စာရင်း၌ မပါဝင်သော ဒေသန္တရနတ်များလည်း အများအပြားရှိသည်။ ရေငန်ပိုင်ဦးရှင်ကြီး၊ နံကရိုင်းစသောနတ်များသည် နာမည်ကြီး များဖြစ်သည်။

ယခုအခါ မြန်မာနိုင်ငံ အနှံ့အပြားတွင် ရွာတော်ရှင်၊ မြို့တော်ရှင်၊ နယ်တော်ရှင် စသော နတ်များ ဒေသတိုင်းလိုပင် ရှိနေသည်။ နတ်ကွန်းနတ်နန်း အမျိုးမျိုး တည်ထောင်၍ ပုံအမျိုးမျိုးထုလုပ်ကာ ပူဇော်ပသနေကြသည်။ နေရာဒေသအလိုက် နတ်ပွဲများ ကျင်းပနေကြ၏။

ယခုအခါ တောင်ပြုန်းအရပ်ရှိ ကုလားဘီလူး ကပြားညီနောင်နတ်ပွဲ၊ ပခန်းကူနီနတ်ပွဲ စသည်တို့မှာ အလွန်ကျယ်ပြောနေခဲ့ပြီ။ ကူနီနတ်ပွဲရက်များဆိုလျှင် ပခန်းအရှေ့လက်တွင် "အခြားပွဲသဘင်များ မပြုလုပ်ရ၊ နတ်မကြိုက်" ဟုဆိုကာ ဦးမင်းကျော် အာဏာကို အငှားသုံး၍ ထွင်လုံးဖြင့်တားဆီးထားကြသည်။ နတ်ပွဲ စည်ကားရေးအတွက် တားဆီးထားခြင်းသာဖြစ်သည်။

ယခု ၁၀-စုနှစ်အတွင်းလောက်မှာပင် ပုဂ္ဂလိကနတ်ကိုးကွယ်မှု၊ ကနားပေးမှု

များ ခေတ်စားလာလေသည်။ ထိုပွဲများကို မြို့ဒေသရှိပုဂ္ဂိုလ်များက ပို၍ပြုလုပ်ကြသည်။ ရပ်ကွက်တိုင်းလိုလိုမှာပင် အသံချဲ့စက်ကို ခေါင်မိုးပေါ်၊သစ်ပင်ပေါ်တင်၍ အော်ဟစ်ဆူညံနေသော နတ်တေးသံ၊ နတ်ဗိုးသံများကို နားမခံသာအောင်ကြားနေကြရသည်။ စိတ်အတွေးဖြင့် အလုပ်လုပ်သူတို့မှာ နားရှုပ်သောကြောင့်အလုပ်မဖြစ်ကြ။ လွတ်လပ်စွာကိုးကွယ်ခွင့်ကို အကြောင်းပြု၍ လူထုကို ဒုက္ခပေးနေသော သရုပ်ပျက် ယဉ်ကျေးမှုများသာ ဖြစ်ပေသည်။

နတ်ပွဲများ စည်ကားလာခြင်း၊ နတ်ကနားပေးပွဲများ ထူပြောလာခြင်းမှာ နတ်ကို ယုံကြည်ကိုးကွယ်သူ များပြားလာခြင်းပင်ဖြစ်သည်။ ယနေ့မြန်မာနိုင်ငံတွင် နတ်ပွဲကြီးများ စည်ကားနေခြင်းအကြောင်းမှာ လူတန်းစား ၃-ရပ်ကို အခြေခံ၏။ ယင်းတို့မှာ-

(၁) အပျော်ကြီးသူများ

(၂) အလိုကြီးသူများ

(၃) အကြောက်ကြီးသူများ ဖြစ်ကြသည်။

အထက်ပါ စိတ္တဇဝေဒနာသည် လူတန်းစားများကို အခြေခံထား၍ နတ်များ ကြီးထွားရှင်သန်နေကြသည်။ ထိုလူတန်းစားများအနက် အမှတ် ၂၊ ၃ ကို လေ့လာ စိစစ် ကြည့်ရပါမည်။ အမှတ် ၂-လူတန်းစားမှာ နတ်ကို ကိုးကွယ် ပူဇော်ခြင်းဖြင့် မိမိတို့ စီးပွားလာဘ်လာဘ စသည် တိုးပွားလိမ့်မည်ဟု မျှော်လင့်ချက်ဖြင့် ပူဇော်နေကြခြင်း ဖြစ်၏။

ဤနေရာ၌ မနုဿဗေဒပညာရှင်တို့၏ စကားကို သတိရဖွယ် ဖြစ်သည်။ မနုဿဗေဒပညာရှင်တို့က -

" ထာဝရဘုရားသည် လူကို ဖန်ဆင်းထားခြင်းမဟုတ်၊ လူတို့ကသာ ထာဝရဘုရားကို ဖန်ဆင်းထားခြင်းဖြစ်သည်၊"ဟု ဖန်ဆင်းရှင်ဝါဒကို တော်လှန်ပြခဲ့ကြသည်။

ထိုစကားကို နည်းမှီး၍-

" နတ်တို့သည် လူကို မ စ နိုင်ခြင်းမရှိ၊ လူကသာလျှင်နတ်ကို မ စ နေရခြင်း ဖြစ်သည်၊"

ဟု ဆိုရပေလိမ့်မည်။

မှန်ပါသည်။ နတ်တို့တည်ရှိနေသည်မှာ လူတို့က ပူဇော်ကိုးကွယ်နေကြသောကြောင့် ဖြစ်သည်။ လူသားတို့က မကိုးကွယ်တော့ပြီဆိုလျှင် နတ်များလည်း

ပျောက်ကွယ်သွားရမည်သာ ဖြစ်သည်။ နတ်ဆိုသည်မှာ လူတို့၏ အတွေးစိတ်ဖြင့် မွေးထုတ်ထားသော စိတ္တဇရုပ်ဆောင်များသာ ဖြစ်ကြောင်း နားလည်အပ်ပေသည်။ ကမ္ဘာတစ်ခွင် ရှေးဟောင်းသမိုင်းစဉ်ကို လေ့လာရာ၌လည်း ထိုသဘောကို တွေ့သိလာရမည်ဖြစ်သည်။

ဘီစီ ၅၀၀၀-ခန့်မှစ၍ နတ်ကိုးကွယ်မှုသမိုင်းကို စတင်ခဲ့ရာ ယနေ့အထိ နတ်အမြောက်အမြား ပေါ်ထွက်ခဲ့ပြီ။ အခြားနိုင်ငံများကို ထားဘိဦး။ အိန္ဒိယနိုင်ငံ တစ်ခုတည်းမှာပင် နတ်ပေါင်း ၃၃-ကုဋေကျော်မျှ မွေးထုတ်ပူဇော်ခဲ့ကြသည်။ လူသားတို့၏ စိတ်ကူးဉာဏ်များသလောက် နတ်များပေါက်ပွားခဲ့သည်။ ထိုနတ်များသည် လူတို့၏ ယုံကြည်ကိုးကွယ်နေချိန်၌သာ တည်တံ့နေခဲ့၏။ လူတို့ မယုံကြည် မကိုးကွယ်လျှင် နတ်များလည်း ပျောက်ကွယ်ကုန်ကြသည်။

ထို့ကြောင့် နတ်ဆိုသည်မှာ လူတို့က ဖန်ဆင်းထားသော အရာများဖြစ်သည်ဟုဆိုလျှင်လည်း လွန်အံ့မထင်။ လူတို့က ဖန်ဆင်းထားသော နတ်တို့သည် လူကိုပင် တည်မှီနေရ၏။ ထို့ကြောင့်ပင် နတ်တို့အား လူတို့က မ စနေရခြင်း ဖြစ်သည်ဟု ဆိုခဲ့ခြင်း ဖြစ်ပေသည်။

နတ်တို့သည် လူတို့အား ဒုက္ခရောက်အောင် လုပ်နိုင်သည်ဟု ယုံကြည်သောကြောင့် ကိုးကွယ်သူတို့လည်း ရှိ၏။ ပ သနေသူများရှိ၏။ ဤယုံကြည်မှုမှာလည်း လူတို့ကပင် ဖန်ဆင်းပေးထားသော၊ အာဏာပေးထားသော ယုတ္တိမဲ့ယုံကြည်မှုသာ ဖြစ်သည်။ တကယ်တမ်းဆန်းစစ်လျှင် စိတ္တဇလုပ်ရပ် ထိုထိုနတ်တို့သည် လူသားတို့အား သုခပွားစေရန်အတွက်လည်းကောင်း၊ ဒုက္ခများစေရန်အတွက်လည်းကောင်း ဘာမျှမပြုလုပ်နိုင်ကြချေ။ ဤသို့ အတွေးမှန် အမြင်မှန်စိတ်ဓာတ်ဖြင့် သုံးသပ်လျက် ဆုံးဖြတ်နိုင်ကြစေရာ၏။

## ဘိုးတော် မယ်တော် ကိုးကွယ်မှု

မြန်မာနိုင်ငံတွင် ဂိုဏ်းလုပ်ငန်းကို လိုက်စား၍ ဘိုးတော်မယ်တော် အမည်ခံသူများလည်း ရှိသည်။ ထိုပုဂ္ဂိုလ်များသည် အိန္ဒိယမှလာသော ဂိုဏ်းကျင့်စဉ်တို့ကို လေ့ကျင့်လျက် ဘိုးတော်အမည်ခံနေသူများဖြစ်သည်။ ထိုဘိုးတော်ဆိုသူတို့ကို ထွက်ရပ်ပေါက်သူ၊ သိဒ္ဓိမြောက်သူ၊ လူတို့၏ဒုက္ခကို ကယ်တင်နိုင်သူ ဖြစ်သည်ဟု ဆိုကာ ကိုးကွယ်သူများလည်း ဒုနှင့်ဒေး ရှိသည်။



မြန်မာနိုင်ငံတွင် ဘိုးတော်အဖြစ်ဖြင့် နာမည်ကြီးသွားသူများလည်း ရှိသည်။ ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်၊ ရှင်အဇ္ဇဂေါဏ၊ ဗားမဲ့ဘုန်းကြီး၊ ရက်ကန်းစင်တောင် စသော ပုဂ္ဂိုလ်တို့ဖြစ်သည်။

ယနေ့ခေတ်တွင်လည်း မြန်မာနိုင်ငံ၌ ဘိုးတော်နှင့် ဘိုးတော်ဖြစ်အောင် လုပ်နေသော ဂိုဏ်းဆရာများ ဆက်လက်ပေါ်ပေါက်နေသည်။ မိမိကိုယ်ကို ဘိုးတော်အမည်ခံသူလည်း ရှိသည်။ဘိုးတော်အမည်မခံသော်လည်း ဘိုးတော် အလုပ်ဖြစ်သော ဂိုဏ်းလုပ်ငန်းကို ဆရာကြီးတစ်ဆူ လုပ်နေသူတို့လည်း ရှိသည်။

ဂိုဏ်းဆရာဆိုသူ အချို့တို့သည် ဘိုးတော်၊ ဘွားတော်၊ မယ်တော်၊ ဆာဒူး၊ သူရဿတီ၊ ဒေဝီ ၂၁-ပါး၊ အတွင်း ၃၇-မင်း၊ အပြင် ၃၇-မင်း၊ ပေါက်ဆရာ၊ စေဆရာ အမျိုးမျိုးကို ကိုးကွယ်ကြသည်။

> မြန်မာနိုင်ငံသည် ဗုဒ္ဓဘာသာနိုင်ငံဖြစ်သည်။ သို့ဖြစ်၍ ဂိုဏ်းဆရာ အချို့တို့သည် ဗုဒ္ဓဘာသာအရိပ်ကို ခိုလှုံ၍ ဂိုဏ်းလုပ်ငန်းကို ပြုလုပ်ကြသည်။ ဗုဒ္ဓ၏ ဓမ္မဒေသနာတို့ကို သိဒ္ဓိပေါက်လုပ်ငန်းထဲသို့ သွတ်သွင်းအသုံးချကြသည်။ ဖြူစင်သော ဗုဒ္ဓဘာသာကို ညစ်နွမ်းအောင် အရောင်လွှမ်းပေးနေကြသည်။

ဂိုဏ်းဆရာအမည်ခံ ဘိုးတော်အချို့တို့သည် ဓာတ်ကျသည်ဟု ဆိုကာ ဓာတ်ဘုရားများကို တည်ထားကြသည်။ ဘုရားဘွဲ့တော်ကိုလည်း သိဒ္ဓိဝေါဟာရ ပါအောင် မှည့်ခေါ်ကြသည်။ စေ၊ အောင်၊ ကပ်ကျော်စသော ဝေါဟာရတို့ဖြင့် ခေါ်ဆိုကြသည်။

ဂိုဏ်းဆရာအချို့တို့သည် ဗုဒ္ဓဘာသာ ပရိယတ်၊ ပဋိပတ်လုပ်ငန်းနှင့်

မပတ်သက်သော အလုပ်များကို သာသနာ့ပြုလုပ်ငန်းကြီးသဖွယ် ရေးကြီးခွင်ကျယ် ကြွေးကြော်အော်ဟစ်လျက် နိုင်ငံတုန်အောင် လုပ်ဆောင်နေကြကုန်၏။ သာဝက ဂိုဏ်းဝင်ဟု ဆိုသော နောက်လိုက်နောက်ပါတို့လည်း အင်အားထုထည်နှင့် ရှိနေပြီ။

- အတွေးအခေါ် ချည့်နဲ့သော ခေတ်ပညာတတ်များ
- ဆင်ခြင်ဉာဏ် အားနည်းသော စီးပွားနေရှင်များ
- အသိပညာ နုန့်နဲ့သော လူပြိန်းများ
- စိတ်ကူးယဉ်ဘဝကို မျှော်လင့်သော လောဘရှင်များ

စသည်ဖြင့် အမျိုးအစား စုံလှပေသည်။

ဂိုဏ်းလုပ်ငန်းကို ယုံကြည်သူတို့သည် ဂိုဏ်းဆရာကြီး၏ ဩဝါဒကို တစ်သဝေမတိမ်း လိုက်နာကြသည်။ ပြောသမျှကို နားထောင်သည်။ ခိုင်းသမျှကို လုပ်သည်။ ဤသို့ လိုက်နာသဖြင့် သိဒ္ဓိတန်ခိုး အမျိုးမျိုးတို့ ဝေဖြိုးတိုးတက်လာမည်ဟု ယုံကြည်သည်။

ထိုသူတို့သည် မိမိတို့၏ ဆရာကြီးကို အစွမ်းထက်သော သိဒ္ဓိရှင်ကြီးဟူ၍ ထင်မှတ်ကြသည်။ ထိုသိဒ္ဓိရှင်ကြီးအား ထောက်ပံ့လှူဒါန်းခြင်းဖြင့် လက်ငင်း လက်တွေ့အကျိုးကောင်းတရားများ ရရှိလာမည်ဟု အထင်ရှိကြသည်။

ထို့ကြောင့် စီးပွားနေရှင်တို့သည် ငွေကြေးများစွာဖြင့် လှူဒါန်းပူဇော်ကြသည်။ ဆင်းရဲသားများကလည်း တတ်အားသရွေ့ ဖျစ်ညှစ်ပြီး လှူဒါန်းကြသည်။

ဂိုဏ်းဆရာကြီးတို့သည် ရရှိလာသော ငွေကြေးများဖြင့် ဓာတ်ဘုရားများကို တည်ထားကြသည်။ သိဒ္ဓိရုပ်ပွားများကို ပူဇော်ကြသည်။ နတ်ရုပ်အမျိုးမျိုးကို ပြုလုပ်ကြသည်။ ဝိဇ္ဇာရုပ်များ ထုလုပ်သည်။ ဘိုးတော်ရုပ်များ သွန်းလောင်းသည်။ ဂြိုဟ်ရုပ်များကို ဖန်တီးသည်။ ဤသို့ဖြင့် ဂိုဏ်း၏တည်ရာဌာနတို့၌ စိတ်ကူးယဉ် ရုပ်စုံ ပြတိုက်ကြီးများ ဖြစ်နေ၏။ သာမန်လူပြိန်းတို့၏ စိတ်တွင် အထင်ကြီးစရာ သရုပ်ပြအမွှမ်းတင်များ ဖြစ်နေလေသည်။

ဤကဲ့သို့ သရုပ်ပြအမွှမ်းတင်များ လုပ်ပြနိုင်သောကြောင့် ဂိုဏ်းဆရာတို့လည်း ပို၍တန်ခိုးကြီးလာသည်။ အီဂျစ်နှင့် ဆူမာရီယန်တို့ခေတ်က နတ်တို့ တန်ခိုးကြီးမှုသည် လူတို့က အားပေးမှုကြောင့် ဖြစ်သကဲ့သို့ ဂိုဏ်းဆရာတို့ တန်ခိုးကြီးမှုမှာလည်း လူများ အားပေးနေသောကြောင့် ဖြစ်ပေသည်။

ဂိုဏ်းဆရာတို့သည် လူတို့၏ ဝိုင်းဝန်းအားပေးမှုကြောင့် စိတ်ကြိုက် ပြီးစီးနိုင်သော စိန္တာမယသိဒ္ဓိတန်ခိုးကို ရရှိသွား၏။ ရွှေ ငွေရတနာကို ရရှိနိုင်သော ဓနသိဒ္ဓိကို

ရရှိသွားကြသည်။ ဤသည်မှာ လူများက လုပ်ပေး၍ ရရှိသော သိဒ္ဓိများဖြစ်သည်။

သို့ရာတွင် မြေလျှိုးနိုင်သော သိဒ္ဓိမျိုးကိုမူ တီကောင်လောက်ပင် စွမ်းရည် မရရှိကြ။ အာကာသသိဒ္ဓိခေါ် မိုးပျံနိုင်သည့် ပညာမျိုးမှာလည်း ခြင်တစ်ကောင်လောက်မျှ မတတ်နိုင်ကြပေ။ ဓား၊ လှံ၊ သေနတ် ပြီးသည် ဆိုသော ကာယသိဒ္ဓိအောင်မြင်ဖို့ကား ဝေးစွ။ ဆူးစူးသည်ကိုပင် ခံနိုင်ရည် မရှိသော သိဒ္ဓိရှင်ကြီးများ ဖြစ်ချေသည်။

လူတို့သည် အခြေအနေမှန်ကို မစဉ်းစားကြ။ သဘောတရားမှန်ကို မ ဆင်ခြင်တတ်ကြ။ ဘိုးတော်ဂိုဏ်းဆရာတို့က မ စလိမ့်မည်ဟု ယုံကြည်စွဲမှတ်နေကြသည်။ နေ့ချင်း ညချင်း ကြီးပွားအောင် လုပ်ပေးနိုင်လိမ့်မည်ဟူသော လောဘ ရမ္မက်အမြင်ဖြင့် ဖွတ်ဝင်၍ ချဉ်းကပ်နေကြသည်။ တကယ်တော့ ဘိုးတော်ဂိုဏ်း ဆရာတို့သည် လူတစ်ဦး၏ ကံကြမ္မာကို ဖန်တီးပေးနိုင်သူ မဟုတ်ပေ။ လူတို့သည် မိမိတို့၏ ကံကြမ္မာကို မိမိတို့သာလျှင် ဖန်တီးနေကြရသည်။

သို့ပါလျက် မလိုလားအပ်သော ယုံကြည်မှုများကို ရောထွေးလက်ခံပြီး လျှင် ဘိုးတော်ထံသွား၍ အချိန်ကုန်ကြသည်။ မယ်တော်ထံသွား၍ အချိန် ဖြုန်းကြသည်။ အချိန်၏တန်ဖိုးကို မှန်ကန်စွာ အသုံးမချတတ်ကြ။အမျှော် လွန် အလုပ်ဖြင့် အချိန်ကုန်နေကြသည်၊ အဖွေးလွန်ဘဝကို တမ်းတနေ ကြသည်။ အချောင်သမားဘဝကို မက်မောနေကြသည်။ အလုပ်နှင့် အလုပ် ၏ အကျိုးဆက်တရားတို့ကို လွဲမှားစွာ နားလည်နေကြသည်။ကမ္မသ ကတာ၊ သမ္မာဒိဋ္ဌိကို လက်ခံသော ဗုဒ္ဓဘာသာဝင်ဟူ၍ အမည်ခံထား သော်လည်း တဏှာရဆန်သော စိတ္တဇအာရုံအလုပ်ဖြင့် အချိန်ပုပ် နေကြ၏။

ထေရဝါဒဗုဒ္ဓဘာသာသည် စင်ကြယ်သော ဘာသာဖြစ်၏။ သန့်ရှင်းသော ဝါဒဖြစ်၏။မှန်ကန်သော အယူရှိ၏။ မိမိတို့၏ လောကီလောကုတ် တိုးတက်မှုကို မိမိကိုယ်တိုင် ကြိုးစားယူကြရသည်။ဘယ်ဘိုးတော် မယ်တော်တို့ကမှ ဓာတ်ချ၍ မ စနိုင်မည်မဟုတ်။ မိမိတို့၏ အကျိုးစီးပွားကို ဗုဒ္ဓဘုရားဟောကြားသော သမ္မာဒိ တရားဖြင့် ရိုးသားစွာ ကြိုးစားရမည်သာ ဖြစ်လေသည်။

## ရှင်ဥပဂုတ် ကိုးကွယ်မှု

ထေရဝါဒဗုဒ္ဓဘာသာ ကိုးကွယ်မှုများထဲတွင် မဟာယာနဂိုဏ်းမှ အယူအဆ များကို ရောနှောလက်ခံနေသည်ကိုလည်းတွေ့ရ၏။ ထိုအယူများအနက် ရှင်ဥပဂုတ်

ကိုးကွယ်မှုသည် ရှေ့တန်း၌ ရှိနေလေသည်။

ရှင်ဥပဂုတ္တမထေရ်၏ အတ္ထုပ္ပတ္တိသည် မဟာယာနဂိုဏ်းသုံး ကျမ်းစာဖြစ်သော ဒိဗျာဝဒါနကျမ်းမှ ဖန်တီးပေးလိုက်သော ဇာတ်လမ်း ဖြစ်သည်။ ရှင်ဥပဂုတ္တမထေရ်သည် ဣန္ဒဂုတ္တ၊ အဿဂုတ္တ၊ တိဿနာဂ၊ ဥပဂုတ္တတိဿနာဂ၊ အာဂတ်စတယမုနိ ဟူသောဘွဲ့မည်အမျိုးမျိုးဖြင့် ထင်ပေါ်ကျော်ကြားသူဖြစ်သည်။

ရှင်ဥပဂုတ်မထေရ်နှင့် ပတ်သက်၍ ထေရဝါဒ ပိဋကတ်တော်အဋ္ဌကထာတို့၌ ကျယ်ပြန့်စွာ မပါရှိပေ။ ထိုမထေရ်အကြောင်းကို သာသနာနှစ် ၈၀၀-ခန့်က ရှင်မဟာနာမရေးသော မဟာဝင်ဝတ္ထု၌ ဖော်ပြခဲ့သည်။ ရှင်မဟာနာမသည် မဟာယာနကျမ်းစာ ဒိဗျာဝဒါနမှ ထုတ်ယူ၍ တင်ပြခဲ့ခြင်းဖြစ်ပါမည်။

မဟာဝင်ကျမ်းလာစကားတို့ကို ယူ၍ မြန်မာကျမ်းပြုဆရာတို့ကလည်းဖော်ပြခဲ့ကြပြန်သည်။ မဟာရာဇဝင်ကြီး၊ လောကပညတ္တိကျမ်း၊ ဇိနတ္ထပကာသနီကျမ်းတို့တွင် ထိုမထေရ်၏အတ္ထုပ္ပတ္တိကို ကူးယူထည့်သွင်းခဲ့ကြသည်။ ထိုအခါမှ မြန်မာတို့၏စိတ်တွင် ရှင်ဥပဂုတ္တဟူသော ဇာတ်လမ်းသစ်ကို လက်ခံရရှိခဲ့ကြသည်။ အစွမ်းကောင်းသော မထေရ်တစ်ပါးအဖြစ် မြန်မာတို့၏နှုတ်ဖျားတွင် တွင်ကျယ်လာခဲ့လေသည်။

ရှင်ဥပဂုတ်မထေရ်သည် တောင်သမုဒ္ဒရာ၌ ကြေးပြာသာဒ်ဖြင့် နေသည်၊ ယနေ့တိုင် အသက်ရှင်လျက်ရှိနေသေးသည်ဟုလည်း ကြီးကြီးစည်ရာ ယုံကြည်နေကြသည်။ ထို့ကြောင့် မြန်မာတို့သည် ရှင်ဥပဂုတ်ပုံကို ထုလုပ်၍ ဖောင်နှင့်မျှောကာ ပူဇော်ပွဲများ ပြုလုပ်ကြသည်။

ရှင်ဥပဂုတ်သည် လေမုန်တိုင်းကျခြင်း၊ မိုးရွာခြင်း၊ ရေလွှမ်းခြင်း၊ မိုးကြိုးပစ်ခြင်း စသော အန္တရာယ်တို့ကို ကာကွယ်ပေးနိုင်မည်ဟုလည်း ယုံကြည်ကြသည်။ မြန်မာနိုင်ငံတွင် ရှင်ပြုအလှူပွဲ စသည်ပြုလုပ်လျှင် လေမိုးအန္တရာယ်ကင်းစေရန် ရှင်ဥပဂုတ်ရုပ်တုကို ကန်တော့ပွဲဖြင့် တင်သ၍ ပူဇော်ထားကြရသည်။

မြန်မာပြည်တွင် နောက်ခေတ်မှ တည်ထားသော အချို့သောဘုရားထီးအတွင်း၌လည်း ရှင်ဥပဂုတ်ကျောင်းဆောင်လေးများကို ထည့်သွင်းလေ့ရှိကြသည်။ မိုးကြိုးအန္တရာယ် စသည် ကင်းစေရန်ဖြစ်သည်။

နောက်ပိုင်းတွင် ရှင်ဥပဂုတ်မထေရ်သည် ဂိုဏ်းဆရာလုပ်သူတို့၏ လက်ထဲရောက်သွားရာ စိတ္တဇဝေဒနာအတွက် အသုံးချခံတစ်ပါး ဖြစ်သွားရပြန်သည်။ ရှင်ဥပဂုတ်သာမဟုတ် ရှင်မဟာကဿပကဲ့သို့သော မထေရ်များလည်း ပါဝင်နေကြ

သည်။ ထိုမထေရ်များကို အုပ်စုဖွဲ့ပေးကာ "သေ ၄-ပါး၊ ရှင် ၄-ပါး"ဟူ၍ ခေါ်ဆိုထားကြသည်။ ထိုမထေရ် ၈-ပါးတို့မှာ အသေထွက်ပုဂ္ဂိုလ်နှင့် အရှင်ထွက်ပုဂ္ဂိုလ်များဟူ၍လည်း လက်ခံထားကြပြန်သည်။

ရှင် လေးပါးစာရင်း၌ အောက်ပါမထေရ်တို့ ပါဝင်သည်။

(၁) ရှင်ဥပဂုတ်သည် တောင်သမုဒ္ဒရာ၌ ကြေးပြာသာဒ်ဖြင့် နေသည်။

(၂) ရှင်ခေမရထေရ်သည် အနောက်သမုဒ္ဒရာ၌ ကြေးပြာသာဒ်ဖြင့် နေသည်။

(၃) ရှင်ဘဒ္ဒမထေရ်သည် မြောက်သမုဒ္ဒရာ၌ ရွှေပြာသာဒ်ဖြင့် နေသည်။

(၄) ရှင်အင်္ဂါသာရမထေရ်သည် အရှေ့သမုဒ္ဒရာ၌ ရွှေပြာသာဒ်ဖြင့် နေသည်။

မထေရ် ၄-ပါးကို နေရာ ၄-မျိုးခွဲတမ်းချထားရာ မြန်မာပြည်သားတို့အတွက် ရှင်ဥပဂုတ်သာလျှင် ပူဇော်ခွင့် ရနိုင်ကြ၏။ တောင်အရပ်၌သာ သမုဒ္ဒရာရှိသောကြောင့် ရှင်ဥပဂုတ်သာလျှင် မြန်မာပြည်သားတို့အတွက် တာစားသော ကိုယ်တော်ဖြစ်နေ၏။

သေ ၄-ပါးစာရင်း၌ အောက်ပါမထေရ်တို့ ပါဝင်သည်။

(၁) ရှင်မဟာကဿပသည် ဝေဘာရတောင် ကျောက်ဖျာထက်၌ ရှိသည်။

(၂) ရှင်မဟာသံသာရသည် ဥတ္တမတောင်၌ ရှိသည်။

(၃) ရှင်ဥပေက္ခသည် မကုလတောင်၌ ရှိသည်။

(၄) ရှင်ဓမ္မသာရသည် မကုလတောင်၌ ရှိသည်။

မြန်မာနိုင်ငံမှ ပုဂ္ဂိုလ်တို့သည် ရှင်မဟာကဿပ၊အသေထွက်ရှိရာ အလောင်းတော်ကဿပကို အလေးထား၍ သွားရောက်လေ့ရှိကြသည်။

ရှင်မဟာကဿပပြဿနာကလည်း ရှုပ်ထွေးသည်။ ပုဂံခေတ် အရည်းကြီးဂိုဏ်းခေါင်းဆောင် ရှင်မဟာကဿပသည် ထိုနေရာသို့သွား၍ ပျံတော်မူသည်ဟု ဇာတ်လမ်းလုပ်ထားကြသည်။

ဘုရားရှင်၏ သာဝကကြီးဖြစ်သော ပထမသံဂါယနာတင်ဦးဆောင် အရှင်မဟာကဿပကြီးသည် ထိုနေရာသို့ လာရောက်၍ ပရိနိဗ္ဗာန်ပြုသည်ဟုလည်း ပြောကြားသေးသည်။

အမှန်မူ အလောင်းတော်ကဿပဌာနသည် အရည်းကြီးခေါင်းဆောင် ရှင်ကဿပနှင့်လည်း မသက်ဆိုင်ပါ။ သံဂါယနာတင် အရှင်မဟာကဿပ၏ ပရိ

နိဗ္ဗာန်ပြုရာလည်း မဟုတ်။ ထိုရှင်မဟာကဿပကြီး ပရိနိဗ္ဗာန်ပြုရာ ဝေဘာရ တောင်နှင့် အလားတူသော ပထဝီအနေအထားကို ရှာ၍ အတုပြုလုပ် ကိုးကွယ် ခဲ့သော အလောင်းတော်ကဿပ အတုသာလျှင်ဖြစ်ပါသည်။ ဗုဒ္ဓစာပေ၌ လာသော ဖြစ်စဉ်တို့ကိုကြည့်၍ ပထဝီအနေအထားကို ရှာဖွေလျက် ခြေတော်ရာများကိုလည်း ဤသို့ပင် ထုလုပ်ကိုးကွယ်ခဲ့ကြသည် မဟုတ်လော။

ချုပ်၍ဆိုရလျှင် ရှင်ဥပဂုတ်မထေရ်သည် ထေရဝါဒပိဋကတ်တော်လာ ပုဂ္ဂိုလ်မဟုတ်။ မဟာယာနဂိုဏ်းလာ စာအုပ်ထဲက ကူးနုတ်ထားသော ထေရ်ပွတ္တိ သာ ဖြစ်သတည်း။

## မင်းဝတ်ရုပ်ပွား ကိုးကွယ်မှု

ဗုဒ္ဓရုပ်ပွားတော်များသည် ဘုရားရှင်လက်ထက်ကပင် ရှိခဲ့သည်ဟု နောက် ခေတ်ရေး စာပေများတွင် ဖော်ပြထားကြသည်။ သမိုင်းသုတေသန ပညာရှင်တို့ကမူ ဗုဒ္ဓရုပ်ပွားတော်များကို အေဒီ ၁-ရာစုခန့်တွင် ထုလုပ်ကိုးကွယ်လာကြသည်ဟု ဆုံးဖြတ်ထားကြ၏။ ထိုအဆို ၂-ရပ်တွင် သမိုင်းပညာရှင်တို့၏ အဆိုသည် လက်ခံနိုင်စရာရှိပါသည်။

အေဒီ ၁-ရာစုမတိုင်မီက ရုပ်ပွားတော်မပေါ်သေး။ ဗုဒ္ဓ၏အထိမ်းအမှတ် အဖြစ် စကြာ၊ ဗောဓိပင်၊ ရွှေပလ္လင်၊ ခြေတော်ရာ၊ ကြာပန်းပုံတို့ကို ထုလုပ်ကိုးကွယ်ခဲ့ ကြသည်။

ဗုဒ္ဓရုပ်ပွားတော်များ စတင်ထုလုပ်ရာ ဒေသမှာ ကုသျှန်မင်းဆက်ထွန်း ကားရာ ဂန္ဓာရနှင့် မထုရာဒေသတို့ဖြစ်သည်။ မူလက မထုရာပညာရှင်များသည် ဂျိန်းအယူဝါဒဆိုင်ရာ ရဟန်းတော်များ၏ ကမ္မဋ္ဌာန်းစီးဖြန်းနေပုံ ရုပ်တုများကို ထုလုပ်ကြသည်။ ဗုဒ္ဓဘာသာဝင်တို့ကလည်း ထိုပုံများကိုအတုယူကာ ဗုဒ္ဓရုပ်ပွား တော်များကို ထုလုပ်ခဲ့ကြခြင်းဖြစ်ပေသည်။

ထေရဝါဒဂိုဏ်းဝင်တို့က ဗုဒ္ဓရုပ်ပွားတော်များကို ထုလုပ်သကဲ့သို့ မဟာယာန ဗုဒ္ဓဘာသာဝင်တို့ကလည်း မိမိတို့ကိုးကွယ်သော ဗောဓိသတ္တခေါ် ဘုရားလောင်း ရုပ်တုများကို ထုလုပ်ပူဇော်ကြသည်။ မဟာယာနတို့ ထုလုပ်ကိုးကွယ်သော ရုပ်ပွား များမှာ အလောင်းတော်နတ်များဖြစ်၍ အစဉ်တန်ဆာများဖြင့် ထုလုပ်ကြရသည်။

ထေရဝါဒဗုဒ္ဓဘာသာဝင်တို့ ထုလုပ်ကိုးကွယ်သော ရုပ်ပွားတော်များမှာ သင်္ကန်းဝတ်အဆင်တန်ဆာဖြင့်သာ ထုလုပ်ကြသည်။ ခေတ်ဦးဂန္ဓာရနှင့် မထုရာ

ရုပ်ပွားတော်တို့မှာ သက်န်းတော်ဝတ်ဆင်မှုဖြင့်သာ တွေ့ရှိကြရသည်။

နောင်အခါတွင် မဟာယာနဗုဒ္ဓဘာသာသည် နိုင်ငံအနှံ့အပြားသို့ ရောက်ရှိသွား၏။ မြန်မာနိုင်ငံသို့လည်း ပျူခေတ်က ရောက်ရှိခဲ့သည်။ မဟာယာနတို့ ရောက်ရှိသဖြင့် ယင်းတို့ကိုးကွယ်သော ဗောဓိသတ်ခေါ် ဘုရားလောင်းနတ်ရုပ်ပုံများလည်း ရောက်ရှိခဲ့သည်။

ဗောဓိသတ် နတ်ရုပ်ပုံတို့ကို လေ့လာလျှင် ပုံသဏ္ဌာန်မတူကြသည်ကို တွေ့ရမည်။ ဤသို့မတူသည်မှာ ရုပ်တုကို ပြုလုပ်သူတို့သည် မိမိတို့ခေတ်၊ မိမိတို့မြင်ဖူးသော မင်းတို့ဝတ်ဆင်မှုအတိုင်း ထုလုပ်ကြသောကြောင့်ဖြစ်သည်။ ထို့ကြောင့် မင်းဝတ်အဆင်တန်ဆာ ရုပ်ပွားများကို ဆင်ယင်မှုအမျိုးမျိုးဖြင့် တွေ့မြင်နေကြရလေသည်။

> **ဗုဒ္ဓရုပ်ပွားတော်တို့ကား ဘယ်ခေတ်တွင်မဆို ပုံသဏ္ဌာန်ကို ပြုပြင်၍မရ။ သက်န်းရုံ၊ သက်န်းတင်ဖြင့်သာ ထုလုပ်ကြရသည်။ လူတို့အတွက် စိတ်ခံစားမှုကို အပြောင်းအလဲ မဖြစ်စေနိုင်ပေ။**

ဗောဓိသတ်နတ်ပုံများကား အသွင်ဆန်းမျိုးစုံ ထုလုပ်ပုံအသီးသီးကြောင့် ခံစားမှုအပြောင်းအလဲကို ဖြစ်စေ၏။ ဤခံစားမှုကို လိုလားသောကြောင့် ထေရဝါဒ ဗုဒ္ဓဘာသာဝင်တို့သည် မကိုင်း၊ စလွယ်စသော မင်းဝတ်အဆင်တန်ဆာရုပ်ပွားတို့ကို ထုလုပ်ခဲ့ခြင်း ဖြစ်နိုင်ပေသည်။

ယနေ့မြန်မာနိုင်ငံတော်တွင် အချို့က ဗုဒ္ဓရုပ်ပွားတော်များကို မင်းဝတ်အဆင်တန်ဆာများဖြင့် ထုလုပ်ကိုးကွယ်နေကြသည်။ အမြင်ဆန်း၊အသွင်ဆန်း အဆင်တန်ဆာများဖြင့် ခြယ်လှယ်ထုလုပ်ကြသည်။ ဤရုပ်ပွားပုံစံကို 'ဇမ္ဗူပတိချွတ်ခန်းပုံ' ဟု အခေါ်များကြသည်။ ဇမ္ဗူပတိချွတ်ခန်း ဇာတ်လမ်းကို အကြောင်းပြု၍ ထိုရုပ်ပွားများ ဖြစ်ပေါ်လာသည်ဟု ဆို၏။

ဇမ္ဗူပတိချွတ်ခန်း ဇာတ်လမ်းဖြစ်စဉ်ကို လေ့လာသောအခါ ထေရဝါဒပိဋကတ်တော်လာ ခိုင်မာသောဇာတ်လမ်းမဟုတ်ပေ။ ကုန်းဘောင်ခေတ် ဒီပဲယင်းဆရာတော်ရေးသားသော တထာဂတဥဒါနဒီပနီကျမ်း၌ ထည့်သွင်းရေးသားထားသော ဇာတ်လမ်းဖြစ်သည်။ ထို့ထက်စောသော ကာလက ဤဇာတ်လမ်းမရှိပေ။ မင်းဝတ်တန်ဆာဖြင့် ထုလုပ်သော ရုပ်ပွားများမှာ ထို့ထက်စောသောကာလကပင် ရှိနေခဲ့သည်။ ထို့ကြောင့် ဇမ္ဗူပတိချွတ်ခန်းကို အကြောင်းပြချက်မှာလည်း မခိုင်လုံတော့ချေ။

အချို့ကလည်း မြတ်စွာဘုရားသည် ဗုဒ္ဓရာဇာ တရားမင်းဖြစ်သည်ကို အစွဲပြု၍ ဤပုံမျိုးကို ထုလုပ်ပါသည်ဟူ၍ ကြံစည်၍ ဖြေဆိုကြပြန်သေးသည်။

ဤမင်းဝတ်တန်ဆာ ဘုရားနှင့်ပတ်သက်၍ ကုန်းဘောင်ခေတ် ပညာရှင်များလည်း စိတ်ဝင်စားခဲ့ကြသည်။ အထူးသဖြင့် မဟာမြတ်မုနိရုပ်ပွားတော်ကြီး ရောက်ရှိလာစဉ်က ဖြစ်သည်။ ဤရုပ်ပွားတော်ပုံစံနှင့်ပတ်သက်၍ မုံရွေးဇေတဝန်ဆရာတော်တို့၏ ဖြေကြားထားချက်တို့ကိုလည်း တွေ့ရသည်။

ဆရာတော်တို့၏ ဖြေဆိုချက်များမှာလည်း အမေးရှိနေ၍သာ အဖြေရှာပြထားခြင်း ဖြစ်၏။ တိကျသေချာသောအဖြေကို မပေးနိုင်ကြပေ။ ပေးစရာအဖြေလည်းမရှိ။ သုတေသနပညာရှင်တို့ကမူ မဟာယာနတို့၏ ဗောဓိသတ်နတ်ပုံကို အတုယူ၍ ပြုလုပ်ထားကြောင်း အတည်ပြုထားကြလေသည်။ ဤဆုံးဖြတ်ချက်အရ မင်းဝတ်ရုပ်ပွားများမှာ ထေရဝါဒဗုဒ္ဓဘာသာနှင့် မသက်ဆိုင်သကဲ့သို့ ရှိလေတော့သည်။

သို့ရာတွင် ယနေ့မြန်မာနိုင်ငံ၌ မကိုင်ရှိဆောင်း၊ စလွယ်ဆင်ဖြင့် အသွင်ဆန်းအောင် ပြုလုပ်ထားသော ရုပ်ပွားတော်များကို ကိုးကွယ်နေကြ၏။ ဤရုပ်ပွားများကို ကိုးကွယ်သင့်- မကိုးကွယ်သင့် ဆိုသော ပြဿနာကို အရေးတယူ ပြောဆိုလာကြသည်။ အချို့က မကိုးကွယ်သင့်ဟု ဆိုကြ၏။ အချို့ကလည်း ကိုးကွယ်သင့်ပါသည်ဟု ဆိုပြန်သည်။ မိမိတို့၏ သဘောထားအမြင်ဖြင့် ယှဉ်ကပ် ပြောဆိုနေကြခြင်း ဖြစ်ပေသည်။

ဤကိစ္စအတွက် ဆုံးဖြတ်ရန်မှာ အလွန်ခက်ခဲလှသည်။ မကိုးကွယ်သင့်ဟု ဆုံးဖြတ်လျှင် ယနေ့မြန်မာနိုင်ငံတွင် ထင်ရှားလှသော မင်းဝတ်ရုပ်ပွားကြီးများကို ဘယ်လိုဆောင်ရွက်ကြမည်နည်း။ ဘယ်လိုသဘောထားရမည်နည်း။

အကယ်၍ ကိုးကွယ်သင့်ပါသည်ဟု ဆိုပြန်လျှင်လည်း ထိုရုပ်ပွားများမှာ မဟာယာနဂိုဏ်းမှ နည်းယူထားသော ရုပ်ပွားများဖြစ်နေသည်။ ဤရုပ်ပွားတို့ကို ကိုးကွယ်သင့်လျှင် မဟာယာနဗုဒ္ဓဘာသာကိုလည်း ကိုးကွယ်သင့်ပါသည်ဟု ဆိုလိုရာ ရောက်မနေပြီလော။

ရှေးခေတ်က ထေရဝါဒဗုဒ္ဓဘာသာဝင်တို့ သတိယွင်းချွတ်၊ မဆင်မခြင် ပြုလုပ်ခဲ့သောကြောင့် မင်းဝတ်ရုပ်ပွားပြဿနာကို အဖြေရှာဖို့ ခက်ခဲနေရပြီ။

မည်သို့ရှိစေ ထေရဝါဒဗုဒ္ဓဘာသာဝင်တို့အနေဖြင့်မူ ရုပ်ပွားတော်များကို ဗုဒ္ဓဝတ်စုံ သင်္ကန်းရုံဖြင့် ထုလုပ်ကိုးကွယ်ခြင်းသာ အကောင်းဆုံးဖြစ်လေသည်။

## ဒက္ခိဏသာခါနှင့် အခြားရုပ်ပွား ကိုးကွယ်မှု

မြန်မာပြည်၌ ဒက္ခိဏသာခါရုပ်ပွားတော် ကိုးကွယ်မှုလည်း ခေတ်စားလှသည်။ ဤရုပ်ပွားတော်နှင့်ပတ်သက်၍လည်း ဖြစ်ရပ်ဇာတ်လမ်းများ ထွေးယှက်နေသည်။

ဒက္ခိဏသာခါ ဆိုသည်မှာ မြန်မာဘာသာဖြင့်'တောင် အကိုင်း' ဟု အဓိပ္ပာယ် ရသည်။ ဘီစီ ၃-ရာစုတွင် ရှင်မဟိန္ဒနှင့် သံဃမိတ္တာထေရီမယ်တို့သည် သီဟိုဠ်သို့ သာသနာပြုကြွခဲ့ကြသည်။ သီဟိုဠ်ကျွန်းသားတို့ ကိုးကွယ်ရန် မဟာဗောဓိပင်မှ လက်ယာတောင်ကိုင်းကို ဖြတ်ယူ၍သီဟိုဠ်ကျွန်း၌စိုက်ပျိုးခဲ့သည်။ ထိုဗောဓိပင်မှ အသားတို့ကို ရုပ်ပွားထုလုပ်ကိုးကွယ်ရာမှ ဒက္ခိဏသာခါဘုရား ပေါ်ပေါက်လာသည် ဆို၏။

မြန်မာနိုင်ငံတွင် သက္ကရာဇ် ၇၈၈-ခုနှစ်၌ နန်းတက်သော မိုးညှင်းမင်းတရားလက်ထက် သီဟိုဠ်ကျွန်းမှ ဒက္ခိဏသာခါ ရုပ်ပွားတော် အကြီးအငယ် အဆူရေ ၃၀၀-ကျော် ရောက်ရှိလာရာ ရဟန်းရှင်လူ မှူးမတ်ပြည်သူတို့ အမြတ်တနိုး ကိုးကွယ်ခဲ့ကြသည်။ ထိုအချိန်မှစ၍ ဒက္ခိဏသာခါ ရုပ်ပွားတော် ကိုးကွယ်မှု ခေတ်စားလာလေသည်။

ရှေးဦးက ဒက္ခိဏသာခါရုပ်ပွားများမှာ အခြားရုပ်ပွားများကဲ့သို့ပင် အချိုးအဆစ် ပြေပြစ်စွာ ထုလုပ်ခဲ့ကြသည်။ အခြားရုပ်ပွားများနှင့် ခြားနားသည်မှာ ကြာပန်းဆောင်းခြင်းသာ ထူးသည်။ ဤသို့ ကြာပန်းဆောင်းသော ဖြစ်ရပ်မှာမူ မဟာယာနဂိုဏ်းနှင့် ယှက်နွယ်နေပြန်သည်။ မဟာယာနကျမ်းတို့၌ ဤသို့ ရေးဆိုထားသည်။

> ကောသလမင်းနှင့် မလ္လိကာမိဖုရားတို့သည် ဘုရားရှင်ထံသို့ လာကြရာ ဘုရားရှင် မရှိခိုက်နှင့် ကြုံနေ၏။ ရှင်မောဂ္ဂလာန်သည် တန်ခိုးတော်ဖြင့် လိုက်ရှာရာ ဘုရားရှင်သည် ကြာမျိုး ၅-ပါး ဖူးပွင့်နေသည့် အနောတတ္တအိုင်ထဲ၌ ကြာပွင့်ကြီးတစ်ခုပေါ်မှာ ဈာန်ဝင်စားနေ၏။ အိုင်စောင့်နတ်ကြီး ၉-ဦးတို့ကလည်း ဘုရားရှင်ကို ကြာပွင့်ထီး တစ်လက်စီဖြင့် ဆောင်းမိုးပေးထားကြသည်။
>
> ဤဖြစ်စဉ်ကို တွေ့မြင်လာခဲ့ရသဖြင့် ရှင်မောဂ္ဂလာန်သည် ကောသလနှင့် မလ္လိကာမိဖုရားတို့အား ပြန်လည်ပြောပြ၏။ မင်းနှင့်မိဖုရားတို့သည် ဘုရားရှင်စံမြန်းနေပုံကို စိတ်ကူးဖြင့် ကြည်ညိုသွားကြသည်။ ဤပုံသဏ္ဌာန်မျိုးကို ရုပ်တုပြုလုပ်၍ ကိုးကွယ်လိုကြောင်း ရှင်မောဂ္ဂလာန်အား

လျှောက်ထားကြသည်။ ခွင့်ပြုချက်ရသဖြင့် မင်းနှင့်မိဖုရားတို့သည် ကြာပန်း ဆောင်း ရုပ်ပွားကို ထုလုပ်ကိုးကွယ်ခဲ့ကြသည်ဟု ဆိုလေသည်။

ဤအဆိုအရ ဒက္ခိဏသာခါ ရုပ်ပွားပုံများမှာ မဟာယာနတို့အယူအဆအရ ထုလုပ်ကိုးကွယ်ခဲ့ကြသည်ဟု ဆိုနိုင်ပြန်ပါသည်။

နောက်ပိုင်းတွင် ဒက္ခိဏသာခါ ရုပ်ပွားပုံများကို ဂိုဏ်းဆရာလုပ်သူတို့က အမျိုးမျိုး စိတ်ကူး၍ ချဲ့ထွင်ပြုလုပ်လာကြသည်။ ရုပ်ပွားတော်တွင် မှို ၉-ချက်ရိုက် ခြင်းစသော အစီအမံများကို ထည့်သွင်းထားကြသည်။ ထိုရုပ်ပွားတော်ကို ကိုးကွယ် လျှင် လာဘ်ပေါများမည်။ အရောင်းအဝယ်ကောင်းမည်။ ရာထူးတိုးမည်။ အန္တရာယ် ကင်းမည်။ မီးဘေးမှလွတ်မည်။ သိဒ္ဓိပေါင်းစုံပြီးစီးနိုင်သည် စသည်ဖြင့် ဂိုဏ်းဆရာ တို့၏ အသုံးချခံ ရုပ်ပွားတစ်ဆူ ဖြစ်လာလေသည်။

အဆိုးရွားဆုံး ပြုလုပ်ချက်မှာ ရုပ်ပွားတော်ပုံသဏ္ဌာန်ဖြစ်သည်။ ရုပ်ပွားပုံစံ ကို ပန်းပုမတတ်သူ ထုလုပ်သကဲ့သို့ ပုအိုင့်သော၊ လည်ကုပ်တိုသော ပုံဆိုးများကို ထုလုပ်ကြသည်။ ဗုဒ္ဓဘုရားသည် လက္ခဏာတော်ကြီးငယ် အသွယ်သွယ်တို့ဖြင့် ပြည့်စုံသူဖြစ်၍ အပြစ်ပြောဖွယ်မရှိ။ တင့်တယ်သော ရူပကာယတော် ရှိပါသည်။ ဤကဲ့သို့ ဆိုးရွားသော ပုံသဏ္ဌာန်ရုပ်ပွားတို့ကို ထုလုပ်ကိုးကွယ်နေသည်မှာ ဘုရားရှင်၏ ကြည်ညိုမြတ်နိုးဖွယ်ရာ ရုပ်အဆင်းကို ဖျက်ဆီးထားခြင်းပင် ဖြစ် ပါတော့သည်။

ယနေ့မြန်မာနိုင်ငံတွင် ဗုဒ္ဓရုပ်ပွားတော်များကို ပုံစံအမျိုးမျိုး အယူအဆ အသွယ်သွယ်ဖြင့် ထုလုပ်တည်ထားကိုးကွယ်နေကြသည်။

- နှုတ်ခမ်းမွေးတပ်သော ရုပ်ပွားများ
- မျက်မှန်တပ်သော ရုပ်ပွားများ
- မှဲ့တပ်သော ရုပ်ပွားများ
- နဖူး၌ အဖုတပ်သော ရုပ်ပွားများ
- လက်စွပ်ဝတ်သော ရုပ်ပွားများ
- မြွေပတ်သော ရုပ်ပွားများ
- ဆင်စီး မြင်းရံ ရုပ်ပွားများ

စသည်ဖြင့် အမျိုးမျိုးပြုလုပ်နေကြသည်။

အချို့ရုပ်ပွားများမှာ မူလတင်ပျဉ်ခွေရုပ်ပွား၏ ဒူးနှစ်ဖက်နှင့် ပခုံးနှစ်ဖက်ပေါ် ၌ မတ်ရပ်ရုပ်ပွားကလေးများ ထည့်သွင်းထုလုပ်ထားသည်ကိုတွေ့ရ၏။ ပလတ်

စတစ်ဖြင့် လောင်းထားသော ရုပ်ပွားဖြစ်သည်။ ထိုရုပ်ပွားကိုကြည့်၍ ဆပ်ကပ်ပြနေသလားဟု ထင်မှားလောက်အောင် အရုပ်ဆိုးအကျည်းတန် နေပါသည်။

အချို့ ဘုရားရင်ပြင်တော်ပေါ်၌ လူကြိုက်များသော ဘိုးဘိုးအောင်။ အောင်မင်းခေါင်စသော ဘိုးတော်ဆိုသူ စိတ္တဇရုပ်ကောင်တို့ကို ပြုလုပ်ထားကြရာ ဗုဒ္ဓဘာသာအတွက် ရှက်ဖွယ်ကောင်းသော လုပ်ဆောင်ချက်များဖြစ်ပေသည်။

ယခုဖော်ပြခဲ့သော အကြောင်းရပ်များမှာ ထေရဝါဒ၌ရောနှောနေသည့် ကိုးကွယ်မှုများထဲမှ ထင်ရှားသော ကိုးကွယ်မှုများဖြစ်ပါသည်။ မထင်မရှားဖြင့် ကိုးစားနေကြသော အသေးအမွှားကိစ္စများလည်း အမြောက်အမြားရှိနေချေသေး၏။

## အခန်း (၂)

# ထေရဝါဒ၌ ရောနှောသော ယုံကြည်မှုများ

မြန်မာနိုင်ငံသည် ထေရဝါဒ ဗုဒ္ဓဘာသာတရားတော်ကို လက်ခံယုံကြည်နေသော နိုင်ငံဖြစ်သည်။ ထေရဝါဒတရားတော်သည် လူသားတို့အတွက် ရသင့်ရထိုက်သော လက်တွေ့ဒေသနာတို့ကို ဖော်ပြသည်။ မဖြစ်နိုင်သော၊ မရနိုင်သော စိတ်ကူးယဉ်အယူအဆတို့ကို မဖော်ပြပေ။ ဗုဒ္ဓဘုရားကလည်း စိတ်ကူးယဉ်တရားသဘောကို ဟောကြားခြင်း မရှိပေ။

မြန်မာတို့သည် ဗုဒ္ဓဒေသနာ၌ မပါရှိသော စိတ်ကူးယဉ်အတွေးဖြင့် ကြံဆပြုလုပ်ထားသော စာပေတို့ကိုလည်း ဖတ်ရှုခဲ့ကြသည်။ လက်ခံယုံကြည်သူတို့လည်း ရှိသည်။ ထိုစာပေများမှာလည်း အများအားဖြင့် အိန္ဒိယမှပင် သယ်ဆောင်လာခဲ့ကြသည်။

မြန်မာတို့သည် ခေတ်ဦးပိုင်းကပင် အိန္ဒိယနိုင်ငံနှင့် ဆက်သွယ်မိခဲ့ကြသည်။ အိန္ဒိယတို့ထံမှ နည်းပညာများစွာကို ရယူခဲ့ကြသည်။ မြန်မာမင်းစဉ်တစ်လျှောက်တွင် အိန္ဒိယနှင့် အဆက်အသွယ်မပြတ်ခဲ့ကြ။ အိန္ဒိယယဉ်ကျေးမှုတို့ကို မြန်မာမှုပြုနေခဲ့ကြသည်။

ဘိုးတော်ဗဒုံမင်းလက်ထက်တွင် အိန္ဒိယသို့ လူလွှတ်၍ မြန်မာပြည်၌ မရှိသေးသော စာပေတို့ကို သယ်ဆောင်စေခဲ့၏။ ရရှိလာသော စာပေတို့ကို မြန်မာ

ဘာသာဖြင့် ပြန်ဆိုစေခဲ့သည်။ ဤသို့သောနည်းများဖြင့် အိန္ဒိယကျင့်ဝတ်များ၊ အတတ်များ၊ ယုံကြည်မှုများသည် မြန်မာတို့ထံ ကူးစက်ခဲ့ကြသည်။

ရှေးခေတ်မြန်မာတို့သည် "အိန္ဒိယက စာ မှန်တာတွေချည်း"ဟု သဘောထားကာ လက်ခံခဲ့ကြ၏။ အိန္ဒိယက စိတ်ကူးယဉ်ယုံကြည်မှုများကို 'လောကီအယူ' ဟု ဆိုကာ ကဏ္ဍခွဲ၍ ယုံကြည်ကြသည်။ မြန်မာနိုင်ငံသို့ အိန္ဒိယက သယ်ဆောင် လာသော ဗြုတ်စဗျင်းတောင်း ယုံကြည်မှုအပေါင်းမှာလည်း ထောင်သောင်းမကရှိလေသည်။

## ဂန္ဓာရီအတတ် ယုံကြည်မှု

အိန္ဒိယကလာသော ယုံကြည်မှုများထဲတွင် ထူးခြားဆန်းကြယ်သည့် ဘဝမျိုး ကို မျှော်လင့်ရာမှ ပေါ်ပေါက်လာသော ဂန္ဓာရီလမ်းခေါ် ယုံကြည်မှုလည်း ပါဝင် ပေသည်။

ဂန္ဓာရီအတတ်ဆိုသည်မှာ အိန္ဒိယနိုင်ငံ ဂန္ဓာရတိုင်းမှ ပေါ်ပေါက်လာသော အတတ်ကို ဆိုလို၏။ တစ်နည်းအားဖြင့် ဂန္ဓာရမည်သောရသေ့သည် ပြုစီရင်ထား သော အတတ်ကို ဆိုပေသည်။

ဂန္ဓာရီလမ်းကြောင်းတွင်-

- စူဠဂန္ဓာရီလမ်း
- မဟာဂန္ဓာရီလမ်း - ဟူ၍ခွဲခြားထား၏။

စူဠဂန္ဓာရီလမ်းဆိုသည်မှာ ဖုတ်ကြီး ၄၀၊ ကဝေ ၃၉၊ ကုမ္ဘဏ်၊ ယက္ခ၊ ဂန္ဓဗ္ဗ စသော နတ်တို့ကိုအစွဲပြု၍ စီရင်ထားသော အင်းအိုင်- မန္တန်-ခါးလှည့် လက်ဖွဲ့ စသည်တို့ကို တတ်ကျွမ်းသူ မှော်ဆရာ၊ ပယောဂဆရာ၊ အောက်လမ်းဆရာ စသည် တို့ကို ခေါ်သည်။ လက်ဝဲတန္တရဂိုဏ်းနှင့် သဘောတူသည်။

မဟာဂန္ဓာရီလမ်းဆိုသည်မှာ သူရဿတီမယ်ကော်မှစ၍ ဒေဝီ ၂၁-ပါး၊ နတ် မင်းကြီး ၅-ပါး၊ လောကပါလနတ်မျိုး ၄-ပါး၊ ဘိုးတော်သိကြားမင်းမှစ၍ အထက် နတ်များဖြင့် ဆောင်ရွက်ရသောအတတ်ကို ဆိုလိုသည်။ လက်ယာတန္တရဂိုဏ်းနှင့် သဘောတူသည်။

ဂန္ဓာရီလမ်း၏ အဓိကလိုအပ်ချက်မှာ ဝိဇ္ဇာဖြစ်ရေးပင်ဖြစ်သည်။ ဝိဇ္ဇာဘဝ ရောက်လျှင် သိဒ္ဓိတန်ခိုးအမျိုးမျိုး ပြီးစီးသည်ဟု ယုံကြည်ကြသည်။ ယင်းတို့၏စာပေ များ၌ သိဒ္ဓိ ၁၀-မျိုးကို ပြဆိုထားသည်။

(၁) စိန္တာမယိဒ္ဓိ • စိတ်ကြိုက်ရာ ဖြစ်စေနိုင်ခြင်း
(၂) ဥဒကသိဒ္ဓိ • ရေပြင်ပေါ် လမ်းလျှောက်နိုင်ခြင်း

(၃) ပထဝီသိဒ္ဓိ = မြေကိုလျှိုးနိုင်ခြင်း၊ မြေကြောရှုံ့နိုင်ခြင်း
(၄) နေသိဒ္ဓိ = ရွှေငွေ ရတနာ လိုရာရနိုင်ခြင်း
(၅) အာယုသိဒ္ဓိ = အသက်ရှည်၍ အရွယ်နုပျိုစွာ နေနိုင်ခြင်း
(၆) အာကာသသိဒ္ဓိ = ကောင်းကင်ခရီးဖြင့် သွားလာနိုင်ခြင်း
(၇) အာရောဂျသိဒ္ဓိ = အနာရောဂါကင်းခြင်း
(၈) ကာယသိဒ္ဓိ = ဓား လှံ သေနတ်မထိနိုင်ခြင်း
(၉) ဝိယသိဒ္ဓိ = သတ္တဝါအားလုံးတို့က ချစ်ခင်ခြင်း
(၁၀) ဣဒ္ဓိသိဒ္ဓိ = တန်ခိုးဖြင့် အမျိုးမျိုးဖန်ဆင်းနိုင်ခြင်း

ဖော်ပြပါ သိဒ္ဓိဆိုသည်များမှာ လူသားတို့အတွက် ထူးခြားလှသော မက်လုံးများဖြစ်ရာ ဝိဇ္ဇာဘဝရရှိရေးကို ရမ္မက်ကြီးစွာ မျှော်လင့်ကြကုန်၏။ မျှော်လင့်သည့်အတိုင်း ဝိဇ္ဇာဖြစ်ရေးလမ်းစဉ်ကို ရှာဖွေကျင့်သုံးကြ၏။ ဝိဇ္ဇာဖြစ်ရေးလမ်းစဉ်ကို ယင်းတို့၏စာပေများ၌ပင် တွေ့ရသည်။ ဝိဇ္ဇာဖြစ်သူတို့မှာ အောက်ပါ ၄-မျိုးကို ကျင့်သုံး၍ ရရှိကြသည် ဆို၏။

(၁) ပြဒါးဝိဇ္ဇာ = ပြဒါးရှင်လုံးဖြင့် စီရင်သူ
(၂) ဆေးဝိဇ္ဇာ = ဆေးဖြင့်သိဒ္ဓိပြီးသူ
(၃) သံဝိဇ္ဇာ = သံသေလုံးဖြင့် စီရင်သူ
(၄) အင်းဝိဇ္ဇာ = အင်း၊ မန္တန်စသည်ဖြင့် သိဒ္ဓိပြီးသူ

ဖော်ပြပါ ၄-မျိုးကို ဝိဇ္ဇာ ၄-မျိုးဟု ခေါ်ကြသည်။ ဝိဇ္ဇာကို မြန်မာတို့က ဇော်ဂျီဟုလည်း ခေါ်၏။ ဇော်ဂျီ၏ မူလပုဒ်မှာ ယောဂီဖြစ်သည်။ယောဂီကို ဂျောဂျီ ဇော်ဂျီဟူ၍ ပြောင်းလဲခေါ်ဆိုလာကြသည်။

ဇော်ဂျီသည် မြန်မာနိုင်ငံသားတို့နှင့် ရင်းနှီးနေသော ပုဂ္ဂိုလ်ဖြစ်သည်။ နီညိုရောင်အထည်စကို ပန်ချာပီကုလားဝတ်စုံသဏ္ဌာန်ချုပ်၍ ဝတ်ဆင်ပြီးလျှင် ဆေးတောင်ဝှေးခေါ် တုတ်ချောင်းကိုင်ဆောင်ထားသည့် ဇော်ဂျီပုံများကို မြန်မာပြည်အနှံ့အပြား၌ တွေ့မြင်နိုင်လေသည်။ ထိုပုဂ္ဂိုလ်မျိုးကို ထွက်ရပ်ပေါက်ပုဂ္ဂိုလ်ဟုလည်း ခေါ်ကြပြန်သည်။ ထွက်ရပ်ပေါက်ပုဂ္ဂိုလ်တို့မှာ အသေထွက်ပုဂ္ဂိုလ်၊ အရှင်ထွက်ပုဂ္ဂိုလ်ဟု ၂-မျိုး ရှိသည်။

အသေထွက်ပုဂ္ဂိုလ်မှာ သေလွန်ပြီးနောက် ထွက်ရပ်ပေါက်သွားသည်ဟု ယုံကြည်ကြသည်။ အရှင်ထွက်ပုဂ္ဂိုလ်မှာ အသက်မသေဘဲ လူမမြင်ရသော ခန္ဓာကိုယ်အဖြစ်ပြောင်းလဲသွားပြီး နှစ်ပေါင်းများစွာ အသက်ရှင်လျက် တရားဓမ္မကို

ကျင့်ကြံနေသည်ဟု ယုံကြည်ကြသည်။ မြန်မာနိုင်ငံတွင် ထွက်ရပ်ပေါက်ပုဂ္ဂိုလ် လုပ်သွားသောသူတို့ ရှိသည်။ ထိုပုဂ္ဂိုလ်များသည် အရှင်ထွက်သည်ဟုကား မကြားဖူးပေ။ အားလုံးမှာမူ အများနည်းတူ သေဆုံးသွားကြရလေသည်။

ဤကဲ့သို့ ဝိဇ္ဇာဘဝ၊ ဇော်ဂျီဘဝ၊ သိဒ္ဓိရှင်ထွက်ရပ်ပေါက်ဘဝ စသည်တို့မှာ လူ့လောက၌ တကယ်တမ်းဖြစ်နိုင်သော ဘဝမျိုး မဟုတ်ပေ။ ကြံကြံဖန်ဖန် စိတ်ကူးဉာဏ်ဖြင့် ကြံဆထားသော ဘဝမျိုးသာဖြစ်၏။ ဤစိတ်ကူးယဉ် ဘဝမျိုးကို ရလိမ့်နိုးဖြင့် မျှော်ကိုးလုပ်ကိုင်နေသူများလည်း ရှိသည်။ ကျေနပ်နှစ်သိမ့်နေသူများလည်း ရှိသည်။ ထိုပုဂ္ဂိုလ်များသည် အိပ်မက်ယဲက ရတနာထုပ်ကို လိုက်လံရှာဖွေနေသူများ ဖြစ်၏။

## ဗေဒင် ယုံကြည်မှု

ထေရဝါဒ ဗုဒ္ဓဘာသာနှင့် ရောနှောသော ယုံကြည်မှုများထဲတွင် ဗေဒင်ယုံကြည်မှုလည်း အပါအဝင်ဖြစ်သည်။ ဗေဒင်ယုံကြည်မှုသည် မြန်မာနိုင်ငံတွင်းသို့ သရေခေတ္တရာခေတ်ကပင် ရောက်ရှိနေပြီ။ ဤဗေဒင်ကျမ်းများကို အိန္ဒိယတိုင်းသား ဗြာဟ္မဏဘာသာဝင် ပုဏ္ဏားများ သယ်ဆောင်လာရာမှ မြန်မာတို့ အမွေရကြသည်။

မြန်မာမင်းများလက်ထက်တွင် ဗေဒင်လိုက်စားသူ ပေါများလှသည်။ ဗေဒင် လိုက်စားသူများတွင် ထေရဝါဒရဟန်းတော်များလည်း ပါဝင်သည်။ ရဟန်းတို့သည် ဗေဒင်ဟော၍မစားသော်လည်း ဗေဒင်အတတ်ကို လောကီရေးရာ သိမှတ်စရာ အတတ်တစ်ခုအနေဖြင့် လေ့လာလိုက်စားခဲ့ကြသည်။

ဗုဒ္ဓဘုရားက ဗေဒင်ဟောခြင်းစသော အဟောအပြောအလုပ်မျိုးကို မပြုလုပ်ရန် တားမြစ်ထားသည်။ သို့သော်လည်း အချို့ရဟန်းတို့မှာ ဝိနည်းဒေသနာကို မျက်ကွယ်ပြု၍ ဗေဒင်ဟောကာ လာဘ်ရှာကြသည်။ ဓမ္မစေတီမင်းလက်ထက်တွင် ဗေဒင်ဘုန်းကြီးများကို သာသနာတော်၌ မထားရန် အရေးယူဆောင်ရွက်ခဲ့ဖူးသည်။

ဗေဒင်ကျမ်းများသည် ဗုဒ္ဓဘုရားမပွင့်မီ ဘီစီ ၁၅၀၀-နှင့် ၁၀၀၀-ကြားကပင် ပေါ်ပေါက်ခဲ့သော ကျမ်းများဖြစ်သည်။ အာရိယံလူမျိုးတို့သည် ဆရဆွတီမြစ်ညာ ဒေသ၌ နေစဉ်က ပြုစုထားသော ကျမ်းများဖြစ်သည်။ မူလကဗေဒင်ကျမ်းအမျိုးအစား ၃-ပုံရှိသည်။ နောက်ပိုင်းတွင် ၄-ပုံဖြစ်လာသည်။ ဗေဒင် ၄-ပုံမှာ အောက်ပါအတိုင်းဖြစ်၏။

(၁) ဣရုဗေဒင်။ ။ နေကြတ်၊ လကြတ်၊ နက္ခတ်တာရာတို့ကို ကြည့်၍

ဘေးဥပဒ် အန္တရာယ်ဖြစ်တတ်၊ ပျက်တတ်ပုံကို ပြရာကျမ်း။

(၂) ယဇုဗေဒင်။ ။ မိမိတို့အပေါ်၌ ရောက်ဆဲ၊ ရောက်လတ့် ဘေးရန်များမှ လွတ်ကင်းပျောက်ပြေရန် ဂြိုဟ်နက္ခတ်တို့ကို ပူဇော်သောနည်း၊ ယတြာပြုနည်းကို ပြဆိုရာကျမ်း။

(၃) သာမဗေဒင်။ ။ နေ၊ လတို့သွားရာလမ်းကို ၁၂-ရာသီခွင်ပြု၍ မည်သည့်ရာသီခွင်၌ မည်သည့်ဂြိုဟ် ရပ်တံ့နေသည်ကိုကြည့်ပြီးလျှင် အံသာ လိတ္တာ၊ တြင်း၊ နဝင်း စသည်ဖြင့် ဝေဖန်လျက် ကောင်းမကောင်းကို ဟောရာကျမ်း။

(၄) အာထဗ္ဗဏဗေဒင်။ ။ အထဗ္ဗရသေ့ စီရင်ရသဖြင့် ထိုအမည်ကို ရရှိခြင်းဖြစ်သည်။ မီးထွန်းခြင်း၊ မန္တန်စုတ်ခြင်းစသော တစ်ပါးသူတို့ ပျက်စီးရန် အစီအရင်ကို ပြဆိုရာကျမ်း။

ဗေဒင် ၃-ပုံကို အဋ္ဌကရရသေ့ စသော ရသေ့ ၁၀-ဦးတို့က ပြုစီရင်ထားသည်ဟု ဗုဒ္ဓပိဋကတ်တော်နှင့် ပါဠိအဘိဓာန်ကျမ်းတို့၌ ဖော်ပြထားသည်။ ရသေ့တို့ စီရင်ထားသော ဗေဒင်ကျမ်းများမှာ အများအားဖြင့် ရှေးခေတ်လူတို့ ယုံကြည်မှုကို အခြေခံ၍ ရေးသားထားသော စိတ္တဇဝေဒနာ မှတ်တမ်းစာများသာလျှင်ဖြစ်သည်။

မြန်မာတို့က လောကီကျမ်းဟု လက်ခံနေကြသော အိန္ဒိယကျမ်းများမှာ အများအားဖြင့် ရသေ့တို့ ရေးပြုသောကျမ်းများသာ ဖြစ်ပေသည်။ ဝါကျဆရာ၊ ဝဂ္ဂဆရာ၊ ဟရိတဆရာ၊ ဗျာသဆရာ စသော ကျမ်းပြုဆရာ ရသေ့များစွာကို တွေ့ကြရသည်။ နောက်ပိုင်းတွင် ရသေ့တို့ရေးသော စိတ္တဇကျမ်းများ အလွန်များပြားလှသောကြောင့် နာမည်ကိုပင် မဖော်ပြနိုင်တော့ပေ။ "ရသေ့ရှစ်သောင်း ဆရာပေါင်း" တို့၏ လက်ရာဟူ၍ လက်သည်မဖော်ဘဲ ထင်ရာမြင်ရာကို ရေးသားနေကြတော့သည်။

ရသေ့တို့လက်ရာ ကျမ်းစာများအနက် သဒ္ဒါကျမ်း၊ ဆန်းကျမ်းစသည်တို့မှာ အကျိုးပြုကျမ်းစာများ ဖြစ်ပါသည်။ သို့သော် ကျမ်းစာအများစုမှာမူ ရသေ့တို့သည် အလုပ်မရှိ၍ အလုပ်ရှာကာ လေ့လာပြုစုထားသော စာပေများဖြစ်ချေ၏။

ဤသို့ဆိုလိုက်သဖြင့် ရသေ့တို့၏ကျမ်းစာများကို စော်ကားသည်ဟု မမှတ်ယူသင့်ပေ။ ရသေ့တို့၏ ဘဝဖြစ်စဉ်ကို လေ့လာသောအခါ၌ ဤစကားကို သဘောပေါက်လာပေလိမ့်မည်။ ဤဖြစ်စဉ်ကို အနည်းငယ်လေ့လာကြည့်ရလိမ့်မည်။

ရှေးခေတ် အိန္ဒိယနိုင်ငံ ဟိန္ဒူတို့၏ဓလေ့ထုံးစံများတွင် 'အာရှရမ' ခေါ်

ကျင့်ဝတ် ကျင့်ထုံးလည်း တစ်ပါးပါဝင်သည်။ အာရှရမဆိုသည်မှာ လူ့ဘဝတွင် အရွယ်အလိုက် လုပ်ဆောင်ရမည့် တာဝန်ပိုင်းကို ဆိုလို၏။ အရွယ်ကို ၄-ပိုင်း ခွဲခြားသည်။

(၁) ပထမအရွယ် ။ ။ ပညာအမျိုးမျိုး ရှာဖွေဆည်းပူးရမည်။

(၂) ဒုတိယအရွယ် ။ ။ အိမ်ရာထောင်၍ စီးပွားရှာဖွေစုဆောင်းရမည်။

(၃) တတိယအရွယ်။ ။ စီးပွားတို့ကို သားသမီးတို့အား လွှဲအပ်၍မယား နှင့်အတူ တောထွက်ရမည်။ (ဆံပင်ဖြူခြင်း၊ အသားအရေတွန့်ခြင်း၊ မြေးရသောအခါကိုဆိုသည်။)

(၄) စတုတ္ထအရွယ် ။ ။ မိမိနှင့်ပါလာသော မယားကိုပါ စွန့်၍ ရသေ့ ဘဝဖြင့် တစ်ဦးတည်း ကျင့်ကြံနေရမည်။

ရှေးခေတ် အိန္ဒိယဓလေ့အရ အရွယ်ကြီးရင့်သူတို့မှာ ရသေ့ဝတ်၍ တောထဲ၌ တစ်ယောက်တည်း နေကြရသည်။ နိပါတ်တော်ဇာတကများတွင် ရသေ့များစွာ ပါရှိ နေသည်မှာ ထိုဓလေ့မှ ဖော်ထုတ်ပေးသော ဇာတ်ကောင်များဖြစ်ပေသည်။

## ရသေ့တို့ စိတ်ဖြေရာ ကျမ်းစာများ

ရသေ့တို့သည် ဖော်မပါတစ်ယောက်တည်း တောကြီးထဲမှာ နေရသဖြင့် ပျင်းရိ ဖွယ်ဖြစ်၏။ အလုပ်အကိုင်ကလည်းမရှိ၊ အားလပ်နေ၏။ ထို့ကြောင့် ရသေ့တို့သည် စိတ်ဝင်စားစရာများကို ရှာဖွေ၍ စိတ်ဖြေကြရသည်။ အာရုံ အစားထိုး၍ ဖြေဖျောက်ကြရသည်။

အချို့ရသေ့တို့သည် ထွက်သက်ဝင်သက်ကို မှတ်ခြင်းစသော အလုပ်တို့ဖြင့် စိတ်ကိုထိန်းချုပ်၍ ဖြေသိမ့်ကြသည်။ စိတ်တည်ငြိမ်မှုကို ရယူလျက် ငြိမ်းချမ်းစေ ကြသည်။ ဤကျင့်ကြံမှုများသည် နောင်အခါ၌ ဟိန္ဒူဘာသာထဲသို့ ဝင်ရောက်လာ သည်။ ဟိန္ဒူဘာသာ၌ 'ယောဂနည်း' ခေါ် ကျင့်ကြံမှုသည် အာနာပါနခေါ် ထွက်သက်ဝင်သက်ကို အခြေခံသော ကျင့်ထုံးဖြစ်ပေသည်။

အချို့ရသေ့တို့သည် နေကြတ်၊ လကြတ် စသည်တို့ကို မှတ်သား၍ လူ့ကမ္ဘာ ၏ ဖြစ်ရပ်တို့နှင့် ယှဉ်ဟပ်ကြည့်ကြသည်။ လူ့ကမ္ဘာ၏ ဖြစ်ရပ်တို့နှင့် တိုက်ဆိုသော အခါ ဤသို့ နိမိတ်ပြလျှင် ထိုသို့ဖြစ်တတ်သည်-စသည်ဖြင့် မှတ်သားထားကြ၏။

အချို့ရသေ့တို့သည် သစ်မြစ်၊ သစ်ရွက်တို့ကို ရောဂါဘယအတွက် လေ့လာ ကြသည်။ တွေ့ရှိသမျှကို မှတ်တမ်းပြုကြသည်။ အချို့ရသေ့တို့သည် ဂဏန်းသင်္ချာ

တို့ကို အသုံးချ၍ လူ့ဘဝအဆိုးအကောင်းတို့ကို မှတ်တမ်းပြုကြသည်။ အချို့ရသေ့တို့သည် ကိုးကွယ်ရာပုဂ္ဂိုလ်တို့ကို ရှာဖွေဖော်ထုတ်ကြသည်။ ဂါထာမန္တန်တို့ကို ဖန်တီးရေးသားကြသည်၊ မှတ်တမ်းတင်ကြသည်။

ဤသို့ နည်းအမျိုးမျိုးဖြင့် စိတ်ဝင်စားစွာ လုပ်ကိုင်ကြရာမှ ကျင့်ဝတ်ကျင့်ထုံးများစွာ ပေါ်ပေါက်လာခဲ့သည်၊ ယုံကြည်စရာများစွာ ပေါ်ထွန်းလာခဲ့သည်။ ထို့ကြောင့် ရသေ့တို့ရေးသော ကျမ်းစာတို့ကို အလုပ်မရှိသောကြောင့် အလုပ်ရှာကာ ရေးသားခဲ့ခြင်းဖြစ်သည်ဟု ဆိုခဲ့ခြင်းဖြစ်ပေသည်။

ရသေ့တို့ ရေးသားခဲ့သော ကျမ်းစာတို့မှာ အများအားဖြင့် သိပ္ပံနည်းကျလေ့လာခဲ့သော အတတ်ပညာများမဟုတ်ပေ၊ သာမန်တိုက်ဆိုမှုကို အခြေပြု၍ အတည်ထင်ကာ မှတ်တမ်းတင်ထားသော စာများဖြစ်ရာ ကေန်မှန်လှပြီဟူ၍ ယုံကြည်စွဲမှတ် မထားအပ်ချေ။

ပုံစံအားဖြင့် နေကြတ်၊ လကြတ် ဟောကိန်းမျိုးကို ကြည့်သင့်သည်။ ရှေးခေတ်က နေ၊ လတို့ ကြတ်ခြင်းကို ရေကြီးခွင်ကျယ်လုပ်၍ ဟောကိန်းများပြုလုပ်ထားရာ အလွန်ကြောက်မက်ဖွယ်ကဲ့သို့ ထင်မှတ်နေရသည်၊ အမှန်မှ နေ၊ လ၊ ကမ္ဘာတို့ တည်စုရာ စကြဝဠာ၌ ဤသို့ပင် နှစ်စဉ်ဖြစ်ပေါ်နေကြမည်ဖြစ်၏။ ကြောက်စရာ မရှိ၊ လန့်စရာ မရှိ၊ သဘာဝအရ ဖြစ်တည်မှုဟူ၍ နားလည်လာကြ၏။ ရှေးခေတ်က ဟောကိန်းများ အဓိပ္ပာယ်မရှိတော့ချေ။

ဗေဒင်ဟောခြင်းဟုဆိုသော လုပ်ငန်းမှာလည်း ရသေ့တို့၏ စိတ္တဇမှတ်တမ်းများစွာထဲက စိတ်ကူးယဉ် မှတ်တမ်းပွားတစ်ခုသာ ဖြစ်သည်။ ဗေဒင်ဟောခြင်းမှာ ဂဏန်းသင်္ချာတို့ကို ပေါင်း၊ နုတ်၊ မြှောက်၊ စား ၄-ပါးသောလှုပ်ရှားမှုဖြင့် လက်ကစားပြီးလျှင် လူတို့၏ ဘဝကြမ္မာကို ဖြေရှင်းပေးနေသော လုပ်ငန်းဖြစ်သည်။

ရှေးခေတ်အိန္ဒိယနိုင်ငံတွင် ဗြာဟ္မဏတို့သည် ဘာသာရေး၏ ဦးဆောင်ပုဂ္ဂိုလ်များဖြစ်ကြသည်။ ၎င်းတို့သည် ဘာသာရေးဆိုင်ရာ လုပ်ငန်းများကို တာဝန်ယူ၍ ဆောင်ရွက်ကြသည်။ ဘာသာရေးကို ကျွမ်းကျင်သော ဗြာဟ္မဏများမှာ မင်းဆရာ၊ ပုရောဟိတ်များအဖြစ် အမှုထမ်းကြသည်။

မင်းမသုံးသော ဗြာဟ္မဏများမှာမူ မိမိတို့ ဘဝရပ်တည်မှုအတွက် ဗေဒင်ဆရာများအဖြစ်လည်းကောင်း၊ အခြားအတတ်ပညာတို့ဖြင့်လည်းကောင်း၊ အသက်မွေးကြရသည်။

ဗေဒင်ဆရာများသည် လူသားတို့၏ ဘဝတစ်ခုလုံးကို ဗေဒင်ကိန်းဂဏန်း

အောက်သို့ သိမ်းသွင်းခဲ့ကြသည်။ လူတို့အသုံးပြုနေသော အက္ခရာများကိုလည်း ဂြိုဟ်နတ်များဖြင့် ချဉ်းကပ်၍ အသုံးချထားကြသည်။ က၊ ခ စသောအက္ခရာများကို တနင်္လာ စသောဂြိုဟ်တို့က ပိုင်စိုးသည်ဟု ဆိုကြသည်။ နာမည်မှည့်သည့်အခါ၌လည်း နေ့သင့်၊ နံသင့် အက္ခရာသတ်ပုံဖြင့် မှည့်ခေါ်ကြသည်။ ဂြိုဟ်နတ်တို့သည် အက္ခရာသတ်တို့ကို မည်သည့်ခေတ်က ခွဲတမ်းချ၍ ယူခဲ့ကြသနည်း။ မည်သူက အပိုင်စား ပေးခဲ့သနည်း ဆိုသော မေးခွန်းကိုမူ အဖြေပေးနိုင်သူ မတွေ့ရချေ။

လူတို့သည် မိမိတို့၏ ကောင်းမှု၊ ဆိုးမှုတို့ကို ဗေဒင်အတတ်က ပြုပြင်ပြောင်းလဲ ပေးနိုင်သည်ဟူသော အနုမာနစွဲလမ်းချက်ဖြင့် ဗေဒင်မေးကြသည်။ ယတြာချေကြသည်။ ယတြာချေ၍ ကျေမကျေမသိ၊ ငွေကတော့ လက်တွေ့ကုန်၏။

လူတို့သည် ရက်ရာဇာ၊ ပြဿဒါး၊ ဝါရမိတ္တူ၊ အိမ်ထောင်ဖက်၊ မိတ်ဖက်၊ ရန်ဖက်၊ ဓာတ်ဖက်၊ လာဘ်နေ၊ နတ်နေ၊ စက်နေ၊ ရေချိုးနေ့၊ ခေါင်းလျှော်နေ့၊ သမားပြုနေ့၊ တာနေ့၊ စသည်ဖြင့် ရှောင်စရာ အမျိုးမျိုး၊ ဆောင်စရာအဖုံဖုံ ပေါက်ကရမျိုးစုံကို ယုံကြည်နေကြလေသည်။

လူတို့သည် မိမိတို့၏ဘဝနှင့် ဘဝခံစားမှုများ ထိခိုက်မည်ကို စိုးရိမ်ကြသည်။ ဤစိုးရိမ်မှုသည် လူတို့၏ပင်ကိုဉာဏ် စွမ်းရည်ကို အားပျော့စေခဲ့သည်။ မိမိတို့၏ ဘဝကို ထိခိုက်တတ်သည်ဟု ကြားဖူးလျှင် ဘာကိုမျှ မလုပ်ဝံ့ကြတော့။ ယုတ္တိရှိ မရှိ ကိုလည်း မဆင်ခြင်နိုင်တော့ပေ။

"သောကြာ ရေကြောင်း၊ မသွားကောင်း" ဟူသော ဆောင်ပုဒ်ကြောင့် လှေ သင်္ဘောသွားလာမှုလုပ်ငန်းများ နှောင့်နှေးကြရသည်။ 'တနင်္လာ တစ်ခါနှင့်မပြီး' ဟူသော ဆောင်ပုဒ်ကြောင့်လည်း ရက်ရွှေ့နေတတ်ကြသေးသည်။

**မြန်မာနိုင်ငံ၌ ဗေဒင်ဆရာတို့က စိတ္တဇဝေဒနာကို အားဆက် ပေးထားသော ဆောင်ပုဒ်များ၊ လင်္ကာများ၊ ကျမ်းစာများမှာ ဖတ်၍မကုန်၊ ရွတ်၍မခန်း၊ တင်းကျမ်းရှိနေလေသည်။**

မြန်မာနိုင်ငံသားအချို့သည် ၁၃-ဂဏန်းကြောက်ရွံ့မှုကိုလည်း ယုံကြည်လာကြပြီ။ ၁၃-ဂဏန်းကို ကောင်းကျိုးမပေးသောဂဏန်း ဟူ၍ယုံမှတ်ကာ လက်မခံချင်ကြ။ ဤကြောက်ရွံ့မှုမှာ ခရစ်တော်၏ အတ္ထုပ္ပတ္တိ၌ လာသော ကျမ်းစကားအရ ဖြစ်ပေါ်နေသော အယူအဆဖြစ်သည်။'ရှေးဦးစွာ ခရစ်ယာန်ဘာသာဝင်တို့ လက်ခံယုံကြည်ကြသည်။ ဗုဒ္ဓဘာသာနှင့် ဘာမျှမပတ်သက်ပေ။ ယခုအချိန်တွင် အရှေ့တိုင်းသို့လည်း ကူးစက်လာပြီ။ ကယောင်ကတမ်းနှင့် ယောင်ယမ်းပြီး ကြောက်နေ

ကြပြီ။ ဂဏန်းဆိုသည်မှာ အရေအတွက်ကို ဖော်ပြသော အမှတ်လက္ခဏာ ဖြစ်သည်ဟု အမှန်မမြင်နိုင်ကြပေ။

လူသားတို့၏ ယုံကြည်မှုသည် အယူသည်းမှုများ ပြင်းထန်နေပါက တိုးတက်မှုကို အနှောင့်အယှက်ဖြစ်စေသည်။ လူ၏လွတ်လပ်မှုကို အဟန့်အတား ဖြစ်စေသည်။

လူမျိုးတစ်မျိုး၊ နိုင်ငံတစ်နိုင်ငံသည် စိတ္တဇယုံကြည်မှုများ အစွဲသန်နေပါက လူမျိုး၏နိမ့်ကျခြင်း၊ နိုင်ငံ၏ ဆုတ်နစ်ခြင်းကို ဖြစ်စေလေသည်။

## နဂါးကိုးကွယ်မှု လက်ကျန် ယုံကြည်မှု

နဂါးကိုးကွယ်မှုသည် ယခုအခါ မြန်မာနိုင်ငံ၌ မရှိတော့ပေ။ အနော်ရထာမင်းလက်ထက် ကိုးကွယ်မှုသန့်စင်ရေး ဆောင်ရွက်စဉ်က အပြီးအပိုင် ပျောက်ကွယ်ခဲ့ပြီ။

အနော်ရထာမတိုင်မီက မြန်မာနိုင်ငံ၌ နဂါးကိုးကွယ်မှုများ ထွန်းကားခဲ့ဖူးသည်။ မြန်မာ့ ရှေးဦးရာဇဝင်တို့ကို ကြည့်လျှင် နဂါးကိုးကွယ်မှု အမှတ်သင်္ကေတများကို တွေ့ရှိနေရ၏။

မြန်မာရာဇဝင်၌ ပျူစောထီး၏ အမိသည် နဂါးမင်းသမီးဖြစ်သည်ဆို၏။ ဒွတ္တပေါင်မင်း၏ မိဖုရား ဘေစန္ဒီသည်လည်း နဂါးမင်း၏ သမီးဖြစ်သည်ဆို၏။ ထိုသူတို့မှာ နဂါးကိုးကွယ်သူ နဂါးဘာသာဝင်များဟူ၍ သဘောပေါက်တတ်ရပေမည်။

နဂါးကိုးကွယ်မှုသည် ညောင်ဦးစောရဟန်းမင်းလက်ထက်တွင် အထွန်းကားဆုံး ဖြစ်သည်။ ထိုမင်းသည် မိမိနေထိုင်ခဲ့ရာ သခွားယာခင်းထဲ၌ နဂါးရုပ်ကြီးပြုလုပ်သည်။ နဂါးသည် လူတို့ထက် မြတ်သည်ဟုဆိုကာ ကိုးကွယ်ဆည်းကပ်သည်။ အနော်ရထာမင်းလက်ထက် ရောက်သောအခါ နဂါးကိုးကွယ်မှု ပျောက်ကွယ်သွားသည်။ အိန္ဒိယနိုင်ငံ၌မူ ယနေ့တိုင် နဂါးကိုးကွယ်မှု ရှိနေသေးသည်။ ထိုနဂါးကိုးကွယ်သော အလေ့မှာလည်း အိန္ဒိယနိုင်ငံမှပင် စတင်ခဲ့လေသည်။

နဂါးကိုးကွယ်မှုကို ထူထောင်ခဲ့သူတို့မှာ အိန္ဒိယနိုင်ငံမှ ဒရာဗိဒိယန်လူမျိုးများ ဖြစ်သည်။ သူတို့သည် ဘီစီ ၃၀၀၀-ခန့်တွင် အိန္ဒုမြစ်ဝှမ်း ယဉ်ကျေးမှုကြီးကို ထူထောင်ခဲ့ကြ၏။ ထိုလူမျိုးတို့သည် သစ်ပင်၊ တော၊ တောင်စသည်တို့ကို ကိုးကွယ်ကြသည်။

ထို့ပြင် မြွေသတ္တဝါကို မြေ၏ အရှင်သခင်ဖြစ်သည်ဟု ဆိုကာ မြွေရုပ်များထု လုပ်ကိုးကွယ်ကြသည်။ မြွေကို နာဂဟု ခေါ်၏။ ထိုအချိန်မှစ၍ နဂါးကိုးကွယ်မှုထွန်းကားလာသည်။ အိန္ဒိယနိုင်ငံတွင် နဂါးကိုးကွယ်သူ နဂါးဘာသာဝင်များ အင်အားကြီးမားခဲ့သည်။နဂါးဘာသာဝင်တို့သည်လည်း နဂါးမျိုးဖြစ်ရသည်ကို ဂုဏ်ယူကာ မိမိတို့ကိုယ်ကို 'နဂါးမျိုး'ဟုခေါ်ဆိုခဲ့ကြသည်။နဂါးမျိုးတို့ကို အုပ်ချုပ်သူအားနဂါးမင်းဟုခေါ်သည်။ နတ်ကိုးကွယ်သူတို့ကလည်း မိမိတို့ကိုယ်ကို နတ်မျိုး (နတ်သား)၊ နတ်သမီးဟု ခေါ်ကြသကဲ့သို့ပင်တည်း။ ရှေးဟောင်းစာပေများတွင် နတ်သား၊နတ်သမီး၊နဂါးမင်း၊ နဂါးမဆိုသည်တို့မှာ မိမိတို့ကိုးကွယ်သော ဘာသာကို အမွှမ်းတင်၍ ခေါ်ဆိုထားခြင်းဖြစ်သည်ဟု နားလည်နိုင်ကြပေသည်။

နောင်အခါတွင် နဂါးကိုးကွယ်မှုဝါဒသည် ဒရာဗိဒီယန် လူမျိုးများရောက်ရှိရာ အရှေ့တောင်အာရှသို့ ကူးစက်ပြန့်ပွားသွားလေသည်။

မြန်မာနိုင်ငံ၌ နဂါးကိုးကွယ်မှု ပပျောက်သွားသော်လည်းနဂါးနှင့်ပတ်သက်သော အယူအဆများ လက်ခံယုံကြည်နေကြဆဲဖြစ်၏။ နဂါးသည် တစ်နှစ်လျှင် ၄-ကြိမ်မျှ ဦးခေါင်းပြောင်းလေ့ရှိသည်ဆို၏။

နဂါးဦးခေါင်းသည် တပေါင်း၊တန်ခူး၊ကဆုန်လတို့၌ အနောက်သို့လှည့်သည်။ နယုန်၊ ဝါဆို၊ ဝါခေါင်လတို့၌ မြောက်သို့လှည့်သည်။ တော်သလင်း၊သီတင်းကျွတ်၊ တန်ဆောင်မုန်းလတို့၌ အရှေ့သို့ လှည့်သည်။ နတ်တော်၊ ပြာသို၊ တပို့တွဲလတို့၌ အနောက်သို့လှည့်သည်ဟု ဆိုသည်။

တစ်စုံတစ်ယောက်သည် နဂါးခံတွင်းသို့ မဝင်ရ။ နဂါး၏အကြေးခွံကို လှန်မသွားရ။ သွားလျှင် ကံဆိုးမိုးမှောင်ကျတတ်သည်။ နဂါး၏ဝမ်းကိုဖောက်သွားမှသာလျှင် ကံကောင်းပြီးချမ်းသာသုခနှင့်ကြုံရမည်။ ဤအယူအဆဖြင့် လူတို့သည် အိမ်ယာပြောင်းလျှင်လည်းကောင်း၊ ခရီးသွားလျှင်လည်းကောင်း နဂါးလှည့်သင့်အောင် စောင့်ဆိုင်းနေလေ့ရှိကြသည်။

ယခုအခါ ခေတ်မီအတွေးအမြင် ရှိသူတို့ကမူ ထိုအယူအဆကို လက်မခံကြတော့ပေ။ အစိုးရဝန်ထမ်းတို့မှာ လုပ်ငန်းပြောင်းရွှေ့လျှင် နဂါးလှည့်သင့်အောင် စောင့်နေ၍မရပေ။နဂါးလှည့်ကို ယုံကြည်နေ၍လည်းမဖြစ်။ အချိန်မဆိုင်းရွှေ့ကြရ၏။ သို့ရာတွင် ရှေးဟောင်းယုံကြည်မှုကို လက်ခံနေကြသော ကျေးလက်နွယ်ဖွားအရပ်သူ အရပ်သားများကမူ"နတ်နှင့်နဂါး မလှည့်စားနှင့်" ဟူသော ဆောင်ပုဒ်အိုဆောင်ပုဒ်ဆွေးကြီးဖြင့် ထောက်ထား ကျားကန်လျက်ရှိကြကုန်သေး၏။

## အတိတ် နိမိတ်စသည် ယုံကြည်မှု

မြန်မာနိုင်ငံတွင် အတိတ်နိမိတ်စသည် ယုံကြည်မှုလည်း များလှသည်။ ယုံကြည်စရာ ပြုလုပ်ထားသော အရာများလည်း များပြားလှ၏။ အတိတ်ဟော နိမိတ်ဟောကျမ်းများကိုကြည့်လျှင် သဘာဝလောက၌ ရှိသော ပစ္စည်းတို့၏ လှုပ်ရှားမှု မှန်သမျှကို အတိတ်နိမိတ်ထဲ၌ ထည့်သွင်းထားကြ၏။ ဟောကွက်၊ ပြောကွက်များ ပြုလုပ်ထားကြသည်။ မောင်းထောင်သာသနာပိုင် လူထွက် မဟာဓမ္မသင်္ကြံကဲ့သို့ ပုဂ္ဂိုလ်ကြီးများကလည်း နေမိတ္တကဝိဇ္ဇာကျမ်းမျိုးကို ရေးသားကာ စိတ္တဇဝေဒနာကို ပြန့်ပွားအောင် ပြုလုပ်ထားခဲ့ကြသည်။ ဤသို့ဖြင့် လူတို့၏စိတ်သန္တာန်ဝယ် အတိတ် စွဲ ရောဂါနိမိတ်ဖတ်ဝေဒနာများ ကပ်ရောက် နေရလေသည်။

ဤအတိတ်နိမိတ်ယုံကြည်မှုများမှာလည်း အများအားဖြင့် အိန္ဒိယမှပင် ကူးစက်လာသော ယုံကြည်မှုများဖြစ်သည်။ ဗြာဟ္မဏခေါ် ပုဏ္ဏားတို့၏လက်ရာ ကျမ်းအစဉ်အလာဟု သိရပေသည်။

ဟိန္ဒူဝေါဒ ကျင့်ထုံးများတွင် 'သန္တိ'ခေါ် ကျင့်စဉ်တစ်ခုရှိသည်။ ထိုကျင့်စဉ်မှာ အတိတ်ဆိုး၊ နိမိတ်ဆိုးများ တွေ့ကြုံသည့်အခါ ဘေးအန္တရာယ် ကင်းစင်ရေး အတွက် ယဇ္ဇာချေရသော အလုပ်ဖြစ်၏။

အိမ်၌ထွန်းထားသော မီးခွက် ရုတ်တရက်ငြိမ်းခြင်း၊ အိမ်မြှောင်ကျခြင်း၊ စုတ်ထိုးခြင်း၊ မကောင်းသောအိပ်မက်မက်ခြင်း၊ လင်းတနားခြင်း၊ ငှက်ဆိုးထိုးခြင်း၊ ရွာတွင်းသို့ တောတိရစ္ဆာန်ဝင်ခြင်း စသောအမှုများကို အတိတ်ဆိုးနိမိတ်ဆိုးဟု သတ်မှတ်ထားသည်။ ထိုအခါမျိုးတွင် ပုဏ္ဏားများအား ပင့်ဖိတ်၍ လှူဖွယ်ဝတ္ထုများ လှူဒါန်းပြီးလျှင် တန္တရ၊ မန္တရများကို ရွတ်ဖတ်ရသည်။ ထိုသို့ရွတ်ဖတ်မှ အန္တရာယ် များ ကင်းပျောက်သွားသည်ဟု ယုံကြည်ကြသည်။ ဟိန္ဒူဗြာဟ္မဏတို့၏ ယုံကြည် ချက် ဖြစ်သည်။

ဤတွင် အတိတ်နိမိတ်ဆိုသော စကားကို မြန်မာတို့က ရောထွေးခေါ်ဆို နေကြ၏။ အတိတ်နိမိတ်ဝေါဟာရတို့ကို မြန်မာအဘိဓာန်ကျမ်းများ၌ ဤသို့ ဖွင့်ပြထား၏။

အတိတ်ကို "နောင်လာမည့်ကာလတွင် ဖြစ်ပျက်မည့်အကြောင်းကို သိစေ နိုင်သော နိမိတ်၊ နောင်အခါတွင် ဖြစ်ပျက်မည့်အခြင်းအရာ၏ ရှေ့ပြေးဖြစ်ရပ် လက္ခဏာ စသည်"ဟု ဖွင့်ပြပါသည်။

နိမိတ်ကို "ကောင်းမည်၊ ဆိုးမည်၊ ဖြစ်မည်၊ ပျက်မည် စသည်တို့ကို ကြိုတင် သိစေနိုင်သော အမှတ်လက္ခဏာ"ဟု ဖွင့်ပြပါသည်။

ဤဖွင့်ဆိုချက်ကို လေ့လာပါက သဘောသွားချင်း တူညီနေသည်ကို တွေ့ရပါသည်။ အမှန်မူ အတိတ်နှင့် နိမိတ်သည် ခြားနားမှုရှိရပါမည်။ ခြားနား၍သာ ခွဲခြားအသုံးပြုခဲ့ခြင်း ဖြစ်ပါမည်။ စာရေးသူ၏ သဘောထားဖြင့်ပြောရလျှင် အတိတ်ဆိုသည်မှာ ယုတ္တိမဲ့အယူအဆဖြစ်ပါသည်။ နိမိတ်မှာမူ ယုတ္တိရှိ၊ ယုတ္တိမဲ့ နှစ်မျိုးကို အခြေခံနေပါသည်။

ရှင်းပါဦးမည်။ အိပ်မက်တိတ္တုံခေါ်သော ကျမ်းစာများကို တွေ့ဖူး၊ ကြားဖူးကြပေလိမ့်မည်။ ဤသို့မြင်မက်လျှင် ဤသို့ဖြစ်မည် စသည်ဖြင့် ဟောစာတမ်းအမျိုးမျိုး ပြုလုပ်ထားသည်။အိပ်မက်သည် လူတိုင်းလိုလိုမြင်မက်နေကြသည်။ အိပ်မက်ကောင်းလည်း မက်သည်၊ အိပ်မက်ဆိုးလည်းမက်သည်။ အိပ်မက် ကောင်းလျှင် အတိတ်ကောင်းသည်။ အိပ်မက်မကောင်းလျှင် အတိတ်မကောင်း၊ အတိတ်ကောင်း မကောင်းကို ကြည့်၍ အကျိုးပေးကောင်း၊ မကောင်းကို ဟောဆိုကြသည်။ ဤသို့သောအတိတ်ဟောများမှာ ယုတ္တိမဲ့ ဟောဆိုချက် များသာဖြစ်သည်။ အိပ်မက်၏ အကျိုးကို ဟောပြ၍လည်း မှန်ကန်လိမ့်မည်မဟုတ်ချေ။

မြန်မာရာဇဝင်ကျမ်းများ၌ အိပ်မက်အကျိုးပေး ဇာတ်လမ်းများကို တွေ့ရှိနေရ၏။ ဤသည်မှာ ရှေးခေတ်ယုံကြည်မှုအရ အစွဲအလမ်းကို အခြေခံသော မှတ်တမ်းများသာ ဖြစ်ပါလိမ့်မည်။ ဤတွင် ကောသလအိပ်မက် ၁၆-ချက်ကို ကိုးကား၍ အငြင်းမပွားစေလိုပါ။ ဗုဒ္ဓဘုရားရှင်သည် လူတို့၏ သဘာဝဖြစ်စဉ်ကို ကောသလအိပ်မက်အမြင်နှင့် ယှဉ်စပ်၍ ဟောကြားထားခဲ့ခြင်း ဖြစ်လေသည်။

မြန်မာရာဇဝင်ကို ဖတ်လျှင် မြန်မာမင်းများ ကံကုန်တိုင်း အတိတ်များ ပြစမြဲဖြစ်နေ၏။ ထိုအတိတ်များမှာ ဘုရင်ကံကုန်ပြီးမှ ဖြစ်ပေါ်ခဲ့သော အတိတ်များကို ပြန်ပြောင်းလေ့လာ၍ ရေးသွင်းခဲ့ခြင်း ဖြစ်နိုင်လေသည်။ အချို့မှာလည်း ရာဇဝင်ဆရာတို့၏ ဖန်တီးမှုများ ဖြစ်နိုင်ပေသည်။

အနော်ရထာမင်း အနိစ္စရောက်လိုသော် နန်းတော်ဥကင်သ၌ ပျားစွဲ၏ စသည်ဖြင့် ရာဇဝင်ဆရာတို့က ဆို၏။ ပျားစွဲသော အသေးအဖွဲကိစ္စကလေးကို မှတ်တမ်းတင်နိုင်သော ရာဇဝင်ဆရာတို့သည် အလွန်အရေးကြီးသော အနော်ရထာမင်း၏အလောင်း ဘယ်ရောက်သွားသည်ဟု ရာဇဝင်ဆရာတို့ တိကျစွာ မရေးတတ်ခဲ့ချေ။

နိမိတ်မှာမူ ယုတ္တိရှိ၍ မှန်သည်လည်းရှိ၏။ ယုတ္တိမဲ့သော နိမိတ်လည်းရှိသည်။ ဘုရားအလောင်းသည် သူအို၊ သူနာ၊ သူသေ၊ ရဟန်းဟူသော နိမိတ် ၄-ပါးကို မြင်ခဲ့သည်။ ဤနိမိတ်များကြောင့် သံဝေဂရ၍ တောထွက်ခဲ့သည်။ ဘုရားဖြစ်ခဲ့သည်။ ဤနိမိတ်သည် ယုတ္တိရှိ၏။ အကျိုးဆက်အမှန်ကို ပေါ်ပေါက်စေ၏။ ယခုနှစ် မိုးကောင်း၍ သီးနှံများရကြသည်။ မိုးရွာခြင်းသည် သီးနှံထွက်မည့် နိမိတ်ကောင်း ဖြစ်သည်။ ကလေးတစ်ယောက်သည် ဉာဏ်ကောင်း၏၊ ဝီရိယကောင်း၏။ ထိုကလေးသည် စာတော်လိမ့်မည်ဟု နိမိတ်ဖတ်ခြင်းသည် ယုတ္တိရှိသည်။ မှန်ကန်နိုင်သည်။ သဘာဝကျသော နိမိတ်လက္ခဏာများ ဖြစ်ပေသည်။

ထို့ပြင်သဘာဝမကျ၊ ယုတ္တိမရှိသော နိမိတ်ဟောများလည်း များစွာရှိသည်။ ပုံစံအားဖြင့် လျှော်လှော် နိမိတ်ဟောမျိုးဖြစ်သည်။ တနင်္ဂနွေနေ့ လျှော်လှော်လျှင် ဘာဖြစ်မည်- စသည်ဖြင့် ဟောကိန်းလင်္ကာ ကဗျာအတိုအစများကို ပြုလုပ်ထားကြ၏။ ဤဟောကိန်းများမှာ တစ်ခါတစ်ရံမှ လျှော်လှော်သော နိုင်ငံသားတို့ ပြုလုပ်ထားသည့် ဟောကိန်းများဖြစ်သည်။ ဂျပန်နိုင်ငံကဲ့သို့ အမြဲတမ်း လျှော်လှော်နေသော နိုင်ငံအတွက်မူ ဘာမျှအသုံးမဝင်တော့ချေ။

အတိတ်နိမိတ်ဟော စာတမ်းများတွင် တိမ်နိမိတ်၊ ကြယ်တံခွန်နိမိတ်၊ ငှက်မြည်သံနိမိတ်၊ ကြွက်ခဲနိမိတ်၊ တောင်ပို့ပေါက်နိမိတ်၊ ပျားစွဲနိမိတ်၊ ငှက်နားနိမိတ်၊ နေအိမ်ဖွဲ့နိမိတ်၊ လအိမ်ဖွဲ့နိမိတ် စသည်ဖြင့် အများအပြား ရှိပေသည်။

ဤအတိတ်စွဲ နိမိတ်စွဲ အယူအဆများသည်လည်း လူသားတို့၏ စိတ်ပိုင်းဆိုင်ရာ လွတ်လပ်မှု၊ ရုပ်ပိုင်းဆိုင်ရာ ဖွံ့ဖြိုးမှုကို အန္တရာယ်ပြုနေသော ယုံကြည်မှုများဖြစ်သည်။ ဗုဒ္ဓဘုရားရှင်ကလည်း ဤအတိတ်နိမိတ်များကို လက်မခံဘဲ တော်လှန်ဟောကြားခဲ့လေသည်။

## မန္တန်ရွတ်ဆို ယုံကြည်မှု

ဂါထာမန္တန် ရွတ်ဆိုမှုများသည် ယနေ့ ခေတ်စားလာနေသော လုပ်ငန်းတစ်ရပ်ဖြစ်သည်။ ဂါထာမန္တန်ကို ဦးစားပေးသော စာစောင် မဂ္ဂဇင်းများလည်း လက် ၁၀-ချောင်းမက များလှသည်။ ဗုဒ္ဓဘာသာ ဆိုင်းဘုတ်တပ်၍ ဘိုးတော်၊ မယ်တော်တို့အကြောင်း၊ အစွမ်းထက်သော ဂါထာမန္တန်တို့အကြောင်းကို ဦးစားပေးဖော်ပြနေကြသည်။ ဂါထာရွတ်သဖြင့် စီးပွားဥစ္စာတိုးတက်ကြောင်း၊ ရောဂါဝေဒနာပျောက်ကင်းကြောင်း ရေးသားကြသည်။ ကင်ဆာရောဂါပင် ပျောက်ကင်းကြောင်း

ရေးသားဖော်ပြသည်ကို တွေ့ရဖူးသည်။ နောက်ဆိုလျှင် အေအိုင်ဒီအက်စ် ရောဂါပါ ပျောက်ကင်းဦးမည်လား မသိပေ။

ဂါထာမန္တန် ရွတ်ဆိုမှုသည် ဟိန္ဒူဗြာဟ္မဏတို့၏ ဓလေ့ထုံးစံ တစ်ခုဖြစ်သည်။ ဗြာဟ္မဏတို့သည် ဂါယတြီခေါ် မန္တန်မျိုးကို ကိစ္စတစ်ခု ဆောင်ရွက်တော့မည်ဆိုလျှင် ၁၀-ကြိမ်လောက် ရွတ်ဖတ်ကြရသည်။ နေထွက်ချိန်၊ နေဝင်ချိန်တို့၌လည်း မန္တန်ကို ရွတ်ကြရသည်။ အကြိမ် ၁၀၀၀-ပြည့်အောင် ရွတ်ဆိုလျှင် အကုသိုလ်ဟူသမျှ ကင်းစင် ပပျောက်နိုင်သည်ဟူ၏။

ဟိန္ဒူဗြာဟ္မဏတို့သည် ဂါထာမန္တန်ရွတ်ဆိုရာ၌ 'ဥုံ' ဟူသော ဝေါဟာရကို ရှေးဦးထား၍ ရွတ်ဆိုကြရသည်။ ဤဝေါဟာရမှာ အ၊ ဉ၊ မ ဟူသော အက္ခရာ ၃-လုံးကို ပေါင်းစည်းရွတ်ဆိုသော ဝေါဟာရ ဖြစ်သည်။ အ အက္ခရာသည် ဗိဿနိုးနတ်ကို ဟော၏။ ဉ အက္ခရာသည် သိဝနတ်ကို ဟော၏။ မ အက္ခရာသည် ဗြဟ္မာနတ်ကို ဟော၏။ နတ်ဘုရားကြီး ၃-ဦးကို တစ်ပြိုင်တည်းပါစေရန် ပေါင်းစည်း ရွတ်ဆိုသောအခါ 'ဥုံ'ဟု ဖြစ်လာသည်။ အုမ်ဟု အသံထွက်ရ၏။ သက္ကတဘာသာ၌ 'ဩမ်' ဟုရေးသည်။

ဤဥုံခံသော ဂါထာမန္တန်တို့ကို မဟာယာန တန္တရဂိုဏ်းသားများက ယူ၍ အသုံးပြုကြသည်။ ဤဥုံရွတ်ဆိုမှုသည် မြန်မာနိုင်ငံသို့လည်း ကူးစက် ရောက်ရှိလာသည်။ မြန်မာတို့သည် ဂါထာမန္တန်ရွတ်ဆိုလျှင် ဥုံခံ၍ ရွတ်ဆိုကြသည်။ အမှန်မူ ဥုံဂါထာမှာ ဗုဒ္ဓဘာသာနှင့် လုံးဝပတ်သက်ခြင်းမရှိချေ။

မြန်မာနိုင်ငံ၌ ဂါထာမန္တန်ရွတ်ဆိုမှုများလည်း အိန္ဒိယမှကူးစက်လာသော လုပ်ငန်းဖြစ်ကြောင်းမငြင်းဆိုနိုင်ကြပေ။ဂါထာမန္တန်တို့၏တန်ခိုးကို ဟိန္ဒူဗြာဟ္မဏများ ယုံကြည်သလိုပင် မြန်မာတို့ကလည်း ယုံကြည်ကြသည်။ အနော်ရထာမတိုင်မီက အရည်းကြီးတို့သည် ဂါထာတန်ခိုးကို အမျိုးမျိုး အသုံးပြုကြသည်။ ဂါထာမန္တန် ရွတ်ဆိုလျှင် အကုသိုလ်မှန်သမျှ ကင်းစင်ပပျောက်နိုင်သည်ဟူသော အယူအဆမှာလည်း ဟိန္ဒူဗြာဟ္မဏတို့၏အယူဝါဒအတိုင်းပင် ဖြစ်လေသည်။

နောင်အခါတွင် ဗုဒ္ဓဒေသနာ ဂါထာတော်တို့ကိုပင် ဥုံခံ၍ ရွတ်ဆိုလာကြသည်။ ဥုံဝေါဟာရနှင့် ဗုဒ္ဓဒေသနာတို့မှာ ဘာမျှပတ်သက်မှုမရှိသည်ကို တွေ့သိနားလည်မှု မရှိခဲ့ကြပေ။

မြန်မာနိုင်ငံတွင် ဂါထာမန္တန်တို့ကို ပါဠိ၊ သက္ကတတို့ဖြင့်သာ ရွတ်ဆိုမန်းမှုတ်ကြသည်မဟုတ်။ မြန်မာတို့ပြုလုပ်သော မြန်မာဘာသာမန္တန်များလည်း ပေါ်ပေါက်ခဲ့

သည်။ တီထွင်ခဲ့သည်။ ဥဒါဟရဏ်အားဖြင့် ကာယသိဒ္ဓိဂါထာဟုခေါ်သော မန္တန် တစ်ပုဒ်ကို ညွှန်ပြပါမည်။

"ဥုံ ငါ၏ရန်ကား လွတ်လေ ရှားလေ ဝေးစွာရှဲ၊ ဥုံ ရှင်မောဂ္ဂလန်- ရန်တကာကို ရွှေလက်ဝါးတော်နှင့် ကာဆရာ့ကာ၊"

ဤဂါထာဖြင့် သပြေပင်ကို ခြေနှင့်ကန်၍ ၃၇-ခေါက်ရွတ်ပါ။ ရွတ်ပြီးလျှင် ၄င်းသပြေပင်က သပြေပန်းကိုချိုး၍ ပန်လေ၊ ဆောင်လေ။ ကာယသိဒ္ဓိကောင်းလှ သည်ဟူ၏။

ရှင်မောဂ္ဂလာန်မထေရ်သည် သူ့ရန်သူကိုပင် ကာကွယ်နိုင်ခြင်းမရှိဘဲ ဝင့်ကြွေးအရ ခိုးသားငါးရာ အရိုက်ခံ၍ ပရိနိဗ္ဗာန်ပြုသွားခဲ့ပြီ။ ယခုချိန်တွင် မရှိတော့။ သို့ပါလျက် ရှင်မောဂ္ဂလာန်ကို သက်တော်စောင့်ရာထူးပေး၍ ကာကွယ် ရန် စေခိုင်းထားသောဂါထာမှာ ဗရုတ်သုတ်ခ ဂိုဏ်းသမားတို့ တီထွင်ထားသော ကပြက်ကချော် ဂါထာတစ်ပုဒ်သာ ဖြစ်ပေသည်။

မကြာမီက မြန်မာပြည်တွင် ချိတ်ဆွဲစရာ ဆိုင်းဘုတ်ဂါထာတစ်ခုလည်း ခေတ်စားခဲ့ဖူးသည်။ ထိုဂါထာမန္တန်မှာ 'ဥုံ မဏိပဒ္မေဟုံ' ဖြစ်သည်။ ၄င်းဂါထာ မန္တန်ကို အိမ်ပေါ်မှာ၊ ယာဉ်ပေါ်မှာ၊ ဆိုင်ပေါ်မှာ၊ နေရာတကာမှာ တွေ့ရ၏။

ဤမန္တန်သည် မဟာယာနဂိုဏ်းမှ အဝလောကိတေသရ ဘုရားလောင်းနတ် ကို ပူဇော်သောဂါထာ ဖြစ်သည်။ အဓိပ္ပာယ်မှာ- 'ပတ္တမြားရတနာနှင့်တူသော အဝလောကိတေသရအရှင်သည် ကြာပွင့်ကြီးထဲက ဖြစ်ထွန်းလာသလို အကျွန်ုပ်၏ နှလုံးအိမ်မှလည်း ဗောဓိဉာဏ် ဖြစ်ထွန်းပါစေ။'
ဟူ၍ဖြစ်ပေသည်။

မြန်မာပြည်၌ ထိုဂါထာ ရေပန်းစားနေစဉ် ထေရဝါဒသန့်စင်စေလိုသော မဂ္ဂဇင်းများက ချေဖျက်ရေးသားကြသဖြင့် နောက်ပိုင်းတွင် မှေးမှိန်သွားရလေသည်။

မြန်မာတို့သည် ဂါထာမန္တန်ရွတ်ဆိုရာ၌ အခေါက်အရေအတွက်ကို စိပ်ပုတီး ခေါ်သော အကွင်းဖြင့် လုံးရေမှတ်၍လည်းကောင်း၊ ပတ်ရေမှတ်၍လည်းကောင်း ရွတ်ဆိုကြသည်။ ဤသို့စိပ်ပုတီးဖြင့် လုံးရေ ပတ်ရေမှတ်၍ စိပ်ခြင်းမှာလည်း ဟိန္ဒူ၊ ဗြာဟ္မဏတို့ထံမှပင် ကူးစက်လာသော လုပ်ငန်းဖြစ်ကြောင်း သိရှိရပေသည်။

## စိပ်ပုတီးပြဿနာ အမြေရှာ

ရှေးခေတ်က တရုတ်နှင့်ပီရှားနိုင်ငံများတွင် ချည်ကြိုးဖြင့် အထုံးပုတီးပြုလုပ်ပြီး

မှတ်တမ်းမှတ်ရာသဘော အသုံးပြုခဲ့ကြသည်။ တစ်ဖန် ဗြာဟ္မဏ၊ ဟိန္ဒူ၊ ဂျိန်း၊ ခရစ်ယာန်၊ မူစလင်တို့လည်း သစ်စေ့ ဝါး၊ ဖန်၊ ကျောက်ပုတီးစသည်တို့ကို အသုံးပြုကြသည်။

မြန်မာဗုဒ္ဓဘာသာဝင်တို့သည်လည်း ပုတီးကို အဆင်တန်ဆာအဖြစ်လည်းကောင်း၊ ဘာသာရေးအသုံးအဆောင်အဖြစ်လည်းကောင်း အသုံးပြုခဲ့ကြသည်။ ဂိုဏ်းသမားတို့ကလည်း ဂိုဏ်းသုံးပစ္စည်းအဖြစ် အသုံးချကြသည်။

မြန်မာနိုင်ငံတွင် အဆင်တန်ဆာအဖြစ် ပုတီးများကို ပျူခေတ်ကပင်တွင်ကျယ်စွာသုံးစွဲနေကြသည်။ ဘာသာရေးအသုံးအဆောင် ပုတီးကိုကား နောက်ခေတ်ရောက်မှ သုံးစွဲခဲ့ကြခြင်းဖြစ်သည်။ ထိုဘာသာရေး အသုံးဖြစ်သော စိပ်ပုတီးမှာမူ ဟိန္ဒူတို့ထံမှ နည်းယူ၍ ပြုလုပ်ခဲ့ကြခြင်းဖြစ်သည်။

ဟိန္ဒူဝါဒကျင့်ထုံးများတွင် 'ဥပါသန' ခေါ် ကျင့်ထုံးတစ်ခုရှိသည်။ ဤကျင့်ထုံးမှာ ဘုရားထီး၊ ဘုရားမတို့၏ ဂုဏ်ကိုဖွဲ့ဆိုထားသော မန္တန်တို့ကို ရွတ်ဆိုရသည့် အလုပ်ဖြစ်သည်။ ထိုဂုဏ်တို့ကို ရွတ်ဖတ်ပူဇော်ရာ၌ 'ဇပ္ပ'ခေါ် စိပ်ပုတီးဖြင့် ရွတ်ဖတ်မှုလည်းပါဝင်သည်။ ထို့ကြောင့် ဟိန္ဒူတို့က စိပ်ပုတီးကို 'ဇပ္ပမာလာ' ဟု ခေါ်ကြသည်။

ဇပ္ပ = ရွတ်ဆိုခြင်း၊ သရဇ္ဈာယ်ခြင်း၊
မာလာ = ပန်း၊ သို့မဟုတ် အစဉ်အတန်း-

ဟူ၍အဓိပ္ပာယ်ရပေသည်။

ဇပ္ပမာလာ၏ အဓိပ္ပာယ်မှာ တစ်ခုခုကိုရွတ်ဆိုသောအခါ အကြိမ်ပေါင်းကို မှတ်သားရန်အတွက် သီကုံးထားသည့် အရာဝတ္ထုဟူ၍ ဖြစ်ပါသည်။ ဟိန္ဒူဘာသာတွင် ဗိဿနိုးဂိုဏ်းဝင်တို့သည် ၁၀၈-လုံးပုတီးကို အသုံးပြုလေ့ရှိကြ၏။ မြန်မာတို့ကလည်း ၁၀၈-လုံးကိုပင် အသုံးပြုများကြသည်။

မြန်မာနိုင်ငံတွင် ထေရဝါဒဗုဒ္ဓဘာသာဝင်တို့သည် မည်သည့်ခေတ်က စတင်သုံးခဲ့သည်ဟု မသိရပေ။ ပုဂံခေတ် အပယ်ရတနာလိုဏ်ဂူဘုရားအတွင်း၌ တွေ့ရသည့် နံရံဆေးရေး အထောက်အထားများအရ ဟိန္ဒူရသေ့ကြီးများဟု ယူဆရသော ရသေ့ကြီးများပုံတို့၌ စိပ်ပုတီးများကို ကိုင်ဆောင်ထားကြ၏။ ရသေ့တို့သည် စိပ်ပုတီးကိုကိုင်၍ မန္တန်ရွတ်နေဟန်ရှိသည်။

အင်းဝခေတ်တွင်မူ ဗုဒ္ဓဘာသာဝင်တို့လည်း စိပ်ပုတီးကို အသုံးပြုလာကြပြီဖြစ်သည်။ အင်းဝခေတ်တွင် ရာဇာဓိရာဇ်နှင့် စကြိုသူမြတ်တို့ တွေ့ဆုံပွဲတွင် သီတင်း

သည် ၃၀၀-တို့က စိပ်ပုတီးကိုယ်စီဖြင့် လိုက်ပါရကြောင်း သမိုင်းဟောင်းတို့၌ တွေ့ရှိရသည်။

ထေရဝါဒဗုဒ္ဓဘာသာဝင်တို့သည် ဟိန္ဒူတို့ထံမှ စိပ်ပုတီးအသုံးကို နည်းယူ၍ အသုံးပြုခဲ့ကြသည်။ ဤသို့ ကျင့်သုံးသည်ကို မှားသည်ဟု မဆိုနိုင်ပါ။ မည်သည့် အယူဝါဒမှ နည်းယူ၍ကျင့်သုံးသည်ဖြစ်စေ ဗုဒ္ဓဘာသာတို့က ဗုဒ္ဓဘာသာ နည်းဟန်ဖြင့် အသုံးပြုခြင်းသာ ပဓာနဖြစ်သည်။ ဟိန္ဒူတို့က မန္တန်ရွတ်ရာ၌ အသုံးပြုသည်။ ဗုဒ္ဓဘာသာတို့က ဗုဒ္ဓဂုဏ်တော် ရွတ်ပွားရာ၌ အသုံးပြုသည်။ ဤသို့ခြားနားသွားကြပါသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်တို့သည် ဂုဏ်တော်အာရုံ ပွားထုံရန်အလို့ငှာ စိပ်ပုတီးကိုအသုံးပြုသင့်ကြပါသည်။ စန္ဒရားသည် မြန်မာတို့တီထွင်သော တူရိယာ ပစ္စည်းမဟုတ်သော်လည်း မြန်မာတေးကို တီးခတ်ရန်အတွက် အသုံးပြုခဲ့ကြသကဲ့သို့ မှတ်ယူနိုင်ပေသည်။

သို့ရာတွင် အချို့ပုဂ္ဂိုလ်တို့သည် စိပ်ပုတီးနှင့်ပတ်သက်၍ ယုံကြည်မှု အပိုအကဲများ ဖြစ်လာပါသည်။ နံ့သာပုတီး၊ ကြုတ်တိုင်ပုတီး၊ ခတ်သားပုတီး၊ ပန်းပေါင်းပုတီး၊ ဂမုန်းပေါင်းပုတီး- စသည်ဖြင့် စိတ်ကူးပေါ်ရာ တီထွင်၍ အသုံးပြုလာကြသည်။ စိပ်ပုတီး၏ တန်ခိုးကိုလည်း အမျိုးမျိုးယုံကြည်လာကြသည်။ ပုတီးကို ရေစိမ်သောက်လျှင် ဘာရောဂါပျောက်မည်- စသည်မျိုးဖြစ်၏။ အချို့ပုဂ္ဂိုလ်တို့လည်း ပုတီးခေါင်းမှ ကြိုးအဖျားကိုကိုင်ကာ အသက်ဝင်လာသယောင်ထင်အောင် တောင်ရမ်း၊ မြောက်ရမ်းလုပ်ပြီး ပရမ်းပတာဟောကိန်းဖြင့် လုပ်စားနေကြသည်။ ဤယုံကြည်မှုမျိုးကား သဘာဝလွန် ယုံကြည်မှုဖြစ်လာသောကြောင့် အစွန်းရောက်ခဲ့လေပြီ။

ယခုအချိန်တွင် မြန်မာနိုင်ငံ၌ ဘိုးဘိုးအောင်ဆိုသူ၏ စိတ်ကူးယဉ် ဘိုးတော်ပုံ၌လည်းကောင်း၊ အခြားပုဂ္ဂိုလ် ပုံတို့၌လည်းကောင်း စိပ်ပုတီးထည့်၍ ထုလုပ်ရေးဆွဲကြသည်။ စိပ်ပုတီးသည် ဤမျှတွင်ကျယ်နေပြီ။ ထိုအထဲတွင် ရှင်သီဝလိပုံတော်ကို စိပ်ပုတီးဖြင့် ထုလုပ်ကြသည်ကား မလျော်ကန်လှပေ။ အဘယ်ကြောင့်ဆိုသော် ရှင်သီဝလိခေတ်က စိပ်ပုတီးကို အသုံးပြုလေ့မရှိသောကြောင့်တည်း။

## သိဒ္ဓိတင်ခြင်း

ယနေ့မြန်မာနိုင်ငံ၌ သိဒ္ဓိတင်သောအလုပ်ကိုလည်း လူအတော်များများ လက်ခံယုံကြည်နေကြ၏။ သိဒ္ဓိတင်ခြင်းဆိုသည်မှာ ပါဠိဘာသာ သိဒ္ဓိဝေါ ဟာရပုဒ်

နှင့် မြန်မာဘာသာ တင်ဟူသောဝေါဟာရနှစ်ခုကို ပေါင်းစပ်၍ 'သိဒ္ဓိတင်'ဟု ခေါ် ဆိုနေခြင်းဖြစ်သည်။

ဤတွင် သိဒ္ဓိဟူသောပုဒ်ကို အနက်အဓိပ္ပာယ် ရှာဖွေကြည့်ပါက အဘိဓာန် ပါဠိ၌ သိဒ္ဓိပုဒ်၏အဖွင့်မရှိ။ ပရိယာယ်လည်းမရှိ။ သို့သော် သာဓနသဒ္ဒါ ဟောနိုင်သော အနက်တို့ကိုဖော်ပြရာ၌ သိဒ္ဓိပုဒ်ကို ပြီးစီးခြင်းဟူ၍ အနက်ပေးထားကြပါသည်။

မြန်မာအဘိဓာန်ကျမ်း၌ " သိဒ္ဓိ- ပြီးခြင်း၊ သိဒ္ဓိတင်၊ လက်ဖွဲ့စသည်ကို အစွမ်းထက်အောင် ဆောင်ရွက်သည်။ ချီးမွမ်းသည်၊ အမွမ်းတင်သည်။" ဟုဖွင့်ပြထားသည်။ ထိုကြောင့် သိဒ္ဓိတင်ခြင်းဆိုသည်မှာ စီမံဖန်တီးထားသော ပစ္စည်းကို အစွမ်းထက်အောင်ဆောင်ရွက်သော အလုပ်ကိုဆိုလိုသည်။

သိဒ္ဓိတင်သည် ဆိုရာမှာလည်း ဟိန္ဒူ၊ ဗြာဟ္မဏတို့ကဲ့သို့ ဂါထာမန္တန်ဖြင့် ရွတ်ဆိုခြင်းကိုပင် ဆိုလိုပါသည်။ မြန်မာတို့က မန္တန်ဖြင့်မန်းသည်ဟုခေါ်၏။ လက်ဖွဲ့မန်း၊ ဆီမန်း၊ ရေမန်း-စသည်ဖြင့် အမျိုးမျိုးသော မန်းမှုတ်မှုတို့ကို တီထွင်ပြုလုပ်ကြသည်။ ဤသို့မန်းလိုက်သဖြင့် ရေသည် အစွမ်းထက်သွား၏။ ဆီသည် တန်ခိုးရှိသွား၏။ လက်ဖွဲ့စသည်တို့လည်း အစွမ်းထက်သွားကာ လိုရာသိဒ္ဓိများ ပြီးမြောက်မည်ဟု ယုံကြည်ကြသည်။

ဤကဲ့သို့သော ယုံကြည်ချက်ဖြင့် ဂါထာမန္တန်တို့ကို ကိုယ်တိုင်ရွတ်ဖတ်သရဇ္ဈာယ်၍ သိဒ္ဓိတင် မန်းမှုတ်ကြသည်။ မိမိတို့မလုပ်တတ်ပါက အခြားမန်းမှုတ်တတ်သူတို့ကို မန်းမှုတ်စေ၍ အစွမ်းထက်အောင် ပြုလုပ်ကြသည်။

သိဒ္ဓိတင်သည်ဆိုသော ဂါထာမန္တန်တို့မှာလည်း သက္ကတ၊ ပါဠိ၊ မြန်မာဘာသာတို့ဖြင့် သီကုံးထားခြင်းဖြစ်သည်။ ဂါထာမန္တန်တို့မှာ မိမိတို့လိုအင်ဆန္ဒကို တောင်းဆိုထားသော စာများသာဖြစ်သည်။ ပုံစံအားဖြင့် အောက်ပါအတိုင်း ဖြစ်သည်။

> "မဟိဒ္ဓိကာ၊ ဘေးရန်ကွာ၍၊ ကမ္ဘာမပျက်၊ အာယုဆက်၍
> အသက်ကပ်လုံး တည်စေသော်။
>
> "ခဲဖွယ်ဘောဇဉ်၊ ချိုချဉ်ကစ၊ မွတ်သိပ်လှသော်၊ တောင့်တ
> ချက်ချင်း ရောက်စေသော်။
>
> "အရေးရှိလျှင်၊ အရိပ်ဆာယာ၊ နတ်တကာနှင့်၊ ဝိဇ္ဇာ
> အပေါင်း မစေသော်။

"ဗိုလ်ထုများစွာ၊ ရန်ပြုလာလျှင်၊ ဝိဇ္ဇာဗလ၊ နတ်ကစ၍၊ သိဒ္ဓိ
ဆိုင်ရာ၊ နတ်များစွာက၊ ညီညာဖြဖြ၊ ဝိုင်းအုံကြ၍၊ မစ ပြုပြင်၊
ငါ့ရှစ်သွင်၊ မထင်ချက်ချင်း ပျောက်စေသော်။"

ဤသို့သော မန္တန်စာဖြင့် ရွတ်ဆို၍ သိဒ္ဓိတင်ကြခြင်းသာ ဖြစ်ပေသည်။

ယနေ့ခေတ်တွင် သိဒ္ဓိတင်ခြင်းကို လူကြိုက်များလာသည့်အလျောက် သိဒ္ဓိတင်ပေးသော ပုဂ္ဂိုလ်ကြီးများလည်း ပေါ်ပေါက်နေ၏။ ထိုပုဂ္ဂိုလ်များမှာ အများအားဖြင့် ဂိုဏ်းဆန်ဆန်အလုပ်ကို ပြုလုပ်နေသူများဖြစ်ကြ၏။

ဂိုဏ်းပုဂ္ဂိုလ်ကြီးတို့သည် ပုတီး၊ လက်ဖွဲ့၊ ဓာတ်လုံး စသည်တို့ကို ဦး-ဩောင်း ဂါထာ၊ အဖြာဖြာတို့ဖြင့် ရွတ်ဆို၍ သိဒ္ဓိတင်ပေးကြသည်။ လူတွေကလည်း နာမည်ကြီး ဂိုဏ်းပုဂ္ဂိုလ်ကြီးက ရွတ်ဆိုပေးသမျှကို ကွန်ပျူတာဂဏန်းစက်ကဲ့သို့ အချက်ကျမှန်မည်ဟု ကေန်ယုံကြည်မှုဖြင့် လက်ဝါးလှန်၍ တောင်းခံနေကြကုန်၏။

ယနေ့ခေတ်တွင် ငွေစက္ကူကိုပင် သိဒ္ဓိတင်ပေးသူများရှိနေသည်။ ထိုပုဂ္ဂိုလ်ကြီးက တစ်ကျပ်တန်ငွေစက္ကူကို သိဒ္ဓိတင်၍ လက်ဆောင်ပေးသည်။ ထိုငွေစက္ကူရသူမှာ အားရဝမ်းသာဖြင့် လက်ကိုင်အိတ်ထဲသွင်းကာ သပ်ရပ်စွာသိမ်းဆည်းထားလိုက်သည်။ ပြီးနောက် လက်ကိုင်အိတ်တွင်းမှ ၂၀၀/-တန် ငွေစက္ကူကိုထုတ်၍ ပူဇော်ကန်တော့လိုက်သည်။ လက်တွေ့မှာမူ သိဒ္ဓိတင်ပေးသော ပုဂ္ဂိုလ်အတွက် ၁၉၉-ကျပ် အမြတ်ရသွားပြီ။ တစ်ကျပ်အရင်းဖြင့် ၁၉၉-ကျပ် မြတ်သောအလုပ်မှာ ဘယ်ဖက်စပ်ကုမ္ပဏီလုပ်ငန်းမှ မရှိချေ။

လူတို့သည် ဘဝနှင့် ဘဝခံစားမှုအတွက် အာသာရမ္မက်ပြင်းစွာ လုပ်ကိုင်နေကြသည်။ အာသာရမ္မက်အတွက် ကိုးကွယ်ရာကို ရှာဖွေဆည်းကပ်နေကြသည်။ ယုံကြည်စရာကို ရှာဖွေလက်ခံနေကြသည်။ ယုတ္တိရှိ-မရှိကို အသိဉာဏ်ဖြင့် အမြင်မှန် မရနိုင်ခဲ့ကြပေ။

ဤကဲ့သို့ ယုတ္တိမဲ့ကိုးကွယ်မှုနှင့် ယုံကြည်မှုများကို ထေရဝါဒက ငြင်းပယ်ထား၏။ ထေရဝါဒအမြင်နှင့် ဆန့်ကျင်သည့် ဤယုတ္တိမဲ့ အတွေးအမြင်တို့ကို ထေရဝါဒ ဗုဒ္ဓဒေသနာတော်လာ စကားရပ်တို့ဖြင့် ယှဉ်ကပ်၍ သုံးသပ်ကြပါဦးစို့။

# အခန်း (၃)

## ထေရဝါဒနှင့် ပြင်ပ ယုံကြည်ကိုးကွယ်မှု

အလောင်းတော် သိဒ္ဓတ္ထမင်းသားသည် မဇ္ဈိမပဋိပဒါလမ်းစဉ်ကို ကျင့်သုံးလျက် တရားမှန်ကို ရှာဖွေခဲ့ရာ မဟာသက္ကရာဇ် ၁၀၃-ခု၊ ကဆုန်လပြည့်၊ ဗုဒ္ဓဟူးနေ့တွင် သစ္စာ ၄-ပါးကို သိမြင်၍ ဘုရားအဖြစ်ရောက်ရှိခဲ့သည်။

ဗုဒ္ဓအဖြစ်သို့ ရောက်ပြီးနောက် လူသားတို့၏ဘဝကို သုံးသပ်ကြည့်ရှုခဲ့သည်၊ ထိုအခါ လူသားထုကြီး၏ မှားယွင်းသော လူနေ ဘဝဓလေ့ကြီးကို တွေ့မြင်လာရ၏။ မိမိ၏ ပတ်ဝန်းကျင်ရှိ လူတို့၏ ကိုးကွယ်နေမှုများ၊ ယုံကြည်နေမှုများမှာ မိမိ မြင်သိသော တရားဓမ္မနှင့် ခြားနားလှပေ၏။

ဗုဒ္ဓဘုရားပွင့်ထွန်းလာချိန်တွင် အိန္ဒိယနိုင်ငံ မဇ္ဈိမဒေသ၌ စိတ်အတွေးကို အခြေခံသော ဝါဒမှားများ ထွန်းကားနေလေပြီ။ ဘီစီ ၃၀၀၀-ခန့်က ထူထောင်လာခဲ့သော ဒရာဗီဒီယန်တို့၏ ကိုးကွယ်ယုံကြည်မှုဓလေ့များ၊ ဘီစီ ၂၀၀၀-ခန့်မှစ၍ ထူထောင်လာခဲ့သော အာရိယန်တို့၏ ကိုးကွယ်ယုံကြည်မှု ဓလေ့များမှာ အိန္ဒိယ တစ်ခွင်၌ တွင်ကျယ်နေပြီ၊ ယင်းအင်အားစုကြီးက ကြီးစိုးနေခဲ့ပြီ။

ဗုဒ္ဓဘုရားရှင်သည် လူတို့၏ယုံကြည်ကိုးကွယ်မှု ဓလေ့များကို သုံးသပ်လျက် "လောကကြီးဟာ ပျက်စီးနေပါကလား၊"ဟု ညည်းတွားမိ၏။ မိမိမြင်သိသော တရားဓမ္မတို့ကို ဟောပြလိုစိတ် တွံ့နှေးသွားရသည်။

ဘုရားရှင်၏ တွံ့နှေးတွန့်ဆုတ်နေမှုကို သဟံပတိဗြဟ္မာက မေတ္တာရပ်ခံ၍ တောင်းပန်ခဲ့ရ၏။ ထိုအခါမှ ဘုရားရှင်သည် မိမိမြင်သိသော သစ္စာတရားကို ဟောကြားတော်မူ၏။ မိမိ၏ပတ်ဝန်းကျင်၌ရှိသော ကိုးကွယ်မှုအမှားများ၊ ယုံကြည်မှုအလွဲများကို ထောက်ပြသည်။မှန်ကန်သော လမ်းကြောင်းပေါ်ရောက်အောင် ပို့ဆောင်ပေးလေသည်။

## မြင်ပ ကိုးကွယ်မှု တော်လှန်ရေး

ဗုဒ္ဓဘုရား ပွင့်ပေါ်လာချိန်တွင် အိန္ဒိယဒေသ၌ ရှေးတန်းရောက်နေသော ဝါဒမှာ အတ္တဝါဒဖြစ်သည်။ ဟိန္ဒူ ဗြာဟ္မဏဝါဒအရ အတ္တတရားမှာ ဗြဟ္မာကြီးက ဖန်ဆင်းပေးထားသော အရာဟု လက်ခံနေကြ၏။ ဗြဟ္မာကြီးသည် အထက် ကောင်းကင် တစ်နေရာ၌ရှိသည်။ မအို မသေ အမြဲနေသော ပုဂ္ဂိုလ်လည်း ဖြစ်သည်။ ကမ္ဘာ လောကကြီးနှင့် သက်ရှိသတ္တဝါမှန်သမျှကို ဖန်ဆင်းပေး ထားသည်။ ဗြဟ္မာကြီးသည် လူ၏ခန္ဓာကိုယ်ထဲ၌ ဆိုးလ်၊ ဝိညာဉ်ဟုခေါ်သော အတ္တကလေးကို ဖန်ဆင်းပေး ထားသည်။ ထိုအတ္တကလေးသည် ခန္ဓာကိုယ်ထဲမှာ အမြဲရှိနေပြီး ရုပ်ခန္ဓာပျက်စီးသွားသောအခါ အတ္တကလေးသည်လည်း ရုပ်ခန္ဓာမှ ခွဲခွာသွားပြီး အခြားရုပ်ခန္ဓာထဲသို့ ကူးပြောင်းသွားလေသည်။

ဤအတ္တကလေးသည် မူလဖန်ဆင်းရှင်ဖြစ်သော ဗြဟ္မာကြီးနှင့် ပြန်လည် ပေါင်းစည်းနိုင်ရန်အတွက် ပူဇော်ပသမှု၊ ဝတ်ပြုကိုးကွယ်မှုများ ပြုလုပ်ရသည်။ ဤအယူအဆဖြင့် ဗြဟ္မာကိုးကွယ်မှုဝါဒ ထွန်းကားနေသည်။

ဘုရားရှင်သည် လူသား၏ ခန္ဓာ၌ အတ္တတရားဟူ၍မရှိကြောင်း အတ္တ တရားဆိုသည်မှာ ဘယ်မှာမှ မရှိနိုင်ကြောင်း ရှေးဦးဒေသနာဖြင့် အတ္တဝါဒကို ချေဖျက်ဟောကြားတော်မူသည်။ အတ္တဝါဒကို တော်လှန်သော အနတ္တဒေသနာသည် ဗုဒ္ဓဘုရားရှင်၏ ပွဲဦးထွက်တရားတော်များ ဖြစ်ပေသည်။

ဗုဒ္ဓပွင့်တော်မူစဉ်အတွင်း အိန္ဒိယနိုင်ငံ၏ ကိုးကွယ်မှုရုပ်ပုံလွှာတို့ကို လှစ်ဖွင့် ကြည့်လျှင် အခြားကိုးကွယ်မှုများစွာတို့ကိုတွေ့မြင်ကြရသည်။ ဤကိုးကွယ်မှုများ မှာလည်းရှေးဟောင်းလူတို့စိတ်ကူးဖြင့်ကြံစည်ထားသော သဘာဝကိုးကွယ်မှု ဘာသာ (Nature Worship) ကိုပင် အခြေခံနေပါသည်။

ဘီစီ ၃၀၀၀-ခန့်က ဒရာဗီဒီယန်လူမျိုးတို့က စတင်ခဲ့သော သစ်ပင်၊ တော၊ တောင် စသော ကိုးကွယ်မှုများလည်း ဗုဒ္ဓဘုရားပွင့်သည်အထိ ရှိနေသည်။

ဗုဒ္ဓဘုရားသည် အင်္ဂတိုင်းနှင့် မဂဓတိုင်းအကြားသို့ ရောက်ရှိသွားသည်။ ထိုအချိန်တွင် အဂ္ဂိဒတ္တခေါ်သော ရသေ့တစ်ဦးက သူ့တပည့်တို့အား သစ်ပင်၊ တော၊တောင် စသည်တို့ကို ကိုးကွယ်ကြရန် ဆုံးမနေ၏။ ဗုဒ္ဓဘုရားရှင်သည် အဂ္ဂိ ဒတ္တ၏ ကိုးကွယ်မှုအဆုံးအမကို ဤသို့ချေဖျက် ဟောကြားတော်မူ၏။

"ဘေးကိုထိတ်လန့်သောသူတို့သည် တော၊တောင်၊သစ်ပင်တို့ကို ကိုးကွယ် ရာ ဟူ၍ ဆည်းကပ်ကြကုန်၏။ ထို တော၊တောင်၊သစ်ပင်တို့ကို ကိုးကွယ်ခြင်းသည်

ဘေးကင်းသောကိုးကွယ်ရာမဟုတ်ပေ။ ဤကိုးကွယ်မှုတို့သည် မြတ်သောကိုးကွယ်မှုလည်း မဟုတ်။ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးသာလျှင် ကိုးကွယ်ဆည်းကပ်အပ်၏။ ရတနာသုံးပါးကို ဆည်းကပ်ခြင်းသာလျှင် ဘေးကင်းသော ဆည်းကပ်မှုဖြစ်သည်။ မြတ်သောကိုးကွယ်မှုဖြစ်သည်။"

ထို့နောက် ဗုဒ္ဓဘုရားသည် သစ္စာ ၄-ပါး တရားကို ဆက်လက်ဟောကြားရာ အဂ္ဂိဒတ္တရသေ့နှင့် တပည့်တစ်သောင်းတို့ ရဟန္တာဖြစ်ခဲ့ကြသည်။

ပါရှန်လူမျိုးတို့၏ ဇိုးယိုးအက်စတားဘာသာသည် မီးကို အထွတ်အမြတ်ထားသော ဝါဒဖြစ်၏။ ထိုဝါဒမျိုးသည် အိန္ဒိယ၌လည်း ထွန်းကားနေ၏။

ဗုဒ္ဓဘုရားသည် ဝေဠုဝန်ကျောင်း၌နေစဉ် ရှင်သာရိပုတ္တရာ၏ တူတော်သူ ပုဏ္ဏားတစ်ယောက်သည် မီးနတ်ကို လုပ်ကျွေးပူဇော်နေသူဖြစ်သည်။ ဘုရားရှင်သည် ထိုပုဏ္ဏားကို ဤသို့ဟောကြားဆုံးမတော်မူသည်။

"အကြင်ပုဂ္ဂိုလ်သည် အနှစ်တစ်ရာမျှ မီးကိုလုပ်ကျွေးပူဇော်နေ၏။ အကြင်ပုဂ္ဂိုလ်မှာမူ ဝိပဿနာ ဉာဏ်အမြင်ရှိသော ရဟန်းကို ခဏမျှပူဇော်၏။ ထိုပုဂ္ဂိုလ်နှစ်ဦးတို့တွင် ဉာဏ်အမြင်ရှိသော ပုဂ္ဂိုလ်အား ပူဇော်ခြင်းသည် မြတ်၏၊ မီးကို အနှစ်တစ်ရာ ပူဇော်ခြင်းဖြင့် အကျိုးမရှိ။

အဂ္ဂိဒေဝခေါ် မီးနတ်ပူဇော်မှုသည် သမိုင်းဦးက ကိုးကွယ်မှုဓလေ့တစ်ခုဖြစ်သည်။ ဤကိုးကွယ်မှုများမှာ ဘာမျှအကျိုးမရှိကြောင်း ဇာတ်ဟောင်းများ၌လည်း ဟောကြားပြသခဲ့သည်။

## နင်္ဂုဋ္ဌ ဇာတ်တော်

လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းသည် မင်းပြုလတ်သော် ဘုရားလောင်းသည် ဥဒိစ္စပုဏ္ဏားမျိုး၌ဖြစ်၏။ မိဘတို့သည် ဘုရားလောင်းမွေးသော နေ့မှစ၍ မီးကို သိမ်းဆည်းထားကြသည်။ ထိုမီးကို မငြိမ်းမပျောက်အောင် စောင့်ရှောက်ထားကြလေသည်။

ဘုရားအလောင်း ၁၆-နှစ်အရွယ်ရောက်သောအခါ မိဘတို့က "ချစ်သား၊ သင်မွေးဖွားသော နေ့ကပင် ဒီမီးကို မွေး၍ ထိန်းသိမ်းစောင့်ရှောက်ခဲ့ရသည်။ အကယ်၍ အိမ်မှာနေလိုလျှင် ဗေဒင် ၃-ပုံကို သင်ပါ။ ဗြဟ္မာ့ပြည်ရောက်လိုလျှင်လည်း ဒီမီးကိုယူပြီး တောကိုသွားပါ။ မီးနတ်ကို လုပ်ကျွေးပြီး ဗြဟ္မာကြီးကို နှစ်သက်အောင် ဆောင်ရွက်နေပါတော့" ဟု ပြောကြသည်။

ဘုရားလောင်းသည် အိမ်နေလူသားအဖြစ်မနေလိုသောကြောင့် မိမိအတွက် မွေးယူထားသော မီးကိုယူ၍ တောဝနာသို့ထွက်ခွာလာခဲ့သည်။ တောဝနာ၌နေ၍ မီးကိုမငြိမ်းအောင် ထိန်းသိမ်းပြီး မီးနတ်ကိုပင် လုပ်ကျွေးနေခဲ့သည်။

တစ်နေ့သော် ပစ္စန္တရစ်ရွာက နွားတစ်ကောင်ကို အလှူခံ ရရှိသည်။ ဘုရားလောင်းသည် မိမိရသောနွားကို မီးနတ်အား ပူဇော်ပသလို၏။ သို့သော်လည်း တောထဲမှာဖြစ်၍ ဆားက မရှိ။ ဆားမပါသောဟင်းလျာကို မီးနတ်သခင်အား ဆက်သလျှင် ကျေနပ်မည်မဟုတ်။ ထို့ကြောင့် ဆားရရှိရန် ရွာဆီသို့ ထွက်လာခဲ့သည်။

ဘုရားလောင်းမရှိချိန်တွင် မုဆိုးတစ်သိုက် ရောက်လာပြီးနောက် နွားကို တွေ့၍ သတ်စားသွားကြသည်။ အမြီးနှင့် အရိုးအရေတို့ကိုမူ ထိုနေရာမှာပင် ပစ်ချသွားကြသည်။

ဘုရားလောင်းပုဏ္ဏား ပြန်လာသောအခါ နွားကိုမတွေ့ရတော့။ အမြီးနှင့် အရိုးအရေတို့ကိုသာ တွေ့ရတော့သည်။ ဘုရားလောင်းသည် မိမိ ထိန်းသိမ်းစောင့်ရှောက်ခဲ့ရသော မီးနတ်ဒေဝါကို ကြည့်၍ အသိမှန်ရသွားသည်။

"ဘုန်းရှိသော မီးနတ်မင်းဟာ ကိုယ်စားရမည့် ဥစ္စာကိုပင် မစောင့်ရှောက်နိုင်ဘူး။ငါ့အတွက်ဆိုလျှင် ဘယ်မှာစောက့်ရှောက်နိုင်ပါမည်နည်း။ ဒီမီးကို ဆက်လက်လုပ်ကျွေးနေ၍ အကျိုးမရှိနိုင်ဘူး" ဟု အသိမှန်ရသွားသည်။ထို့ကြောင့် "အို-မီးနတ် ရှင်၊ သင်ဟာ ကိုယ့်ဥစ္စာကိုပင် စောင့်ရှောက်နိုင်သူ မဟုတ်ပါ၊ ယခုချိန်မှာ အမဲလည်း မရှိတော့ပါ၊ သင်နှင့်ထိုက်တန်သည့် ဒီအရိုးအရေနှင့် အမြီးတို့ကိုသာ စားရစ်ပေတော့" ဟုဆိုကာ အမြီးနှင့် အပိုင်းအစတို့ကို မီးထဲသို့ ပစ်ချပြီးလျှင် ထွက်ခွာသွားလေတော့သည်။

ဗုဒ္ဓဘုရားရှင်သည် သစ်ပင်၊ တော၊ တောင်စသော သဘာဝတရားတို့ကို ကိုးကွယ်နေခြင်းဖြင့် အကျိုးမရှိနိုင်ကြောင်း ထုံးဟောင်းသက်သေများဖြင့် ဟောကြား ပြခဲ့ပါသည်။

သို့သော်လည်း လူတို့သည် ယနေ့ထက်တိုင် သစ်ပင်၊ တော၊ တောင်စသည်တို့ကို နတ်အသွင် မှတ်ထင်လျက် ကိုးကွယ်ဆည်းကပ်နေကြသေးသည်။

မြန်မာနိုင်ငံတွင် ရှင်ကြီးပင်ခေါ်သော သစ်ပင်များမှာ သစ်ပင်ကိုးကွယ်မှုကို အခြေခံနေသော ယုံကြည်မှုဖြစ်ပေသည်။ မြန်မာတို့၏ ကျေးရွာများ၌ ရှင်ကြီးပင်ခေါ်သော သစ်ပင်မျိုးစုံကို တွေ့နေရသည်။ ထိုသစ်ပင်သည် လူတို့ကို အန္တရာယ်ပေး

တတ်သည်ဟုဆိုကာ ကြောက်ရွံ့ကြသည်။ အညွှန့်အတက်ကိုပင် မခူးဝံ့ကြ။ အချို့ကမူ သပြေပန်းနှင့် ရေချမ်းများကိုပင် ကပ်တင်ပူဇော်နေကြသေးသည်။ ထိုနတ်သစ်ပင်တို့၏ ဇာတ်လမ်းများလည်း ခပ်ဆန်းဆန်းရှိနေတတ်ကြသည်။

မြန်မာနိုင်ငံတွင် သစ်ပင်ကိုသာမဟုတ်။ တောကိုလည်း ကြောက်ရွံ့နေကြသည်။ တောင်ပေါ်၌လည်း နတ်တင်ထားကြသည်။ပုပ္ပားတောင်ဆိုလျှင် ရှေးခေတ်ကပင် နတ်တောင်ဟူ၍ ထင်ပေါ်လာခဲ့သည်။ မင်းမဟာဂီရိခေါ် နတ်ကြီးက အုပ်စိုးနေခဲ့သည်။ နောက်ပိုင်းတွင် နီဂရစ်တိုမျိုးနွယ် နတ်မ မယ်ဝဏ္ဏက ခေတ်စားလာသဖြင့် မဟာဂီရိနတ်ကြီး တန်ခိုးမှိန်သွား၏။ ယခုချိန်တွင် ပုပ္ပားတောင်ထိပ်၌ နတ်ရုပ်တုပေါင်းစုံကို ထုလုပ်တင်ထားကြရာ နတ်ပြတိုက်ကြီးအလား ထင်ရှားနေလေသည်။

ယနေ့မြန်မာနိုင်ငံတွင် တောင်တိုင်းလောက်မှာပင် ကိုယ့်တောင်နှင့် ကိုယ့်နတ်၊ ကိုယ့်ဇာတ်နှင့်ကိုယ် အသီးသီးရှိနေတတ်ကြ၏။ ကိုယ့်အရပ်နှင့် ကိုယ့်ရှင်ကြီးပင်များ ရှိနေကြ၏။ ကြောက်ရွံ့နေကြဆဲ ရှိသေး၏။ မိဘနှင့်ဆရာသမားကို ပြစ်မှားဝံ့သူတို့သည် ရှင်ကြီးပင်အောက်၌မူ ဖိနပ်ပင် မစီးရဲကြချေ။

ဤနေရာ၌ စဉ်းစားစရာရှိ၏။ နတ်ရှိသောရှင်ကြီးပင်များမှာ အများအားဖြင့် ရပ်နား၊ ရွာနားရှိ သစ်ပင်များသာဖြစ်သည်။ လူနှင့်ဝေးရာ တောကြီးထဲ၌မူ နတ်သစ်ပင်ဟူ၍မရှိ။ နတ်ကိုင်စရာလည်း မရှိ။ နတ်ရှိ၍ နတ်ကိုင်မည်ဆိုလျှင် သစ်ထုတ်လုပ်ရေးဝန်ထမ်းတို့အတွက် ခက်ရချေတော့မည်။

## ထေရဝါဒ အမြင်နှင့် ကယ်တင်ရှင်

ထေရဝါဒ ဒေသနာအစဉ်၌ ကယ်တင်ရှင်ဟူ၍ မရှိ။ ကယ်တင်ပေးနိုင်သူဟူ၍လည်း မရှိပေ။ ဗုဒ္ဓဘုရားကိုယ်တိုင်လည်း လူသားတို့အတွက် ကယ်တင်ရှင်မဟုတ်ခဲ့။ လူသားတို့အတွက် "လမ်းညွှန်သူ"သာဖြစ်လေသည်။

ဗုဒ္ဓဘုရားရှင်က-

"ချစ်သားတို့၊ သင်တို့လွတ်မြောက်မှုအတွက် သင်တို့ကိုယ်တိုင် ကြိုးစားအားထုတ်အပ်၏။ ဘုရားရှင်တို့မည်သည် လမ်းညွှန်ဟောပြောရုံသာ ဟောပြတော်မူနိုင်ကြကုန်၏။" ဟု ဓမ္မပဒဒေသနာ၌ အတိအလင်း ဟောပြထားသည်။

ထို့ပြင် ခန္ဓဝဂ္ဂသံယုတ်၊ အတ္တဒီပသုတ်၌လည်း -

"ရဟန်းတို့၊ မိမိကိုယ်သာ မှီခိုကြလျက်၊ မိမိကိုယ်ကိုသာ အားထားကြလျက်၊

အခြားတစ်ပါးကို အားမကိုးကြဘဲ တရားကိုသာ မှီခိုကြလျက်၊ တရားကိုသာ အားထားကြလျက် အခြားတစ်ပါးကို အားမထားဘဲ နေကြကုန်လော့။"ဟု ဟောကြားတော်မူခဲ့သည်။

ဗုဒ္ဓဘုရားက လူသားတစ်ဦး၏ဘဝကို တရားမွေ့ဖြင့်သာ နေထိုင်ကြရန် ဟောကြားခဲ့သည်။ လူတို့သည် မိမိတို့၏ဘဝကို မိမိတို့ကိုယ်တိုင်သာ ဖန်တီးသည်။ ကိုယ့်ကံ ကိုယ်ပြု၍ ကိုယ့်အမှု ကိုယ်ဆောင်ကြရသည်။ မိမိ၏ဘဝအတွက် ကောင်းမှု၊ ဆိုးမှုကို မိမိကိုယ်တိုင်သာလျှင် ဖန်တီးသည်ဟု ဟောကြား၏။ ကောင်းမှု၊ မကောင်းမှု သဘောတရားများကိုလည်း ဟောကြားပြသ၏။မကောင်းမှု ကို ရှောင်၍ ကောင်းမှုကိုဆောင်ရန်လည်း ညွှန်ကြားသည်။

ကောင်းမှုကိုလုပ်သောသူသည် ကောင်းသောအကျိုးဆက်ကို ဖြစ်စေ၏။ မကောင်းမှုကိုလုပ်သောသူသည် မကောင်းသောအကျိုးဆက်ကို ဖြစ်စေ၏။ ဤသို့လျှင် ကမ္မနိယာမ သဘောတရားဖြင့် ထိန်းကျောင်းလျက် မတိမ်းစောင်းအောင် ဟောပြတော်မူခဲ့လေသည်။

သို့ပါလျက် လူအချို့တို့သည် မိမိ၏ဘဝအတွက် ကယ်တင်ရှင်ကို ရှာမှီးကိုးကွယ်နေကြသည်။ မမြင်ရသော၊မမြင်ဖူးသော၊ကြားဖူးနားဝရှိသောနတ်ဒေဝတာတို့၏ ကူညီမစမှုကို အတွေးစိတ္တဇဖြင့် တောင့်တနေကြ၏။ တောင်းခံနေကြ၏။

မိမိတို့ လူသားအချင်းချင်းလည်း ကယ်တင်နိုင်မည်ဟုထင်သော ပုဂ္ဂိုလ်ကြီးများ၏ မ စမှုကို မျှော်လင့်နေကြသည်။ ဓာတ်ပွင့်အောင်၊ စန်းပွင့်အောင် တောင်းဆိုနေကြသည်။ ကောင်းမှုမင်္ဂလာအဖြာဖြာနှင့် ပြည့်စုံပါစေကြောင်း ရှိခိုးဦးတင်၍ တောင်းဆုပန်ဆင်နေကြသည်။

တကယ်တော့မူ လူသားတစ်ဦး၏ ကောင်းမှု ဆိုးမှုကို လမ်းကြောင်းပြောင်း၍ တိမ်းစောင်းသွားအောင် ဘယ်ပုဂ္ဂိုလ်ကမှ ရွက်ဆောင်မပေးနိုင်ပေ။ ဆုတောင်းပေး၍လည်း မရ။ ဤသဘောတရားကို ဗုဒ္ဓဘုရားရှင်ကလည်း ဟောကြားခဲ့ပါသည်။

ဗုဒ္ဓဘုရားရှင်သည် နာလန္ဒမြို့ ပါဝါရိက သရက်ဥယျာဉ်၌ သီတင်းသုံးနေစဉ် ရွာသူကြီးတစ်ယောက်က လျှောက်ထားခဲ့ဖူးသည်။

'အရှင်ဘုရား၊ ပစ္ဆာဘူမိအရပ်မှာနေသော ပုဏ္ဏားတွေက လူတွေကို နတ်ဘဝ ရောက်အောင် လုပ်ပေးနိုင်သည်လို့ ဆိုပါသည်။ အရှင်ဘုရားကော လုပ်ပေးနိုင်ပါ သလား။'

"ရွာသူကြီး၊ ကျောက်တုံးကြီးတစ်တုံးကို ရေထဲပစ်ချလိုက်ပြီးနောက် လူတွေ

က ဝိုင်းပြီး 'အို-ကျောက်တုံးကြီး၊ ရေပေါ်မှာ ပေါ်ပါလော့၊ ကုန်းပေါ်သို့တက်ခဲ့ပါလော့။' လို့ အကြိမ်ကြိမ်တောင်းဆိုလျှင် ကျောက်တုံးကြီး ပေါ်လာပါမည်လား၊ ကုန်းပေါ်တက်လာပါမည်လား။"

"မပေါ်လာနိုင်ပါ၊ မတက်လာနိုင်ပါ ဘုရား"

"ရှာသူကြီး၊ ထောပတ်အိုးတစ်လုံးကို ရေထဲမှာ ရိုက်ခွဲလိုက်မည်ဆိုလျှင် အိုးခြမ်းကွဲတွေက ရေထဲမှာမြုပ်ပြီး ထောပတ်တွေက ရေပေါ်မှာ ပေါ်နေလိမ့်မည်၊ ဒီအခါမှာ လူတွေက ဝိုင်းပြီး 'ထောပတ်တွေ ရေအောက်နစ်မြုပ်ပါစေ'လို့ ဆုတောင်းကြလျှင် မြုပ်သွားပါမည်လား။"

"မမြုပ်နိုင်ပါဘုရား"။

"ရှာသူကြီး၊ ဒီဥပမာလိုပဲ၊ ကုသိုလ်ကောင်းမှုမလုပ်ဘဲ မကောင်းမှုတွေကို လုပ်နေပြီဆိုလျှင် ကောင်းရာဘဝရောက်ပါစေလို့ ဘယ်လိုပင်ဆုတောင်းသော်လည်း မရနိုင်ဘူး၊ ကောင်းမှုတွေလုပ်နေသူကိုလည်း မကောင်းသည့်ဘဝ ခံရပါစေဆိုလို့ မရဘူး၊ ကောင်းမှုအကျိုးအတိုင်း ကောင်းသောဘဝကို ရရှိမည်သာတည်း။"

ဤဒေသနာတော်ကိုကြည့်လျှင် လူသားတစ်ဦးအတွက် အခြားသူက ကယ်တင်၍ မရနိုင်ကြောင်း၊ ဆုတောင်း၍လည်း မရနိုင်ကြောင်း၊ သူတစ်ပါးက ဆုတောင်းပေး၍လည်း မရနိုင်ကြောင်း၊ မိမိဘဝကို မိမိသာဖန်တီးနိုင်ကြောင်း၊ မိမိကိုယ်ကိုသာလျှင် မိမိကယ်တင်ရှင်ဖြစ်ကြောင်း ရေပြင်မှာ လှေယာဉ်သွားသလို ထင်ရှားလေပြီ။

## ထေရဝါဒနှင့် အတိတ်နိမိတ် ယုံကြည်မှု

ဗုဒ္ဓဘုရားရှင် ပွင့်တော်မူသောခေတ်၌ အိန္ဒိယနိုင်ငံတွင် အတိတ်စွဲ နိမိတ်စွဲစသော အယူအဆများလည်း များပြားလှ၏။ အတိတ်ကောင်း၊ နိမိတ်ကောင်းနှင့် တွေ့ကြုံမှု မင်္ဂလာဖြစ်သည်။ မကောင်းလျှင် အမင်္ဂလာဖြစ်သည်ဟု လက်ခံ ယုံကြည်နေကြ၏။ ဤအယူအဆကို လောကီမင်္ဂလာဟု ခေါ်ကြသည်။ ဤအတိတ်နိမိတ်စွဲလည်း ၃-မျိုးရှိသည်။

(၁) ဒိဋ္ဌမင်္ဂလာ။ ။ အမြင်နိမိတ်ကို စွဲ၍ဖြစ်သော မင်္ဂလာကိုခေါ်သည်။ နံနက်အိပ်ယာမှထလျှင် ပျံလွှားငှက်၊ မိုးစာငှက်၊ ကိုယ်ဝန်ဆောင်၊ အဖျိုလူပျို၊ အာဇာနည်မြင်း၊ နွားလားဥသဘ စသည်ကိုမြင်လျှင် နိမိတ်ကောင်းသည်ဟု ယူဆကြ၏။ သူတောင်းစား စသည်ကို မြင်ရလျှင်

နိမိတ်မကောင်း၊ အမင်္ဂလာဖြစ်သည်ဟု ယုံကြည်ကြသည်။

(၂) သုတမင်္ဂလာ။ ။ အကြားကိုစွဲ၍ဖြစ်သော အတိတ်နိမိတ်မင်္ဂလာကိုခေါ်သည်။ ဝမ်းမြောက်ဖျော်ရွှင်ဖွယ် အသံကောင်းအဆိုကောင်းကို ကြားရလျှင် အတိတ်နိမိတ်ကောင်း မင်္ဂလာဖြစ်သည်ဟု ယုံကြည်ကြသည်။ ဇီးကွက်မြည်သံကို ကြားရလျှင်လည်း ထို့အတူပင်။ ငိုကြွေးသံ၊ ငှက်ဆိုးထိုးသံတို့ကို ကြားရလျှင် အတိတ်နိမိတ် မကောင်း၊ အမင်္ဂလာဖြစ်သည်ဟု ယုံကြည်ကြသည်။

(၃) မုတမင်္ဂလာ။ ။ အတွေ့ကိုစွဲ၍ဖြစ်သော အတိတ်နိမိတ်မင်္ဂလာကိုခေါ်သည်။ အနံ့ကောင်း၊ အရသာကောင်း၊ အတွေ့အထိကောင်းများကို ရရှိလျှင် မင်္ဂလာရှိသော အတိတ်နိမိတ်ဟု ယုံကြည်သည်။ အနံ့ဆိုး၊ အရသာဆိုး၊ အတွေ့အထိဆိုးတို့ကိုတွေ့ရလျှင် နိမိတ်မကောင်းသော အမင်္ဂလာဟု ယုံကြည်ကြသည်။ အိန္ဒြိယအယူဝါဒအရဆိုလျှင် ဇာတ်နိမ့်သော ဒွန်းစဏ္ဍားတို့၏ ကိုယ်နှင့်ထိမိလျှင်ပင် အမင်္ဂလာအမှုဟူ၍ ယုံကြည်ကြသည်။

လူတို့၏ရက်ရာဇာ၊ ပြဿဒါး၊ လာဘ်နေ၊နတ်နေ၊ နက္ခတ်ကောင်း၊ မကောင်းစသော အယူအဆများမှာလည်း ထိုအတိတ်နိမိတ်စွဲ မင်္ဂလာယုံကြည်မှု၌ ပါဝင်ကြသည်။

ဗုဒ္ဓဘုရားသည် ဤကဲ့သို့ အတိတ်နိမိတ်စွဲ မင်္ဂလာတို့ကို အလေးထား၍ မယုံကြည်အပ်ကြောင်း နောက်ကြောင်းဖြစ်ရပ် ဇာတ်ဒေသနာအဖြာဖြာဖြင့် ဟောပြခဲ့ပါသည်။

ဗာရာဏသီပြည်မှ မိဘနှစ်ပါးတို့သည် သားအတွက် ဇနပုဒ်မှ အမျိုးသမီးတစ်ဦးကို တောင်းယူရန် ရက်ချိန်းပေး၍ သတ်မှတ်ခဲ့ကြ၏။ အမျိုးသမီး၏ မိဘများကလည်း သဘောတူလက်ခံထားကြသည်။ ရက်ချိန်းပေးပြီးမှ အာဇီဝကတက္ကတွန်းကို သွားမေးရာ ထိုရက်မှာ နက္ခတ်ကောင်းသောရက်မဟုတ်ကြောင်းပြောသည်။

ထို့ကြောင့် သားရှင်တို့သည် ချိန်းဆိုသောရက်မှာ မသွားကြဘဲ နောက်ရက်သို့ ရွှေ့ဆိုင်းနေကြ၏။ ဇနပုဒ်မှ သမီးရှင်များကမူ ချိန်းဆိုသည့်နေ့၌ စောင့်ဆိုင်းနေကြ၏။ အချိန်ကုန်၍ မလာသောကြောင့် အခြားယောကျ်ားလေးတစ်ဦးနှင့် ပေးစားလိုက်ကြသည်။ ဤဖြစ်ရပ်ဇာတ်ကြောင်းကို အခြေခံ၍ ဗုဒ္ဓဘုရားက-

"နက္ခတ်ကောင်း၊ အချိန်ကောင်းကို စောင့်ဆိုင်းနေသည့် အသိဉာဏ်မရှိသူကို လိုအပ်သောအကျိုးတရားသည် နီးကပ်လာပြီးမှ ကျော်လွန်သွားတတ်၏။ လိုအပ်သောအချိန်၌ လိုအပ်သောအလုပ်ကို လုပ်ဆောင်ခြင်းသည် အချိန်ကောင်း၊ နက္ခတ်ကောင်းပင်ဖြစ်၏။ ကောင်းကင်က နက္ခတ်တာရာတို့သည် ဘယ်အကျိုးကို ဖြစ်စေနိုင်ပါမည်နည်း။"

ဟု နေ့ကောင်းရက်သာရွေးသူတို့အတွက် အမှန်တရားကို မြွက်ကြားပြခဲ့သည်။

အတိတ်စွဲ၊ နိမိတ်စွဲနှင့် ပတ်သက်၍လည်း ဗုဒ္ဓဘုရားရှင်က ချေဖျက်ဟောကြားခဲ့ပါသည်။ ဘုရားရှင်လက်ထက်ကလည်း ပုထုဇဉ်ရဟန်းတို့သည် အတိတ်နိမိတ်စွဲ ယုံကြည်မှုများ ရှိနေကြဟန်တူပါသည်။ ထို ကိစ္စနှင့်ပတ်သက်၍ သမ္မာပရိဗ္ဗာဇနီယသုတ်၌-

"ကာမဂုဏ်တို့ကို ပယ်စွန့်ပြီး လူ့ဘောင်မှထွက်လာသည့် ရဟန်းတို့မှာ ဘယ်ကဲ့သို့ ကောင်းစွာကျင့်သုံး နေရပါမည်နည်း။" ဟု မေးသည်။

ထိုအခါ ဘုရားရှင်က ဤသို့ဖြေကြားတော်မူ၏။

"အကြင်ရဟန်းသည် ကောင်းကျိုးရကြောင်း နိမိတ်ကောင်းဖြစ်သည်ဟု စွဲလမ်းယုံကြည်သည့် လောကီဆိုင်ရာ မင်္ဂလာတို့ကို အရိယမဂ်ဖြင့် ကောင်းစွာပယ်ပြီးပြီ။ မိုးကြိုးပစ်ခြင်း၊ လောင်မီးကျခြင်းစသော ဘေးဥပဒ်ဆိုင်ရာ အယူအစွဲ၊ သက်ရှိသက်မဲ့ အသုံးအဆောင်ပစ္စည်းတို့၏ လက္ခဏာဆိုင်ရာ၊ အယူအစွဲတို့ကိုအရိယမဂ်ဖြင့် ကောင်းစွာပယ်ပြီးပြီ။ ထိုရဟန်းသည် မင်္ဂလာနှင့်စပ်သောအပြစ်ဟူသမျှ ပယ်ပြီးဖြစ်လေတော့သည်။ ထိုရဟန်းသည် လောက၌ ကောင်းစွာ ကျင့်သုံး နေနိုင်ပါပေသည်။

ဗုဒ္ဓဘုရားသည် ဤကဲ့သို့အတိတ်စွဲ နိမိတ်စွဲယုံကြည်မှုများကိုလည်း ချေဖျက်ဟောကြားပါသည်။ ဤယုံကြည်မှုများမှာ လူသားတို့၏ စိတ္တဇအတွေးဖြင့် သတ်မှတ်ယုံကြည်နေသော ဖန်တီးမှုများသာဖြစ်သည်။ လက်ငင်းလက်တွေ့မကျသော ယုံကြည်မှုများ ဖြစ်သည်။ ထိုအတွေးယုံကြည်မှုများမှာ ဘာမျှအဓိပ္ပာယ်မရှိ၊ လူ၏စိတ်ကို နှမ်းညစ်စေသော ယုံကြည်မှုများသာဖြစ်၍ ပယ်မြစ်နေထိုင်ကြရန် ဟောကြားခြင်းဖြစ်သည်။ ဤသိုပယ်မြစ်နေနိုင်ပြီဆိုလျှင် စိတ်ကိုနှောင်ချုပ်ထားသော တရားများမှလည်း လွတ်မြောက်ပြီ။ စိတ်၏လွတ်လပ်မှုကို ရရှိသွားပြီ။

ဗုဒ္ဓဘုရားသည် မိမိကိုယ်တိုင်လည်း စိတ္တဇအတွေးဖြင့် ဖန်တီးထားသော အတိတ်နိမိတ်စွဲတို့ကို တော်လှန်ပြခဲ့သည်။ ကိုယ်တိုင်ကျင့်သုံးပြခဲ့သည်။

## နိမိတ်စွဲဆန့်ကျင်ရေး ဇာတ်တော်များ

ရာဇဂြိုဟ်ပြည်၌ ပုဏ္ဏားတစ်ယောက်သည် အတိတ်နိမိတ်ကို မင်္ဂလာဟု ယုံကြည်နေသူဖြစ်သည်။ ရတနာ ၃-ပါးကိုမူ မယုံကြည်။ မိစ္ဆာအယူကို ကျင့်သုံးနေသူတည်း။

တစ်နေ့သ၌ ပုဏ္ဏား၏အဝတ်သေတ္တာထဲသို့ ကြွက်ဝင်၍ကိုက်ထား၏။ ပုဏ္ဏားသည် ရေချိုး ခေါင်းလျှော်ပြီး၍ အဝတ်လဲရန် အယူခိုင်းသည်။ ထိုအခါမှ အဝတ်များကို ကြွက်ကိုက်ထားကြောင်း သိရှိရသည်။

ပုဏ္ဏားသည် ကြွက်ကိုက်သော အဝတ်တို့ကို ကြည့်၍ "ကြွက်ကိုက်သည့် အဝတ်ကို ဒီအိမ်မှာထားလျှင် ပျက်စီးတော့မည်။ မင်္ဂလာမရှိတော့ဘူး၊ နိမိတ်မကောင်းတော့ဘူး၊ နိမိတ်မကောင်းသည့်အဝတ်တွေကို သားသမီးတွေ၊ အစေခံတွေ ပေးလျှင်လည်း သူတို့ပျက်စီးကုန်တော့မည်။ အဝတ်တွေကို သုသာန်သွားပြီး ပစ်ခိုင်းရမည်"ဟု ကြံစည်မိသည်။

ဤအဝတ်တွေကို အစေခံတို့အား လွှင့်ပစ်ခိုင်းရန်လည်း မဖြစ်။ အဝတ်တွေက အကောင်းစားတွေဖြစ်၏။ အချို့အဝတ်တွေက သုံး၍ကောင်းသေးသည်။ အစေခံတွေက လွှင့်မပစ်ဘဲ သိမ်းဆည်းသွားလျှင် ပျက်စီးကုန်ကြတော့မည်။ ထို့ကြောင့် မိမိသားကိုပင် ပစ်ခိုင်းရသည်။

"ချစ်သား၊ ဒီအဝတ်တွေကို လက်နှင့်မထိစေနှင့်၊ လှင်ကန်(တုတ်ချောင်း)နှင့် ကော်ယူသွားပါ။ သုသာန်မှာ ပစ်ထားခဲ့ပါ။ ငါသားလည်း ဦးခေါင်းလျှော်ပြီးမှ အိမ်ကို ပြန်လာပါ။"

ဤဖြစ်စဉ်ကိုသိသော ဗုဒ္ဓဘုရားရှင်သည် သုသာန်သို့ သွား၍ ပုဏ္ဏား၏ သားအလာကို စောင့်ကြိုနေသည်။

ပုဏ္ဏားကြီး၏သားလည်း အဝတ်တွေကို လှင်ကန်ဖြင့်ကော်၍ သုသာန်သို့ ရောက်ရှိလာ၏။ အသင့်စောင့်နေသော ဘုရားရှင်နှင့် တွေ့ကြသည်၊ ဘုရားရှင်က "အသင်လုလင်၊ ဘာကြောင့် သုသာန်သို့ လာသနည်း။" ဟုမေးသည်။

"အရှင်ဘုရား၊ တပည့်တော်တို့အိမ်မှာ အဝတ်တွေကြွက်ကိုက်ခံရပါသည်။ နိမိတ်မကောင်းတော့ပါ၊ ဒီပစ္စည်းတွေကို အိမ်မှာထားလျှင် ပျက်စီးတတ်ပါသည်။ ဒါကြောင့် ကြွက်ကိုက်အဝတ်တွေကို စွန့်ပစ်ဖို့ လာခဲ့ပါသည် 'ဟု ဖြေသည်။

ထို့နောက် ပုဏ္ဏား၏သားက အဝတ်တွေကိုလွှင့်ပစ်လိုက်သည်။ဘုရားရှင်သည် စွန့်ပစ်လိုက်သော အဝတ်တွေကို ကောက်ယူသိမ်းဆည်း၍ ဝေဠုဝန်

ကျောင်းသို့ ပြန်သွားလေတော့သည်။

ပုဏ္ဏားသားသည် ဤထူးဆန်းသောဖြစ်ရပ်ကို ဖခင်ပုဏ္ဏားကြီးအား ပြန်ပြောသည်။ ပုဏ္ဏားကြီးသည် ဗျာပျာသလဲဖြစ်ကာ "ရဟန်းဂေါတမဟာ ပျက်စီးတော့မည်၊ အမြန်သွားပြီး အဝတ်သစ်နှင့် လဲပေးမှ သင့်လိမ့်မည်" ဟုဆိုကာ အခြားအဝတ်သစ်တို့ကို ယူ၍ ဝေဠုဝန်ကျောင်းသို့ လိုက်လာသည်။

"အရှင်ဂေါတမ၊ ကြွက်ကိုက်သည့်အဝတ်တွေကို ထားလျှင် အရှင်ဘုရားရော ကျောင်းတိုက်ပါ ပျက်စီးပါလိမ့်မည်။ မထားပါနှင့်။ သင်္ကန်းအတွက် မလုံလောက်လျှင် ဒီအဝတ်သစ်တွေကိုယူပြီး သင်္ကန်းချုပ်ဝတ်ပါ။ ကြွက်ကိုက်တာတွေကို အခုချက်ချင်း စွန့်ပစ်လိုက်ပါ၊" ဟု လျှောက်သည်။

ထိုအခါမှ ဗုဒ္ဓဘုရားရှင်သည် ပုဏ္ဏားသားအဖအား မင်္ဂလဇာတ်တော်ကို ဟောကြားတော်မူ၏။ မင်္ဂလဇာတ်အဆုံးတွင် ပုဏ္ဏားအား ဤသို့ဟောပြပါသည်။

"ပုဏ္ဏားကြီး၊ ရဟန္တာပုဂ္ဂိုလ်တို့ဟာ လောကီမင်္ဂလာတို့ကိုလည်းကောင်း၊ နေကြတ်၊ လကြတ်၊ နက္ခတ်ကြတ်၊ ဥက္ကာကျ၊ အရပ်မီးလောင်ခြင်းစသော ဥပဒ်တို့ကိုလည်းကောင်း၊ အထူးထူးသော အိပ်မက်ဆိုင်ရာ အတိတ်နိမိတ်တို့ကိုလည်းကောင်း၊ လက္ခဏာဖတ်သော အလုပ်ကိုလည်းကောင်း ပယ်ဖြတ်ထားကြပြီ။ ရဟန္တာတို့သည် လောကီမင်္ဂလာနှင့် အတိတ်နိမိတ်စွဲတို့ကို လွန်မြောက်နေကြပြီ။ အစွဲအလမ်းကို ပယ်ဖြတ်ပြီးပြီ။ အယုတ်ဆုံးအားဖြင့် ဤလောကကိုပင် အစွဲမရှိကြတော့ပြီ။"

ပုဏ္ဏားသားအဖသည် ဘုရားရှင်၏ တရားတော်ကို နာကြားရသဖြင့် သောတာပတ္တိဖိုလ်သို့ ရောက်ရှိသွားကြတော့သည်။

ဘုရားရှင်လက်ထက်က သန်လျက်ကိုနမ်း၍ နိမိတ်ဖတ်သော ဖြစ်ရပ်ဆန်းဇာတ်လမ်းတစ်ပုဒ်လည်း ရှိသည်။ ကောသလမင်းကြီးမှာ သန်လျက်၏ နိမိတ်လက္ခဏာကိုဖတ်သော ပုဏ္ဏားတစ်ယောက်ရှိသည်။ ပန်းပဲဆရာတို့သည် သန်လျက်ကို ပြုလုပ်၍ ဘုရင့်ထံဆက်သောအခါတွင် ထိုပုဏ္ဏားက သန်လျက်ကိုနမ်း၍ နိမိတ်ဖတ်လျှောက်သည်။ ပုဏ္ဏားသည် မိမိအားလာဘ်ထိုးထားသော ပန်းပဲဆရာတို့၏ သန်လျက်ဆိုလျှင် 'ဒီသန်လျက်ကို သုံးစွဲလျှင် ဘုန်းကံကြီးမည်၊ မင်္ဂလာရှိမည်။' စသည်ဖြင့် အမွှမ်းတင်၍ နိမိတ်ဖတ် ဟောပြောလေ့ရှိ၏။ အကယ်၍ လာဘ်ထိုးမထားခဲ့လျှင် "ဒီသန်လျက်က မင်္ဂလာမရှိ" ဟု ဆိုကာ ကဲ့ရဲ့ပြောကြားလေ့ရှိသည်။

တစ်နေ့သောအခါ ပုဏ္ဏား၏အပြုအမူကို မကျေနပ်သော ပန်းပဲဆရာ

တစ်ဦးက သန်လျက်အိမ်ထဲ၌ နူးညံ့သည့် ငရုတ်သီးမှုန့်ကို ထည့်၍ဆက်သည်။ ပုဏ္ဏားသည် သန်လျက်ကိုထုတ်ယူ၍ ရုတ်တရက်နမ်းလိုက်ရာ နှာခေါင်းထဲသို့ ငရုတ်မှုန့်များ ဝင်သွားပြီး ချေဆတ်လိုက်၏။ ပုဏ္ဏားကြီးသည် သန်လျက်သွားနှင့် ခတ်မိသောကြောင့် နှာခေါင်းပြတ်သွားရသည်။ သူတစ်ပါးအတွက် နိမိတ်ဖတ်သော ပုဏ္ဏားကြီးသည် မိမိနှာခေါင်း ပြတ်မည့်ကိစ္စကိုမူ ဘယ်အတိတ်နိမိတ်မှ ပြခဲ့ဟန် မတူချေ။

## ထေရဝါဒ ဗုဒ္ဓဘာသာမူ ၅-ရပ်

ဗုဒ္ဓဘုရားရှင်သည် စိတ္တဇအတွေးဖြင့် ဖန်ဆင်းကိုးကွယ်ယုံကြည်နေသော လုပ်ငန်းရပ်များကို အခါမလပ် ချေဖျက်ဟောကြားတော်မူ၏။ ထိုကိုးကွယ်မှုတို့ကြောင့်လည်း ဘာမျှ အကျိုးတရားမရနိုင်ကြောင်း သက်သေပေါင်းများစွာဖြင့် ဟောကြားတော်မူသည်။

> ဗုဒ္ဓဘုရား၏ ဘာသာတရားတော်ကို သက်ဝင်ယုံကြည်၍ ဗုဒ္ဓ၏ ဥပသကာအမည်ခံသော ဗုဒ္ဓဘာသာဝင်တို့သည် အထင်စွဲအာရုံ၊ ကိုးကွယ်မှုအဖုံဖုံတို့ကို စွန့်လွှတ်နိုင်ကြရပါမည်။ အတွေးစွဲအလီလီ၊ ယုံကြည်မှုအရပ်ရပ်တို့ကိုလည်း ပယ်သတ်နိုင်ကြရပါမည်။

ဤပြင်ပကိုးကွယ်မှုနှင့် ယုံကြည်မှုများကို မပယ်သတ်နိုင်သေးလျှင် ဗုဒ္ဓဘုရားရှင် လိုလားသော ဥပါသကာ၊ ဥပါသိကာဂုဏ်ကို အပြည့်အဝ မရနိုင်ပေ။ စင်ကြယ်သန့်ရှင်းသော ဗုဒ္ဓဘာသာဝင်ဟု မဆိုနိုင်သေးချေ။

ဗုဒ္ဓဘုရားရှင်သည် မိမိ၏ဘာသာတရားတော်ကို သက်ဝင်ယုံကြည်သော ဥပါသကာ အစစ်ဖြစ်ရေးအတွက် ဥပဒေသ ၅-ချက်ကို စံပြုသတ်မှတ်ထားသည်။ ယင်းတို့မှာ-

(၁) ယုံကြည်မှုသဒ္ဓါတရား ရှိရမည်။
(၂) စောင့်ထိန်းမှုသီလ ရှိရမည်။
(၃) ကောတုဟလမင်္ဂလာကို မယုံကြည်ရ။
(၄) ကံကိုသာ ယုံကြည်သူ ဖြစ်ရမည်။
(၅) သာသနာတော် ပြင်ပကိုးကွယ်မှုကို မရှာမှီးရ

ဟူ၍ ဖြစ်ပါသည်။

(၁) ယုံကြည်မှုသဒ္ဓါတရားဆိုသည်မှာ ဗုဒ္ဓ၊ ဓမ္မ၊ သံဃတို့၌ အပြည့်အဝ

ယုံကြည်သူကို ဆိုလိုပါသည်။

(၂) စောင့်ထိန်းမှုသီလမှာ ဗုဒ္ဓဘာသာက သတ်မှတ်ထားသော ကိုယ်ကျင့် သီလကို စောင့်ထိန်းသူဖြစ်ရပါမည်။

(၃) ကောတုဟလမင်္ဂလာဆိုသည်မှာ ရက်ရာဇာ၊ ပြဿဒါး၊ နေကြတ်၊ လကြတ် စသော စိတ်ကူးယဉ်အတွေးတို့၌ ယုံကြည်နေမှုကို ဆိုလိုပါသည်။

(၄) ကံကိုသာ ယုံကြည်ခြင်းဆိုသည်မှာ ဒသဝတ္ထုက ကမ္မဿကတာ သမ္မာ ဒိဋ္ဌိအမြင်နှင့် ပြည့်စုံရမည်။ မိမိ၏ ကံနှင့် ကံ၏အကျိုးဆက်ကိုသာ ယုံကြည်ရမည်။ အခြားယုံကြည်မှုများကို မယုံကြည်ရဟု ဆိုလိုသည်။

(၅) သာသနာတော်မှ အပဖြစ်သော ကိုးကွယ်မှုများ၊ သာသနာ့ပြင်ပမှ အလှူခံပုဂ္ဂိုလ်တို့ကို ရှာမှီး၍ မဆည်းကပ်ရပါ။ နတ်၊ သိကြား၊ ဗြဟ္မာ၊ ဂြိုဟ်နတ်၊ ထွက်ရပ်ပေါက်၊ ဘိုးတော်၊ မယ်တော်၊ ဝိဇ္ဇာ စသော သာသနာ့ပြင်ပ ကိုးကွယ်မှု များကို ရှောင်ရှားရမည်ဟု ဆိုလိုပါသည်။

**အချင်း ထေရဝါဒ ဗုဒ္ဓဝါဒီ ဥပါသကာ ဥပါသိကာတို့၊ သင်တို့သည် ဗုဒ္ဓအလို ကျ ဝဏ်မြောက်သော ဥပါသကာ (ယောကျ်ား) အစစ်ဖြစ်ပြီလော။ ဥပါသိကာ (မိန်းမ) အစစ်ဖြစ်ပြီလော။ ဤမေးခွန်းကိုမူ မိမိတို့ကိုယ်တိုင် ရိုးသားစွာ ဖြေဆိုကြရပေလိမ့်မည်။**

## ယုံကြည်ကိုးကွယ်မှု မှန်ကန်ရေး

မြန်မာနိုင်ငံသည် ထေရဝါဒဗုဒ္ဓဘာသာ သန့်သန့်ကို လက်ခံကိုးကွယ်ခဲ့သည်မှာ နှစ်ပေါင်း ၁၀၀၀-နီးပါး ရှိလေပြီ။ ထိုအတောအတွင်း ထေရဝါဒဗုဒ္ဓဘာသာနှင့် ရောနှော၍ အခြားကိုးကွယ်ယုံကြည်မှုများကိုလည်း အဆင့်နိမ့်နေရာ၌ထား၍ ကိုးကွယ်ယုံကြည်ခဲ့ကြ၏။ ခေတ်အဆက်ဆက် ပျောက်ပျက်သည်ဟူ၍ မရှိခဲ့ပေ။

အချို့ခေတ်များတွင် ဗုဒ္ဓဘာသာ ပြင်ပကိုးကွယ်မှုများ ခေတ်စားသည်၊ အလွန်အကျွံ ဖြစ်သည့် အခါမျိုးလည်းရှိသည်။ ဤကိုးကွယ်မှုများမှာ အများ အားဖြင့် နတ်ကိုးကွယ်မှုများဖြစ်သည်။ထိုအခါမျိုးတွင် တိုင်းပြည်အုပ်ချုပ်သော မင်းများက ထိန်းကျောင်းပေးကြရသည်။

အနော်ရထာမင်းသည် ကိုးကွယ်မှုအမှားများကို သန့်စင်အောင် ဆောင်ရွက် ပေးသော ရှေးဦးမင်းတစ်ပါးဖြစ်သည်။

ဘုရင့်နောင်မင်းတရားလက်ထက်တွင် နတ်ကိုးကွယ်မှုများ ထူပြောနေ၏။

ကျွဲ၊ နွား စသည်တို့ကို သတ်၍ အရက်ဖြင့် နတ်တင်သော နတ်ပွဲကြီးများ ခေတ်စားနေသည်။ ထို့ကြောင့် ဘုရင့်နောင်က ဤအမှုမျိုးကို မပြုလုပ်ရန် မင်းမိန့်ဖြင့် တားဆီးခဲ့ရသည်။

အနောက်ဘက်လွန်မင်းတရားသည် လူတို့ကိုလိမ်ညာနေသော နတ်တို့ကို နှိပ်ကွပ်၍ နတ်ရုပ်ပုံများကို စုဆောင်းပြီး လေးထပ်ကျောင်းကြီး၌ သိမ်းဆည်းခဲ့သည်။

ဟံသာဝတီရောက်မင်းသည် နတ်ကွန်း နတ်အိမ်များကို လူတို့အတွက် အနှောင့်အယှက်ဖြစ်စေသည်ဟုဆိုကာ ဖျက်သိမ်းပစ်ခဲ့ဖူးသည်။

မြန်မာမင်းအချို့တို့သည် ဤသို့သော စိတ္တဇကိုးကွယ်မှုများကို လျစ်လျူရှုမထားဘဲ ထိန်းသိမ်းကွပ်ကဲပေးခဲ့ကြသည်။

မြန်မာစာပေပညာရှင်တို့ကလည်း မှားယွင်းသောကိုးကွယ်မှုနှင့် ယုံကြည်မှုများကို စာပေဖြင့် ရေးသားပြခဲ့ကြသည်။ စာဆိုတော် ရှင်မဟာရဋ္ဌသာရ ဆရာတော်က ကိုးခန်းပျို့ (၄၂) ၌ ဤသို့ဖွဲ့ဆိုပြ၏။

" သက်ခတ်ဂြိုဟ်သွား၊ ဂြိုဟ်စားဂြိုဟ်ပျက်၊ ဓာတ်ရက် မိတ်ရန်၊ သုံးတန်ပေါ်နိစ်၊ဂြိုဟ်အိပ်စန်းကျ၊မူလအာဒိ၊သိရိအဆုံး၊ ပတ်ကုံးရက်ပိုင်း၊ သချိုင်းလေးထောင့်၊ နတ်စောင့်နတ်နေ၊ ရှစ်ထွေအခါ၊ ဗိလာ ကရဏ၊ ပဥ္စတိထိ၊ ယာယီယတြာ၊ ဇာတာအိပ်မက်၊ မပျက်မပြု၊ ထိုအစုကား၊ သိမှုတွေးဆ၊ပညတ်မျှသာ၊ကြောင်းရင်းရှာမူ၊ ကြမ္မာဖြင့်ချည်း၊ ဖြစ်သတည်းဟု၊ ခမည်းယုံစေ၊ စိတ်မသွေလင့်၊ သဗ္ဗေသတ္တာ၊ သတ္တဝါဟု၊ နာနာလောက၊ အနန္တကို၊ ကမ္မဿကာ၊ မှတ်ထင်ရာသည်၊ ယင်းသာ ဘူတဝါဒီတည်း။"

သံဝေဂခန်းပျို့ကိုရေးစပ်သော စာဆိုတော်ကလည်း နတ်ကိုးကွယ်မှု အမှားများကို ဤသို့ရေးသားဖွဲ့ဆိုပြထားသည်။

အခမ်းအနား၊ နတ်ထိမ်းများနှင့်၊ သောက်စားမြူးအော်၊ တကြော်ကြော်ဟစ်၊ နတ်သံပစ်၍၊ မူးယစ်မှိုင်းဝေ၊ အထွေထွေလျှင်၊ လူမည်နတ်ရွာ၊ နတ်မိစ္ဆာကို၊ ကယ်သာထင်မှတ်၊သဘောကပ်၍၊ နတ်လူပြဟ္မာ၊သတ္တဝါကို၊ ကံသာအရင်း၊ ပြဖန်ဆင်းဟု၊ ယူလျှင်းအပ်စွာ၊ ယခုမှာကား၊ ချမ်းသာဆင်းရဲ နတ်ခပဲသည်၊ ပေးမြဲတို့မှာ၊ထင်မှတ်ရာသည်၊မိစ္ဆာ ယူမိယူများတည်း။"

စိန္တကျော်သူဦးဩက ကဝိလက္ခဏာသတ်ပုံကျမ်း၌-

"မိစ္ဆာအားလုံး၊ လွှမ်းပိတ်ဖုံး၊ တောင်ပြုန်းညီနောင်နန်း"- ဟူ၍ နစ်နာအောင် ရေးပြခဲ့ပါသည်။

မန်လည်ဆရာတော်ကြီးကမူ မဃဒေဝလင်္ကာသစ်၌-

"စနေအင်္ဂါ၊ နေ့ရက်ခါနှင့်၊ တာရာဂြိုဟ်မျိုး၊ ကောင်းကင်မိုးက၊ ဖြစ်ကျိုးယုတ်မြတ်၊ ဘယ်ပြုတတ်လိမ့်၊ နက္ခတ်ချိန်သင့်၊ ငံ့လင့်ကုန်ကြ၊ လူဗာလတို့၊ ရအုံ့ချက်ချင်း၊ လက်ငင်းချမ်းသာ၊ လွန်တတ်စွာ၏၊ မိစ္ဆာစွဲနေ၊ မသန်စေနှင့်" - ဟုလည်းကောင်း၊

"ဟူးရားအလို၊ နက္ခတ်ဂြိုဟ်နှင့်၊ ထိုထိုတာရာ၊ မိုးအာကာက၊ ရောင်ဝါနွမ်းညှိုး၊ အောက်လူမျိုးအား၊ ဖြစ်ကျိုးတစ်၊ ဘယ်ပြုဘိအံ့၊"ဟုလည်းကောင်း ရေးဖွဲ့ပြခဲ့သည်။

ဆရာတော်ကြီးကပင် "သုခဒုက္ခ၊ ကြောင်းမူလကို၊ ကမ္မတရား၊ နှစ်ပါးဖြင့်သာ၊ ကျမ်း၌လာ၏၊" ဟု ကံသာမူလ ပဓာနဖြစ်ကြောင်း ရေးသားခဲ့သည်။

ထို့ကြောင့်ထေရဝါဒ ဗုဒ္ဓဝါဒီတို့သည် ဗုဒ္ဓဘုရားဟောကြားသော ကံသာပဓာန အလုပ်ဝါဒဖြင့် ကြိုးစားအားထုတ်အပ်၏။ အမိဗုဒ္ဓဘာသာကို ကျော်၍ ဒွေးတော်လွမ်းသော ယုံကြည်ကိုးကွယ်မှုများကို ရှောင်ရှားအပ်ကုန်၏။

" အို- ထေရဝါဒဗုဒ္ဓဘာသာဝင် သူတော်စင်တို့၊ ယနေ့မှစ၍-

- စိတ္တဇ အတွေးဓာတ်ဖြင့် ဆည်းကပ် ကိုးကွယ်မှုများ
- ယုတ္တိမဲ့စနစ်စုံဖြင့် ယုံကြည်နေမှုများ-

ကို သင်တို့၏စိတ်အာရုံမှ ဖယ်ထုတ်ကြကုန်လော့။ ထေရဝါဒဗုဒ္ဓဘာသာ ဝဏ်ဆောင် ထွန်းပြောင်သော ပုဂ္ဂိုလ်များဖြစ်အောင် ကြိုးစားအားထုတ်ကြပါကုန်လော့။"

## နိဂုံး

ဤတွင် 'ထေရဝါဒ ဗုဒ္ဓဘာသာ'စာအုပ်ကို နိဂုံးချုပ်ရပါတော့မည်။ ဤစာအုပ်တွင် ထေရဝါဒ ဗုဒ္ဓဘာသာနှင့် ထေရဝါဒ ဗုဒ္ဓဘာသာ၌ရောနှောနေသော ကိုးကွယ်မှုအလီလီ၊ ယုံကြည်မှုအဝဝတို့ကို မီးမောင်းထိုးပြခဲ့ပါ၏။

ယနေ့မြန်မာနိုင်ငံတွင် ထေရဝါဒ ဗုဒ္ဓဘာသာထဲ၌ ထေရဝါဒနှင့် မစပ်ဆိုင်သော စိတ္တဇလုပ်ငန်းရပ်များ စိမ့်ပျံ့စူးဝင်လျက် ရှိနေသည်။ မှွန်းမိုက်အောင်မှိုင်းတိုက်သူတို့လည်း ရှိနေသည်။

မြန်မာနိုင်ငံသည် ထေရဝါဒ ဦးဆောင်နိုင်ငံ ဖြစ်နေ၏။ မြန်မာနိုင်ငံသည် ဗုဒ္ဓဘာသာ လူနေမှုဘဝကို လေ့လာစရာ စံပြနိုင်ငံလည်း ဖြစ်သည်။ မြန်မာနိုင်ငံရောက် တိုင်းတစ်ပါးသားတို့သည် ဗုဒ္ဓဘာသာ လူနေမှုဘဝကို လေ့လာရာ၌ ဗုဒ္ဓဘာသာ လူနေမှုဘဝသည် စိတ်ကူးယဉ် လူနေမှုဘဝဖြစ်သည် ဟူ၍ ဆုံးဖြတ်သတ်မှတ်သွားနိုင်ပါသည်။ အမျိုးဂုဏ်၊ ဇာတိဂုဏ်၊ ဗုဒ္ဓဘာသာ၏ဂုဏ်ကို ထိခိုက်စေနိုင်ပါသည်။ ထို့ကြောင့် -

- ဗုဒ္ဓဘာသာ၏ဂုဏ်ကို မထိခိုက်စေရေး
- ဗုဒ္ဓဘာသာဝင်တို့၏ဂုဏ်ကို မထိခိုက်စေရေး
- မြန်မာနိုင်ငံ၏ဂုဏ်ကို မထိခိုက်စေရေး-

တို့အတွက် အဘက်ဘက်မှ ဝိုင်းဝန်းကာဆီးရန် အချိန်တန်ခဲ့ပြီ။ သို့ဖြစ်၍ အောက်ပါကဗျာစာပိုဒ်ဖြင့် တပ်လှန့်၍ နိဂုံးကမ္ပတ် အဆုံးသတ်လိုက်ရပါတော့သည်။

မြတ်ဗုဒ္ဓ၏-
ဓမ္မအနှစ်၊ တရားစစ်တို့
နွမ်းညစ်သေးသိမ်၊ မမှေးမှိန်ခင်
အလိမ်အညာ၊ မှားမိစ္ဆာတို့
များစွာထောင်သောင်း၊ အားမကောင်းခင်
ဘက်ပေါင်းစုံမှ၊ နည်းလမ်းချ၍
ဝါဒမှားယွင်း၊ အမိုက်သင်းကို
ပယ်ရှင်းချေမှုန်း၊ ပပျောက်သုဉ်းဖို့
အားလုံး တာဝန် ရှိသည်တကား။

(အမှတ်-၇၃၊ ဓမ္မရံသီမဂ္ဂဇင်း၊ ချမ်းမြေ့သာရ၏ ကဗျာမှ)

ရေစကြို အရှင်သေီက

## ကိုးကားစာစု စာရင်း

၁။ ကလျာဏီကျောက်စာ (မြန်မာပြန်) - တောင်တွင်းဆရာတော်
၂။ ကပ္ပပြဿနာ - ဆရာတော် ရှင်ဥက္ကဋ္ဌ
၃။ ကမ္ဘောဇသမိုင်း အခြေပြ - ဦးမောင်မောင်ကြီး
၄။ စတုဓမ္မသာရ ကိုးခန်းပျို့ - ရှင်မဟာရဋ္ဌသာရ
၅။ စာပေနှင့် ယဉ်ကျေးမှု - ဒဂုန် ဦးလှဘေ
၆။ တတိယအကြိမ် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့၏ အစီရင်ခံစာ - သာသနာရေးဦးစီးဌာန
၇။ ထေရဝါဒ ဗုဒ္ဓဘာသာ စစ်တမ်း - အရှင်ပညိန္ဒာဘိဝံသ
၈။ ဓမ္မပဒ ပါဠိတော်နိဿယ - သင်္ဂဇာဆရာတော်
၉။ နိုင်ငံရေး ဓမ္မကထိက နယဒီပနီ - ဇေယျဝတီ ဦးသီလာစာရ
၁၀။ ပခုက္ကူ အဘိဓာန်နိဿယသစ် - အရှင်ကေလာသ
၁၁။ ပါရာဇိကဏ် အဋ္ဌကထာနိဿယ - ရွှေဥမင်ဆရာတော်
၁၂။ ပိဋကတ်တော်လာ စိတ်တန်ခိုးနှင့် အကြားအမြင် - ရှင်ရာဟုလာ
၁၃။ ပျူဖတ်စာ - သီရိပျံချီ ဦးသာမြတ်
၁၄။ ပြည်ထောင်စုမြန်မာနိုင်ငံသမိုင်း - ဒေါက်တာကျော်သက်
၁၅။ ဗုဒ္ဓနိုင်ငံတော် - အတွဲ(၂) - အရှင်သံဝရာဘိဝံသ
၁၆။ ဗုဒ္ဓဘာသာကောင်းတစ်ယောက် - သာသနာရေးဦးစီးဌာန
၁၇။ ဗုဒ္ဓဘာသာတရားတော် (အဆင့်မြင့်) - သာသနာရေးဦးစီးဌာန
၁၈။ ဗုဒ္ဓသာသနာတော် ၂၅၀၀-ခရီး - မောင်အုံ
၁၉။ ဗုဒ္ဓသာသနာတော် ဝေါဟာရအဘိဓာန် (A DICTIONARY OF BUDDHIST TERMS) - သာသနာရေးဦးစီးဌာန
၂၀။ ဗုဒ္ဓသာသနာအရောင် အလင်းအမှောင် - ရဲဘော်ထွန်းမြိုင်
၂၁။ ဗုဒ္ဓသာသနိက ပထဝီဝင် - တောင်ပေါက်ဆရာတော်

## ကိုးကားစာစု စာရင်း


| | | |
|---|---|---|
| ၂၂။ | ဘာသာကြီးလေးခု အနှစ်သာရများ | - ညိုသောင်း |
| ၂၃။ | ဘုရားကိုးဆူ ပူဇော်နည်း | - ဆရာဦးစိန်ဖေ |
| ၂၄။ | မယဒေဝလင်္ကာသစ် | - မန်လည်ဆရာတော် |
| ၂၅။ | မိရိုးဖလာလွန် ဗုဒ္ဓဘာသာ | - ဆရာသောင်းလွင်(ဘီအေ) |
| ၂၆။ | မဲခေါင်ရေဆန် (မြန်မာပြန်) | - မောင်နေဝင်း |
| ၂၇။ | မြောက်ပိုင်း ဗုဒ္ဓဘာသာ မဟာယာနဂိုဏ်း | - ဦးဖိုးကျား |
| ၂၈။ | မြန်မာနိုင်ငံတော်သမိုင်း | - ဗိုလ်မှူးဘရှင် |
| ၂၉။ | မြန်မာရာဇဝင် သံခိပ်ကျမ်း | - လယ်တီပဏ္ဍိတ ဦးမောင်ကြီး |
| ၃၀။ | မြန်မာအဘိဓာန် အကျဉ်းချုပ် (၂ ၅) | - မြန်မာစာအဖွဲ့ |
| ၃၁။ | မှန်နန်းရာဇဝင်တော်ကြီး (ပ၊ ဒု) | - ပညာရှင်များ |
| ၃၂။ | ရာဇဝံသ ဓာလိနီကျမ်း | - ဦးဘေ |
| ၃၃။ | ရှေးခေတ်ဟောင်း ကမ္ဘာ့သမိုင်း (ပ၊ ဒု) | - ဦးတင်မောင်ရင် |
| ၃၄။ | ရွှေစည်းခုံ မွန်ကျောက်စာ (မြန်မာပြန် ) | - ဦးဘေမောင်တင် |
| ၃၅။ | လောကီမှတ်ပုံ နည်းမျိုးစုံ | - ဝံသာနု ဦးပိုင် (ထုတ်ဝေသူ) |
| ၃၆။ | သမန္တစက္ခုဒီပနီ (ပ၊ ဒု) | - မုံရွေးဇေတဝန်ဆရာတော် |
| ၃၇။ | သာသနဗဟုဿုတပ္ပကာသနီ | - ဘုရားဖြူဆရာတော် |
| ၃၈။ | သာသနဝံသဒီပနီ | - သီရိသောဘဏမထေရ် |
| ၃၉။ | သာသနာလင်္ကာရစာတမ်း | - မဟာဓမ္မသင်္ကြံ |
| ၄၀။ | သံယုတ်ပါဠိတော် (မြန်မာပြန်)၊ ဒုတိယတွဲ | - သာသနာရေးဦးစီးဌာန |
| ၄၁။ | ၃၇-မင်းနှင့် နတ်မျိုးစုံ | - ဆရာဦးကံမင်း |
| ၄၂။ | အခြေပြ မြန်မာ့နိုင်ငံရေးသမိုင်း | - လမ်းစဉ်ပါတီ |
| ၄၃။ | အနော်ရထာ အရင်က မြန်မာနိုင်ငံ | - ဗိုလ်မှူးဘရှင် |
| ၄၄။ | အပယ်ရတနာ လိုဏ်ဂူဘုရား | - ကျောက်စာဝန် ဦးမြ |
| ၄၅။ | အရှေ့တိုင်း ယဉ်ကျေးမှုပို့ချချက် | - အဆင့်မြင့်ပညာဦးစီးဌာန |
| ၄၆။ | အသစ်မြင် ဗမာ့သမိုင်း | - ဒေါက်တာသန်းထွန်း |
| ၄၇။ | ဥပဂုတ္တထေရ အပဒါန် | - ဓမ္မာစရိယ ဦးခင်မောင်လင်း |
| ၄၈။ | ဧကနိပါတ် ဇာတ်ဝတ္ထု | - ညောင်ကန်ဆရာတော် |
| ၄၉။ | အိမ်ဖြူတော် မန္တန်ပေါင်းချုပ် | - ဒိဗ္ဗစက္ခု ဆရာကျော် |

## ကိုးကွယ်မှုမှားလျှင်

- အန္ဓပုထုဇဉ်၊ ဉာဏ်မယှဉ်ကား
အစဉ်မှားလေ့၊ ထင်သရွေ့ဖြင့်
လျော့မေ့သတိ၊ မရှိပညာ
သဒ္ဓါနည်းပါး၊ အမိုက်အားဖြင့်
တရားမတည်၊ မကျည်မခိုင်
ယိမ်းယိုင်စောင်းငဲ့၊ အယူရွဲ့၍
ဂုဏ်မဲ့တက္ကတွန်း၊ ရဟန်းအလဇ္ဇီ
ကျင့်ဒုဿီနှင့်၊ မညီတရား
သူတို့အားလည်း၊ ဘုရား ရဟန္တာ၊ အရိယာဟု
မိစ္ဆာစွဲငြိ၊ မှီဝဲမိက
အသိကျင့်ချွတ်၊ သုနက္ခတ်သို့
မမြတ်အောက်လျှို၊ ဂတိဆိုး၍
မြန်းညှိုးမယော်ဘိမှုကား။

( မဃဒေဝလင်္ကာသစ်၊ နိဂမခန်း-၄)

ထေရဝါဒ ဗုဒ္ဓဘာသာ သန့်ရှင်းစင်ကြယ်ရေးနှင့်
တည်တံ့ ထွန်းကားရေးအတွက် အစဉ်သဖြင့် ရပ်တည်လာခဲ့သော

# ဓမ္မရံသီ မဂ္ဂဇင်း

အတုအယောင်များဖြင့် လူအများကို လှည့်ဖြားပြီး
ကိုယ်ကျိုးရှာနေသူ လူလိမ်တို့၏ အန္တရာယ်ကို
ဖော်ထုတ်ပြပေးနေသော ဓမ္မရံသီ မဂ္ဂဇင်း

လူကြိုက်များရာနောက်သို့ လိုက်မလုပ်ဘဲ လူအများ အမှန်ကို
ကြိုက်တတ်လာအောင် အစဉ်သဖြင့်ဖော်ပြလာခဲ့သော
ဓမ္မရံသီမဂ္ဂဇင်းကို ဖတ်ပါ၊ လေ့လာပါ၊ ဝေဖန်အကြံပြုပါ။

